ကလေးမကလေးသည် သူငယ်ငယ်က အကြောင်းများကို ကောင်းစွာ မမှတ်မိတော့ဟု ငိုယို၍ပြောပါသည်။ သည်လောက်ပြောလျှင် ကျွန်တော်၌ သေချာပါပြီ။ အခြားသူမဖြစ်နိုင်တော့ပါ။

"ဖုန်းယွမ်က ကလေးမကလေးကို တွေ့၍ ငွေပေးချေသည့်နေ့က ပြန်ပေးသမားသည် အရက်မူးနေပါသည်။ ထိုအခါတွင် ယင်လင်းသည် သက်ပြင်းချကာ ရှေ့လျှောက် ဒုက္ခမြှမ်းတော့မှာပါဟု ပြောပါသည်။ သို့ရာတွင် ဖုန်းယွမ်က ချက်ချင်းမခေါ်သေးဘဲ နောက်သုံးရက်ရှိမှခေါ်မည်ဟု ပြောသည့်အခါတွင် သူ တော်တော် စိတ်ညစ်သွားပါသည်။ ကျွန်တော်သည် စိတ်မကောင်းပါ။ ထို့ကြောင့် ပြန်ပေးသမား အပြင်ထွက်သွားသည့်အခါတွင် ကျွန်တော့်မိန်းမကိုလွှတ်ပြီး ကောင်မလေးကို အားပေးခိုင်းပါသည်။

"ကျွန်တော့်မိန်းမက 'ဖုန်းယွမ်က ညည်းကို သုံးရက်ကြာမှ လာယူမယ်ဆိုတာ တခြားကြောင့် မဟုတ်ဘူး၊ ညည်းကို သားမှတ်မှတ် မယားမှတ်မှတ် အတည်ပေါင်းမှာမို့ နေ့ကောင်းရက်သာကို စောင့်တာ၊ ပြီးတော့ ဖုန်းယွမ်ဟာ လူရိုးလူကောင်း၊ ပိုက်ဆံလဲရှိတယ်။ ဟိုတုန်းကလဲ မိန်းမတွေဘာတွေ လိုက်စားတဲ့လူမဟုတ်ဘူး။ ခုညည်းကို စုံမက်မြတ်နိုးလို့ ငွေစတွေအများကြီးပေးပြီး ဝယ်သွားတာ။ သူ့ဆီရောက်ယင် ဘာမှပူစရာမရှိတော့ဘူး၊ နှစ်ရက်သုံးရက်ကို သည်းခံပြီးစောင့်လိုက်၊ ဘာမှပူမနေနဲ့'ဟု ကျွန်တော့်မိန်းမက ပြောပါသည်။

"ထို့ကြောင့် ယင်လင်းသည် လင်ကောင်းသားကောင်း ရတော့မည်အထင်ဖြင့် သည်းခံစောင့်ခဲ့ပါသည်။သို့ရာတွင် လောကတွင် ဖြစ်ချင်တာကို မဖြစ်ကြရပါ။ပြန်ပေးသမားသည် နောက်တစ်နေ့တွင် ယင်လင်းကို ဆွေ့ပန်သို့ ရောင်းလိုက်ပါသည်။ တခြားလူကိုရောင်းလျှင် သည်လောက်ဆိုးမည်မဟုတ်ပါ။ ဆွေ့ပန်ကမူ ဤနယ်တွင် လူမိုက်ဘုရင်ဟု နာမည်ကြီးသူဖြစ်ပါသည်။ ငွေကို ကျောက်ခဲသလဲလို သုံးနေသည့် လူသွမ်းတစ်ဦးဖြစ်ပါသည်။ ဆွေ့ပန်သည် ကလေးမလေးကို အတင်းရိုက်နှက် ခေါ်သွားပါသည်။ ယခုအချိန်တွင် သေသည်ရှင်သည်ကိုပင် ကျွန်တော် မသိပါ။





"ဖုန်းယွမ်သည် အပျော်ကြီးပျော်ရတော့မည်ဟု စိတ်ကူးယဉ်ခဲ့ပါသည်။ ခုမပျော်ရတော့ဘဲ အသက်တစ်ချောင်း ဆုံးရှုံးခဲ့ရပါသည်။ ကံဆိုးသည်ဟု ပြောရတော့မည် ထင်ပါသည်"

ယုဆုန်သည် သက်ပြင်းတစ်ချက်ချလိုက်ပြီးနောက်

"အင်း၊ ဒါဟာ မတော်တဆဖြစ်တာမဟုတ်ဘူး မောင်မင်း၊ သူ့ဝဋ်ကြွေးရှိလို့ ဖြစ်ရတာ။ ဝိပါကဝဋ်ကြွေးလို့ပဲ ဆိုရတော့မည်ပါ။ နို့မဟုတ်ယင် ဖုန်းယွမ်ဟာ ဘာဖြစ်လို့ တခြားတစ်ယောက်ကို သဘောမကျဘဲ ယင်လင်းကိုမှ သဘောကျရသလဲ။ သူ့အကြောင်းနဲ့သူ ဖန်လာတဲ့အတွက် ဖုန်းယွမ်ဟာ ယင်လင်းကိုမှရွေးပြီး သဘောကျခဲ့မိတယ်။ ယင်လင်းအဖို့မှာလဲ ပြန်ပေးသမားရဲ့ လက်ထဲမှာ နှစ်ပေါင်းများစွာ ဆင်းရဲဒုက္ခ ခံလာခဲ့ရပြီးတဲ့နောက် ဝဋ်ကျွတ်ခါနီး သူ့ကို တကယ်ချစ်တဲ့ယောကျ်ားနဲ့ရပြီး အိုးနဲ့အိမ်နဲ့ တင့်တောင့်တင့်တယ်နေရမယ် လုပ်တုန်းမှာ မနေလိုက်ရဘဲ ခုလိုဖြစ်ရရှာတယ်။ကြည့်ရတာကတော့ ဆွေ့ပန်ရဲ့ မိသားစုဟာ ဖုန်းယွမ်ရဲ့မိသားစုထက် ချမ်းသာကြွယ်ဝဟန်တူရဲ့။ ဆွေ့ပန်လို လူရမ်းကားမှာ အမြွှောင်မယားတွေ၊ မယားငယ်တွေ တစ်ပုံကြီး ရှိမှာပဲ။ ယင်လင်းလို မိန်းကလေးတစ်ယောက်အပေါ်မှာ ဘယ်လိုမှ သစ္စာရှိနိုင်မယ် မဟုတ်ပေဘူး။ အင်း လက်စသတ်တော့ ဖုန်းယွမ်နဲ့ ယင်လင်းတို့ရဲ့ အဖြစ်အပျက်ဟာ ဘာမှ အရာမထင်တဲ့ အိပ်မက်တစ်ခုပေပဲ။ ကံဆိုးသူနှစ်ယောက်ဟာ ကြုံမှာငင်လို့ လာပြီးရေစက်ဆုံကြရတာပဲ။ ကဲ ဒါထားပါတော့ကွယ်။ ဒီအမှုကို ငါ ဘယ်လိုဖြေရှင်းသင့်သလဲ။ ထိုစမ်း မောင်မင်း"

လက်ပါးစေက ပြုံးလိုက်ရင်း

"မြို့ဝန်မင်းသည် ယခင်က ဉာဏ်ထက်မြက်သူတစ်ဦးဖြစ်ပါသည်။ ယခုတွင်မူ မြို့ဝန်မင်းသည် အဘယ့်ကြောင့်မသိ၊ စိတ်ကူးခေါင်းပါးနေသည်ဟု ကျွန်တော်ဆိုချင်ပါသည်။ မြို့ဝန်မင်း ဤရာထူးသို့ပြန်ရလာခြင်းမှာ ကျိ မိသားစုနှင့် ဝမ်မိသားစုတို့ကြောင့်ဖြစ်သည်ဟု ကျွန်တော်ထင်ပါသည်။ ယခုဆွေ့ပန်၏ မိသားစုသည် ကျိ မိသားစုနှင့် လက်ဆက်

ထားပါသည်။ (ကျိချိန်၏ ဇနီး ဝမ်သည် ဆွေ့ပန်အမေ၏ အစ်မဖြ
ပါသည်။) သို့ဖြစ်လေရာ မြို့ဝန်မင်းအနေဖြင့် အဘယ့်ကြောင့်ရေစု
မမျှော်ရမည်နည်း။ ရေစုန်အတိုင်း လိုက်ရမည်သာဖြစ်ပါသည်။ သူ
မျက်နှာကိုကြည့်ရမည်သာ ဖြစ်ပါသည်။ အမှုကို ဤပုံဤနည်း ကို
တွယ်မှသာ မြို့ဝန်မင်းသည် နောင်တွင် သူတို့နှင့် အရှည်ဆက်ဆံနိုင်စရာ
ရှိပါသည်''

''အင်း၊ မေခင်မင်းပြောတာလဲ စဉ်းတော့ စဉ်းစားစရာပေပဲ
သို့သော်လဲ ဓာက်တာက ခုအမှုမှာ လူတစ်ယောက်ရဲ့အသက်တစ်ချော
ဆုံးရှုံးနေတယ်။ ပြီးတော့လဲ ငါဟာ ဘုန်းတော်ကြီးသော ဘုရင်မင်
မြတ်ရဲ့ ကရုဏာတော်ကြောင့် ဒီရာထူးကို ပြန်ရပြီး ဘဝသစ်ကိုအစပြု
နေနိုင်ခြင်းဖြစ်တယ်။ ဒီတော့ငါအတတ်နိုင်ဆုံး ကြိုးစားပြီး ဘုန်းတော
ကြီးသော ဘုရားရဲ့ ကျေးဇူးတော်ကို ဆပ်သင့်တယ်။ ငါ့ကိုယ်ကျိ
အတွက်၊ ငါ့ရာထူးတည်မြဲဖို့အတွက် တရားဥပဒေကို ငါဘယ့်နှယ်လု
ပြီး မထီလေးစားလုပ်ရဲပါ့မလဲ။ မဖြစ်ဘူးမောင်မင်း။ ငါဥပဒေကို ချိ
ဖောက်လို့မဖြစ်ဘူး''

လက်ပါးစေက လှောင်ပြုံး ပြုံးလိုက်လျက်

''မြို့ဝန်မင်း၏စကားဟာလဲ မှန်ပါသည်။ သို့သော်လဲ သည်လို
လုပ်နေလို့ရှိယင်ဖြင့် မြို့ဝန်မင်းသည် ဤခေတ်ကြီးမှာ ကြီးပွားမည်
မဟုတ်ပါ။ 'ဂုဏ်သရေရှိ လူကြီးလူကောင်းတို့မည်သည် အခြေအနေ
အညီ ကျင့်ကြံနေချင်ကြ၏' ဆိုတဲ့ ဆိုရိုးစကားလဲ ရှိပါသည်။ ထို့ပြ
'အမြင့်ရောက်သူတို့သည် ဒုက္ခဆင်းရဲကို ဖေးစွာရှောင်၍ စည်းစိမ်ချမ်း
သာ နောက်ကိုသာ လိုက်ကြ၏' ဆိုတဲ့ စကားပုံလဲ ရှိပါသည်။ မြို့ဝ
မင်း ပြောသည့်အတိုင်းသာ လုပ်မည်ဆိုလျှင် မြို့ဝန်မင်းသည် ဘုန်းတော
ကြီးသော ဘုရား၏ကျေးဇူးသစ္စာကို ပြန်မဆပ်နိုင်ရုံမျှမက ကိုယ့်အသက်
ကို လောင်းကြေးထပ်၍ ကစားသည်နှင့်ပင် တူပါလိမ့်မည်။ မြို့ဝန်မင်
ပြန်စဉ်းစားစေချင်ပါသည်''





ယုဆုန်သည် ခေါင်းကိုငုံ့ကာ စဉ်းစားလျက်ရှိ၏။ အတန်ကြာ
တိတ်ဆိတ်နေပြီး

''ကဲ ဒီလိုဆိုယင် ဘယ်လိုလုပ်ယင် ကောင်းမလဲ။ မောင်မင်း
အနေနဲ့ ပြောစမ်း''

''ကျွန်တော် စဉ်းစားထားသည့် အချက်တစ်ချက် ရှိပါသည်။
မနက်ဖြန် ထိုအမှုကို စစ်ဆေးသည့်အခါတွင် မြို့ဝန်မင်း အနေဖြင့်
စာချွန်များ၊ ဝရမ်းများထုတ်၍ တကယ့်တရားခံစစ်ကို မရမနေဖမ်းဆီး
တော့မည့်ဟန် ပြုလုပ်ပါလေ။ ထိုအခါတွင် တရားခံကလဲ လာလိမ့်မည်
မဟုတ်ပါ။ တရားလိုကလဲ အမှုမှန်ကိုဖော်ထုတ်ရန် အတင်း ပြေစပါ
လိမ့်မည်။ ထိုအခါတွင် မြို့ဝန်မင်းသည် ဆွေ့ပန်၏ ဆွေမျိုးသားချင်း
အချို့နှင့် အစေတော်အချို့ကိုဖမ်း၍ စစ်ဆေးကြည့်ပါလေ။ ဆွေ့
ပန်သည် ရုတ်တရက် ရောဂါရ၍ သေဆုံးသွားသည့်အဖြစ်မျိုးသို့ရောက်
အောင် နောက်ကွယ်မှ ကျွန်တော်ကြည့်၍ စီစဉ်ပါမည်။ ဆွေမျိုးသား
ချင်းများနှင့် ဆိုင်ရာရပ်ကွက်သူကြီးတို့ကလဲ ဆွေ့ပန်သေဆုံးသွားသည်
မှာ ဟုတ်မှန်ကြောင်း ထောက်ခံအောင် ကျွန်တော်စီစဉ်ပါမည်။

''ထို့နောက် မြို့ဝန်မင်းအနေဖြင့် နတ်စာရေးခုံ တစ်ခုထား၍
ထိုအမှုနှင့်ပတ်သက်၍နတ်ပေဒင်မေးမည်ဖြစ်ကြောင်း ကြေညာပါလေ။
အမှုစစ်ရာသို့ စစ်ဘက်နှင့် နယ်ဘက်မှ အရာရှိများကိုလဲ ဖိတ်ကြားပါ
လေ။ ထိုအခါတွင် နတ်ပေဒင်အဟောထွက်သည့်အနေဖြင့် မြို့ဝန်မင်းက
ဆွေ့ပန်နှင့် ဖုန်းယွမ်တို့သည် ရှေးဘဝက ရန်သူများဖြစ်ခဲ့ကြကြောင်း၊
ထိုဝဋ်ကြွေးကို ယခုဘဝတွင် လာဆပ်ကြရခြင်း ဖြစ်ကြောင်း၊ ယခု
အခါတွင် ဖုန်းယွမ်၏လိပ်ပြာ ဝင်ပူးသည့်အတွက် ဆွေ့ပန်မှာ ထူးဆန်း
သည့်ရောဂါတစ်ခုဖြင့် သေဆုံးသွားပြီဖြစ်ကြောင်း၊ ဤ အမှုမှာ
မိန်းမလေးကို ပြန်ပေးဆွဲ ရောင်းစားခဲ့သူကြောင့် ပေါ်ပေါက်ရခြင်း
ဖြစ်သည့်အတွက် ထိုပြန်ပေးတရားခံ ငဖြူ ငမဲကို တရားဥပဒေအရ
စစ်ဆေးအပြစ်ပေးသင့်သည်ဟု နတ်ပေဒင်က အဟောထွက်ကြောင်း
ဖြင့် မြို့ဝန်မင်းက ကြေညာပါလေ။

"ပြန်ပေးသမားက သူပြန်ပေးဆွဲကြောင်းကို ဖြောင့်ချက်ပေး ရန် နောက်ပိုင်းမှ ကျွန်တော်စီစဉ်ပါမည်။ နတ်ဗေဒင်က ထိုအချက်ကို အဘည်စုံလျှင် လူများကလည်း ယုံကြည်လက်ခံကြမည်သာ ဖြစ်ပါ သည်။

"ဆွေ့ပန်တို့အမျိုးမှာ ငွေကြေးချမ်းသာသူများ ဖြစ်ကြပါ သည်။ ထို့ကြောင့် ဖုန်းယွမ်၏ အသုဘစရိတ်အတွက် ငွေစင်ငါးရာမျိုး တစ်ထောင်မျိုး ပေးစေဟု အမိန့်ချပါလေ။ ဖုန်းယွမ်၏ဆွေမျိုးများမှာ မထင်မရှား အညတရများ ဖြစ်သည့်အတွက် ထိုငွေမျှလောက်ကိုရလျှင် ကျေနပ်မည်မချွတ် ဖြစ်ပါသည်။ သို့ဖြင့် သူတို့ပါးစပ်ကို ငွေဖြင့်ပိတ်ဖို့ လိုပါသည်။ ကျွန်တော်၏ ဤအစီအစဉ်ကို မြို့ဝန် မည်သို့ ထင်ပါ သနည်း"

ယုဆုန်က ရယ်လိုက်လျက်

"မောင်မင်းဟာ မဖြစ်နိုင်ပါဘူးကွယ်။ ဒီကိစ္စနဲ့ ပတ်သက်လို့ နောင် အပြောအဆိုမရှိဘဲ ဆုံးဖြတ်နိုင်အောင် ငါစဉ်းစားဦးမယ်"

သို့ဖြင့် မြို့ဝန်နှင့် သူ့လက်ပါးစေတို့သည် ညနေစောင်းတိုင် အောင် ထိုအကြောင်းကို တိုင်ပင်လျက် ရှိကြ၏။ နောက်တစ်နေ့တွင် မသက်သာသူများအားလုံးကို ရုံးတော်သို့ ဆင့်ခေါ်၍စစ်ဆေး၏။ သေသူ ဖုန်းယွမ်၏ မိသားစုမှာ သူ့လက်ပါးစေပြောသည့်အတိုင်း အညတရမျှ သာ ဖြစ်သည်ကို တွေ့ရပြီး အသုဘစရိတ်ရလျှင် ကျေနပ်သည့်သဘော မျိုးကို တွေ့ရ၏။ သို့ရာတွင် တရားခံဖြစ်သူ ဆွေ့ပန်၏ ဆွေမျိုးများက တန်ခိုးအာဏာရှိ အသိုက်အဝန်းနှင့် နီးစပ်သူများ ဖြစ်သော ကြောင့် အမှုမှာ ရှုပ်ထွေးကာ တော်တော်နှင့် မပြီးပြတ်နိုင်ဘဲ ရှိလေ၏။

ထို့ကြောင့် ယုဆုန်သည် တရားဥပဒေကို လိုသလိုဆွဲသုံးကာ မိမိ သဘောအရ စီရင်ချက် ချရ၏။ စီရင်ချက်အရ ဖုန်းယွမ် မိသားစုမှာ အသုဘစရိတ် အဖြစ် လျော်ကြေးငွေ တော်တော်များများ ရရှိပြီး နောက်ထပ် ဘာမျှမပြောတော့ဘဲ ကြေအေးသွားကြလေ၏။





အမှုကို ဖြေရှင်းပြီးသည့်နောက်တွင် ယုဆုန်သည် ကျိချိန်နှင့် မြို့တော် မြို့စောင့်တပ်မှူး ဝမ်ဇူတိန်ထံသို့ စာတစ်စောင်ကောက်၍ ရေး၏။ စာထဲတွင် ၎င်းတို့၏တူ အပေါ်တွင် စွဲထားသည့် အမှုကို ပလပ်လိုက်ပြီဖြစ်၍ ဘာမျှ စိုးရိမ်ကြောင့်ကြဖွယ် မရှိတော့ကြောင်းဖြင့် ဖော်ပြထား၏။ ဤအစီအမံများ အားလုံးမှာ ဗူးဘုရားတွင်သာမဏေ ဝတ်ခဲ့ဖူးသည့် သူ့လက်ပါးစေ၏ အကြံပေးချက်ကြောင့် ဖြစ်လေရာ တစ်နေ့တွင် ထိုလက်ပါးစေသည် ထိုအကြောင်းကို ထုတ်ဖော် ပြော ဆိုမည် စိုးသည့်အတွက် ယုဆုန်သည် အပြစ်တစ်ခုရှာကာ ထိုလက် ပါးစေကို ဝေးလံသည့် အရပ်ဒေသ တစ်ခုသို့ ပြောင်းရွှေ့လိုက်လေ ၏။

ယင်လင်း (မကြာဖူ) ကို ဝယ်ယူပြီး ဖုန်းယွမ်ကို အသေ ရိုက် သတ်ခဲ့သည့် ဆွေ့ပန်အကြောင်းကို ပြန်၍ ကောက်ရဦးမည်။ ဆွေ့ပန် သည် ချင်လင်းမြို့ရှိ ပညာတတ် မိသားစုတစ်ခုမှ ပေါက်ဖွားခြင်းဖြစ်ပြီး ငယ်ငယ်က ဖခင်သေဆုံးသွားသည့်နောက် မိခင်က အလိုလိုက်ခဲ့သဖြင့် ကြီးပြင်းလာသည့် အခါတွင် ဘာမျှ အသုံးမဝင်သည့် လူရမ်းကား တစ်ယောက် ဖြစ်လာခဲ့၏။ ဘုန်းတော်ကြီးသောဘုရား၏ ရွှေနန်းတော် အတွက် စားနပ်ရိက္ခာ ဆက်သွင်းသူ ရိက္ခာတော်ဆက်ဖြစ်သည့် အတွက် ကြောင့်လည်း ရွှေတိုက်တော်မှ ထောက်ပံ့ ချေးမြှင့်ငွေများ ရနေသဖြင့် ဆွေ့ပန်တို့ မိသားစုမှာ ကုဋေကြွယ်သော သူဌေးများဖြစ်ကြပေ၏။

ဆွေ့ပန်၏ ငယ်နာမည်မှာ ဝမ်ချီဖြစ်၏။ ဆွေ့ပန်သည် လေး ငါးခြောက်နှစ်သား ကတည်းကပင်လျှင် အကျင့်ဆိုးပြီး စကားပြော မောက်မာ ရိုင်းစိုင်းသူ တစ်ယောက်ဖြစ်ခဲ့၏။ ကျောင်းတွင်လည်း အက္ခရာ အနည်းငယ်ကို မျှသာ တတ်ဖတ်နိုင်ခဲ့လျက် ကြက်တိုက်ခြင်း၊ မြင်းစီး ခြင်း၊ အပျော်အပါး လိုက်စားခြင်းဖြင့်သာ အချိန်ကုန်ခဲ့၏။ ဆွေ့ပန် သည် ရွှေနန်းတော် ရိက္ခာတော်ဆက်ဖြစ်သည့်တိုင် အလုပ်ကိစ္စနှင့်တကွ လောကကြီး အကြောင်းကို ဘာမျှ နားလည်ခြင်း မရှိချေ။ အဘိုး၏ မိတ်ဆွေ ရောင်းရင်းများမှ တစ်ဆင့် ရွှေနန်းတော်ကြီးမှ အခွန်တော် ဌာနတွင် ရာထူးတစ်ခုကို ရခဲ့သော်လည်း အလုပ်ကိစ္စမှန်သမျှကို ကိုယ်

စားလှယ်များ၊ မိသားစု အစဉ်အဆက် ရှိခဲ့သည့် အစေတော်များနှ
သာ လွှဲထားလေ၏။

မှုဆိုးမ ဖြစ်သည့် အမေမှာ ဝမ်အမည်ရှိပြီး ရွှေမြို့တော် မြို့စော
တပ်မှူးကြီး ဝမ်ဇူတိန်၏ ညီမနှင့် ယွန်းစံအိမ်ကြီးမှ ကျိချိန်၏ ဇနီးဖြ
သူ ဒေါ်လေးဝမ်တို့၏ ညီမဖြစ်၏။ ဆွေ့ပန်၏ အမေမှာ အသက်လေ
ဆယ်ခန့်ရှိပြီး ဆွေ့ပန်မှာ တစ်ဦးတည်းသော သားဖြစ်ပေ၏။ သို့ရာတွ
ဆွေ့ပန်အောက်တွင် နှစ်နှစ်ငယ်သည့် ပေါက်ကြည် အမည်ရှိ သမီး၊
တစ်ယောက်လည်း ရှိသေး၏။ ပေါက်ကြည်မှာ လှပ ချောမော၍ ဉာ
ထက်မြက်သလောက် နုနယ်သည့် မိန်းမပျို တစ်ယောက် ဖြစ်၏။ ၎င်း
ဖခင်ကြီး မကွယ်လွန်မီ ကတည်းကပင်လျှင် ပေါက်ကြည်ကို စာသင်ပေ
ခဲ့သည်တွင် ပေါက်ကြည်မှာ သူ့အစ်ကို ဆွေ့ပန်ထက် ဆယ်ဆမျှ ဉာ
သာကြောင်းကို တွေ့ရ၏။ သို့ရာတွင် ဖခင်ကြီး ကွယ်လွန်ပြီးသည့် နော
တွင်မူ အစ်ကိုဖြစ်သူ ဆွေ့ပန်မှာ မိခင်ဖြစ်သူ အတွက် ဘာမျှ အကူအည
မရသည့်အပြင် အနှောင့်အယှက် ဖြစ်နေသည်ကို တွေ့ရသည့်အတွ
ပေါက်ကြည်သည် စာကို ဆက်လက်သင်ကြားခြင်း မပြုတော့ဘဲ ဇာပန်
ထိုးခြင်း၊ အိမ်ထောင်ကို စီမံအုပ်ချုပ်ခြင်း စသည့် အလုပ်များကို ဝ
ရောက်လုပ်ကိုင်ကာ မိခင်ကို တစ်ဖက်တစ်လမ်းမှ ကူညီခဲ့ရ၏။

မျှားမကြာမီက ယဉ်ကျေးမှုကို မြှင့်တင်ရန်၊ အမျိုးကော
သမီးတို့၏ ဂုဏ်သိက္ခာကို အားပေး ချီးမြှောက်ရန်နှင့် အရည်အချ
ရှိသည့်အမျိုးသမီးကောင်းများ ပေါ်ထွန်းစေရန်အတွက် မဟာကရုဏ
ရှေ့ထားလျက် ဘုန်းတော်ကြီးသော ဘုရားသည် မှူးမတ်ဝန်ကြီးမျာ
နှင့် ထင်ရှားသည့် ဆွေမျိုးစုများမှ အရွယ်ကောင်း အမျိုးကော
သမီးများ၏ စာရင်းကို ပြုစုရန် ညွှန်ကြားတော် မူခဲ့သည်။ ထိုအထဲမှ
နေ၍ ထူးချွန်သည့် အမျိုးသမီးများကို ရွှေနန်းတော်ရှိ သမီးတော
များ၏မှူးနန်းအမျိုးတော်၊ ရံရွေတော်၊ စာတော်ဖတ် စသည်တို့ ခန့်အပ်
ရန် ဖြစ်၏။

ထို့ပြင် ဆွေ့ပန်၏ ဖခင် ရိက္ခာတော်ဆက် မင်း ကွယ်လွန်ပြီ
သည့်နောက်၌အရပ်ရပ်ရှိရိက္ခာတော်ဆိုင်များမှ အမှုထမ်းအရာထမ်းမျာ





သည် ဆွေ့ပန်၏ အတွေ့အကြုံနုနယ်ခြင်း၊ ငယ်ရွယ်ခြင်းစသည့်အချက်များကို အခွင့်ကောင်းယူကာ ငွေများကို လိမ်လည်ခြင်း စသည်တို့ကို ပြုလုပ်ကြလေရာ ရွှေမြို့တော်ရှိ ဆွေ့ပန်တို့ ပိုင်သော ရိက္ခာတော်ဆိုင်များမှာပင် အမြတ်မထွက်ဘဲ အရှုံးပြလျက် ရှိလေ၏။

သို့ဖြစ်ရကား ရွှေမြို့တော်သို့ သွားရန် ကြာရှည်လေးမြင့်စွာကပင် တောင့်တခဲ့သော ဆွေ့ပန်အဖို့ ရွှေမြို့တော်သို့ အလည်သွားရောက်ရန် အကြောင်းပြချက်ကြီး သုံးခု ရရှိသွားလေ၏။ ၎င်းတို့မှာ ပထမ မှူးနန်းအပျိုတော် ရွေးချယ်ပွဲအတွက် ညီမဖြစ်သူ ပေါက်ကြည်ကို လိုက်ပို့ရန်၊ ဒုတိယ ရွှေမြို့တော်ရှိ ဆွေမျိုးသားချင်းများကို တွေ့ဆုံရန်နှင့် တတိယ ရွှေမြို့တော်တွင် လုပ်ငန်းနှင့်ပတ်သက်သည့် စာရင်းအင်းများကို ရှင်းရန်ဟူ၍ ဖြစ်လေ၏။ သို့ရာတွင် ဆွေ့ပန်၏ တကယ့်ရည်ရွယ်ချက်မှာမူ မင်း နေပြည်တော်ကြီးကို သွားရောက်လည်ပတ်ရန်ဖြစ်ပေ၏။

ဆွေပန်သည် အထုပ်အပိုးများနှင့် အဖိုးတန် ပစ္စည်းများကို ပြင်ဆင်ကာ ရွှေမြို့တော်ရှိ ဆွေမျိုးသားချင်းများအား လက်ဆောင်ပေးရန်အတွက် ဒေသထွက် စားသောက်ဖွယ်တို့ကိုလည်း ပြင်ဆင်ပြီး ဖြစ်၏။ ထိုသို့ ပြင်ဆင်ကာ ခရီးသွား၍ကောင်းမည့် နေ့ကောင်း ရက်သာကို စောင့်ဆိုင်းနေစဉ် ယင်လင်းခေါ် မှကြာဖြူ ကို လာရောင်းသည့် ပြန်ပေးသမားနှင့်တွေ့ရှိကာ ယင်လင်း၏ ရုပ်ရည်ကို သဘောကျပြီး ဝယ်လိုက်ခြင်း ဖြစ်လေ၏။ ဖုန်းယွမ်က သူဝယ်ပြီးသားဖြစ်သည့် ယင်လင်းဆို ပြန်တောင်းသည့်အခါ၌ ဆွေ့ပန်သည် သူ့ဩဇာတိက္ကမ ရှိသည်ကို အခွင့်ကောင်းယူကာ ဖုန်းယွမ်ကို ရိုက်သတ်ရန် သူ့လူမိုက်များအား စေခိုင်းခဲ့ခြင်း ဖြစ်ပေ၏။ ထိုနောက်၌ ဆွေ့ပန်သည် အိမ်မှုကိစ္စများကို ဆွေမျိုး သား ချင်း များ နှင့် အစေတော်များထံ အပ်နှံခဲ့ပြီးနောက် မိခင်၊ ညီမ ပေါက်ကြည်တို့နှင့်အတူ နေပြည်တော်သို့ထွက်လာခဲ့လေ၏။ ဆွေ့ပန်အဖို့ကား လူသတ်မှုစွဲချက်ဖြင့် အစွဲခံရသည့် ကိစ္စမျိုးသည် ငွေစဖြင့် အလွယ်တကူ ဖြေရှင်းနိုင်သော အသေးအဖွဲ ကိစ္စကလေး တစ်ရပ်မျှသာ ဖြစ်ချေသည်။

ရက်အနည်းငယ် ကြာသည့်အခါ၌ သူတို့တစ်တွေ နေပြည်တော်အနီးသို့ ရောက်လာသည့်အခါတွင် မြို့စောင့်တပ်မှူးဖြစ်သူ သူတို့ဦးကြီး ဝမ်ဇူတိန်သည်နယ်စပ်ဒေသရှိ နယ်ကိုးနယ်ကိုကွပ်ကဲရသည့် စစ်ဦးစီးချုပ်အဖြစ် ခန့်အပ်ခြင်း ခံရကြောင်းဖြင့် သတင်းကြားရလေ၏။

"ဦးကြီးရှိယင်ရွှေမြို့တော်မှာ ငါကြိုက်သလို နေရမှာမဟုတ်ဘူး။ အနေကျုံ့ပြီး ပျင်းစရာ ကောင်းနေတော့မှာလို့ စိတ်ပျက်နေခဲ့တာ။ ခုတော့ ဦးကြီး ရာထူးတိုးပြီး ရွှေမြို့တော်က ပြောင်းရတော့မယ်ဆိုတော့ ဟန်ကျလိုက်လေဗျာ"ဟု ဆွေ့ပန်သည် ဝမ်းမြောက်ဝမ်းသာ တွေးလျက် ရှိလေ၏။

"မေမေ့ရယ်၊ နေပြည်တော်မှာ ကျွန်တော်တို့ပိုင်တဲ့ အိမ်တွေ အများကြီးတော့ ရှိပါရဲ့။ ဒါပေမယ့် ကျွန်တော်တို့ မနေတာ ဆယ်နှစ်ဆယ်မိုးလောက် ရှိနေပြီ။ အစောင့်တွေကလဲ ငှတ္တသမျှ အိမ်ငှားတွေကို တင်ထားမှာပဲ။ ဒီတော့ အိမ်တွေကို ရှင်းလင်းထားဖို့ တစ်ယောက်ယောက်ကို ရှေ့ပြေး လွှတ်လိုက်ပါလား"ဟု ဆွေ့ပန်က သူ့အမေကို ပြောပြ၏။

"အမယ်လေးကွယ်၊ ဒုက္ခများလှပါတယ်၊ ရွှေမြို့တော်ရောက်ယင် မေမေတို့ ဆွေမျိုးသားချင်းများဆီကို ပထမသွားမှာပေါ့။ ဦးကြီးတို့နဲ့ နေမလား၊ ဒေါ်ကြီးဝမ်တို့နဲ့ နေမလား၊ ဘယ်မှာနေနေ ဖြစ်တာပဲ ဥစ္စာ။ သူတို့နှစ်အိမ်စလုံးမှာ နေစရာတွေကို ပြည့်လို့။ ဒီတော့ အဲဒီ တစ်အိမ်အိမ်မှာ ခဏတဖြုတ် နေသေးတာပေါ့၊ နောက် နေရင်း အိမ်တွေကို ရှင်းခိုင်းထားတာပေါ့"

"ဦးကြီးက ရာထူးတိုးပြီး ရွှေမြို့တော်က ပြောင်းရတော့မှာတဲ့ မေမေရဲ့၊ ဒီတော့ သူ့ဆီ သွားတည်းလို့ ဘယ်ကောင်းပါ့မလဲ။ သူ့မှာ ပြောင်းဖို့ရွှေ့ဖို့ကိစ္စနဲ့ အလုပ်များနေမှာပေါ့။ ဒီတုန်းမှာကျွန်တော်တို့က တစ်အုပ်ကြီး သွားတည်းယင် ဘယ်ကောင်းပါ့မလဲ"

"မင်းဦးကြီးမရှိတော့ကော၊ ဒေါ်ကြီးဝမ်တို့အိမ် သွားတည်းလို့ ဖြစ်သားပဲ။ ရွှေမြို့တော်ကိုလာခဲ့ပါလို့ ခေါ်နေတာ ကြာလှပြီ။ ခုမှပဲ





ရောက်တော့တယ်။ ဟိုရောက်လို့ မင်းဦးကြီး တခြားကို ပြောင်းရှာဆိုတော့ ဒေါ်ကြီးဝမ်ကလဲသူတို့ဆီမှာပဲအတည်းခိုင်းမှာပေါ့။ တခြားတယ် အတည်းခံပါ့မလဲ။ ပြီးတော့ ရွှေမြို့တော် ရောက်ရောက်ချင်း တို့အိမ်တွေကို အတင်းဒရောသောပါး ပြင်ဆင်ပြီး နေတယ်ဆိုတာကလဲ လူမြင်လို့ မကောင်းပါဘူး။ တစ်မျိုးတစ်မည် ထင်ကုန်ကြမှာပေါ့။

"မင်း စိုးရိမ်နေတာကို မေမေ သိပါတယ်ကွယ့်။ မင့်ဦးကြီးတို့ ဒေါ်ကြီးဝမ်တို့နဲ့ နေရမှာကို ကျဉ်းကျပ်နေတယ် မဟုတ်လား။ ငါ့သားက ကိုယ့်ဘာသာကိုယ် နေချင်မှာပေါ့။ ကိုယ့်ဘာသာကိုယ်ဆိုတော့ လုပ်ချင်ရာ လုပ်နိုင်တာကိုး။ ဒီလိုဆိုယင်တော့ သားဘာသာ သွားပြီး တစ်ယောက်တည်း နေချေ။ မေမေတို့ကတော့ ညီအစ်မနှစ်ယောက် တွေ့ပြီး စကားစမြည် ပြောရဦးမယ်။ မတွေ့ရတာ ကြာလှပြီ။ ညီမလေး ပေါက်ကြည်ကိုလဲ ခေါ်သွားမယ်။ ဘယ့်နှယ်လဲ"

သူ့အမေကို လှည့်ပတ်ပြောဆို၍ မရမှန်းကို သိသည့်အခါ၌ ဆွေ့ပန်သည် အစေတော်များအား ယွန်းစံအိမ်ကြီးသို့မောင်းရန် အမိန့်ပေးလိုက်လေ၏။

ထိုအတောအတွင်း၌ကား ဒေါ်ကြီးဝမ်သည် သူ့တူ ဆွေ့ပန်တစ်ယောက် ယုဆုန်၏ ကျေးဇူးကြောင့် လူသတ်မှုမှ လွတ်သွားပြီကို သိရသဖြင့် စိတ်အေးသွားရသော်လည်း သူ့အစ်ကိုကြီး ဝမ်ဇူတိန် နယ်ခြားသို့ ပြောင်းရွှေ့ရသည့်အတွက် ရွှေမြို့တော်တွင် သွားရောက်လည်ပတ်စရာ ,မိမိ၏ ရင်းနှီးသော သားချင်းဆွေမျိုး မရှိတော့ပြီဟု တွေးမိကာ စိတ်ပျက်လျက်ရှိ၏။ သို့ရာတွင် နောက် ရက်အနည်းငယ် ကြာသည့်အခါတွင်မူ အစေတော်တစ်ယောက် ရောက်လာကာ ညီမဖြစ်သူနှင့် သားသမီးနှစ်ယောက် ရွှေမြို့တော်သို့ ပြောင်းလာပြီ ဖြစ်ကြောင်း၊ ယခုပင် သူတို့ ရထားများ ဝင်းဝသို့ရောက်နေပြီ ဖြစ်ကြောင်းဖြင့် လာရောက် ပြောကြားလေ၏။

ဒေါ်ကြီးဝမ်သည် ဝမ်းသာအားရဖြင့် သမီးနှင့်ချွေးမလီဝမ်းတို့ ခြံရံလျက် ဧည့်သည်များကို ဧည့်ခန်းဝမှ ထွက်ကြိုပြီးနောက် အိမ်ထဲသို့

ခေါ်လာခဲ့လေ၏။ ဘဝ၏ နေဝင်ချိန်တွင် ပြန်လည်ဆုံတွေ့ကြသည့် ညီအစ်မနှစ်ယောက် မည်မျှဝမ်းသာဝမ်းနည်း ဖြစ်ကြပုံနှင့်တကွရင်းတို့၏ ရယ်သံများ၊ မျက်ရည်များနှင့်အောက်မေ့သတိရချက်များကိုမူ အတူ ဖော်ပြရန်လိုမည် မထင်တော့ချေ။

ဒေါ်ကြီးဝမ်သည် သူ့ညီမဖြစ်သည့် ဆွေ့ပန်တို့၏ အမေကို မယ်မယ်ထံ ခေါ်သွားပြီး ဧည့်သည်များကလည်း သူတို့ ယူလာသည့် လက်ဆောင်များကို ပေးကြလေ၏။ အိမ်သားအားလုံးနှင့် မိတ်ဆက် ပေးပြီးသည့်နောက်၌ ဧည့်သည်များအတွက် ကြိုဆိုဧည့်ခံသည့် စား သောက်ပွဲကြီး ပြုလုပ်၏။ ဆွေ့ပန်သည် ကျိချိန်အား နှုတ်ဆက်၏။ ထို့နောက်တွင် ကျိလျံသည် ကျိရှဲနှင့် ကျိချန်တို့ကို နှုတ်ဆက်ရန် အတွက် ဆွေ့ပန်ကို လိုက်ပို့လေ၏။

ထို့နောက်တွင် ကျိချိန်က

"ငါ့ခယ်မကတော့ နွေတော့ဆောင်းတွေကို ကြုံခဲ့ရတာများလှ ပြီ။ ငါတို့ကတော့ ငယ်လဲငယ်သေးတယ်။ အတွေ့အကြုံလဲ နည်း သေးတယ်။ ရွှေမြို့တော်ဆိုတာ ရှုပ်ရှုပ်ယှက်ယှက်နဲ့မို့ အပြင်မှာနေယင် အန္တရာယ်များလှတယ်။ တို့ဝင်းထဲက အရှေ့မြောက်ထောင့်မှာရှိတဲ့ သစ်တော်မွှေးဆောင်မှာ အခန်းဆယ်ခန်းရှိတယ်။ ဒီအခန်းတွေအားလုံး လွတ်နေတာပဲ။ အဲဒီအခန်းတွေကိုရှင်းပြီး သူတို့ကို နေရာချပေးပါ"ဟု သူ့ဇနီး ဒေါ်ကြီးဝမ်ကို မှာလိုက်လေ၏။

မယ်မယ်ကလည်း

"ညည်းညီမကို ဒီမှာပဲတည်းပေ့စေ။ တခြား ဘယ်ကိုမှသွားပြီး မနေပေ့ခနဲ့။ ဆွေမျိုးချင်း နီးနီးနားနား နေရတာပေါ့"ဟု ပြော လေ၏။

မိမိတို့ဘာသာ တသီးတခြားနေလျှင် ဆွေ့ပန် သောင်းကျန်း ရမ်းကားမည်ကို စိုးရိမ်နေသည့် ဒေါ်လေးဆွေ့မှာလည်း ယခုကဲ့သို့ သူ့သားကို ဟန့်တားထိန်းသိမ်းမည့်သူများနှင့် နီးနီးကပ်ကပ်နေရသည့်





အတွက် ဝမ်းသာလျက်ရှိလေ၏။ ထို့ကြောင့် ဒေါ်လေးဆွေ့သည် ထိုမိတ်ကြားချက်ကို ချက်ချင်းလက်ခံလိုက်ကာ မိမိတို့သားအမိသည် ဤဝင်းကြီးထဲမှာပင် နေထိုင်မည်ဖြစ်ကြောင်း၊ သို့ရာတွင် ကြာရှည် နေရပါက မိမိ၏မိသားစုများ၏ စားသောက်စရိတ်အဝဝကို ကိုယ်တိုင် ကုန်ကျခံခွင့် ပြုစေလိုကြောင်းဖြင့် အစ်မကြီးဝမ်ကို နှစ်ကိုယ်ကြား ပြောပြရလေ၏။ ဆွေ့ပန်တို့အမျိုးမှာ ငွေကြေး တောင့်တင်းသူများ ဖြစ်သည့်အတွက်ကြောင့် အစ်မကြီးဝမ်ကလည်း ထိုအချက်ကို သဘော တူလိုက်လေ၏။ သို့ဖြင့် ဒေါ်လေးဆွေ့နှင့် မိသားစုသည် ယွန်းစံအိမ် ဝင်းကြီးထဲရှိ သစ်တော်မွှေးဆောင်သို့ ပြောင်းရွှေ့ခဲ့ကြလေ၏။

သစ်တော်မွှေးဆောင်မှာ ကွယ်လွန်သူ ယွန်းကူမြို့စားကြီး အသက်ကြီးသည့်အခါတွင် အေးအေးလူလူနေခဲ့သည့် အဆောင်ဖြစ်၍ များစွာမကြီးသည့်တိုင် လှပခမ်းနားသည့် အဆောင်တစ်ခုဖြစ်လျက် အဆောင်ထဲတွင် အခန်းဆယ်ခန်းလောက်နှင့်တကွ အိမ်ရှေ့တွင်ဧည့်ခန်း ကျယ်ကြီးရှိပြီး၊ နောက်ဘက်တွင်လည်း အိပ်ဆောင်များနှင့် ရုံးခန်း များ ရှိပေသေး၏။ ဒေါ်လေးဆွေ့တို့ မိသားစုအဖို့ အပြင်သို့ ထွက် လိုလျှင် လမ်းသို့ တိုက်ရိုက်ထွက်နိုင်သည့် ဝင်းတံခါးတစ်ခုလည်းရှိပြီး အနောက်တောင်တံခါးမှ ထွက်၍ စင်္ကြံအတိုင်း သွားလျှင် ဒေါ်ကြီး ဝမ်၏ အဆောင်တလင်းပြင်သို့ ရောက်လေ၏။ နေ့တိုင်း နေ့လယ်စာ စားပြီးလျှင် သို့မဟုတ် ညနေပိုင်းဆိုလျှင် ဒေါ်လေးဆွေ့သည် မယ်မယ်နှင့် သွား၍ စကားပြောတတ်လေ၏။ သို့မဟုတ်လျှင်လည်း အစ်မကြီးဝမ်ထံသို့သွားကာ ရှေးဟောင်းနှောင်းဖြစ်များကို ပြောဆို လျက် ရှိကြလေ၏။

ပေါက်ကြည်မှာ ထိုက်ယု၊အင်ချွန်း စသည့် မိန်းကလေးများနှင့် အတူ ပျော်ရွှင်လျက်ရှိကာ စာဖတ်ခြင်း၊ ဇာပန်းထိုးခြင်း၊ စစ်တုရင် ကစားခြင်း စသည်တို့ဖြင့် အချိန်ကုန်လျက်ရှိလေ၏။

အစတွင် ဆွေ့ပန်သည် သူ လုပ်ချင်ရာ မလုပ်ရတော့ဘဲသူ့ဦးကြီး က ကွပ်ညှပ်မည် စိုးသည့်အတွက် ထိုအစီအစဉ်ကို များစွာသဘောမကျ

ခဲ့ချေ။ သို့ရာတွင် သူ့အမေက ထိုအိမ်တွင်ပင် နေထိုင်ရန် ဆုံးဖြတ်လို
ပြီဖြစ်သည့်အတွက်ကြောင့် တစ်ကြောင်း၊ ကျီချိန်တို့ မိသားစုကလည်
သူတို့ အိမ်မှာပင် နေထိုင်ရန် အတင်းအကျပ် တိုက်တွန်းနေသည့် အတွ
ကြောင့် တစ်ကြောင်း၊ လောလောဆယ်တွင်မူ ထိုအစီအစဉ်ကို လက်
ခဲ့ရလေ၏။ သို့ရာတွင် ပြောင်းချင်သည့်အခါတွင် အဆင်သင့် ဖြစ်
ရန်အတွက် အစေတော်တစ်ယောက်ကို လွှတ်၍ မိမိတို့အိမ်ကို အပြင်ဆို
ထားလေ၏။

တစ်လနီးပါးခန့် နေမိသည့်အခါတွင်မူကား ကျီချိန်၏မိသားစု
သားများ၊ တူများနှင့်တကွ သူတို့အထဲမှာ အဖေါင်းအသင်းများ
ပေါင်းဖက်မိသွားကာ ပျော်နေလေပြီ။ တစ်ခါတလေတွင် သူတို့လူရွ
တစ်သိုက်စုပြီး အရက်သောက်ကြ၏။ တစ်ခါတရံတွင်လည်း ပန်းဥယျာ
ထဲတွင် လျှောက်လည်ကြ၏။ ထိုနောက်တွင်မူ လူရွယ်များသည် ဆွေ့ပ
ကို လောင်းကစားဝိုင်းများသို့ ခေါ်သွားခြင်း၊ ပြည့်တန်ဆာ အိမ်မျ
သို့ ခေါ်သွားခြင်း စသည်တို့ကို လုပ်လာကြလေရာ ဆွေ့ပန်မှာ ယ
ဏထက် ဆယ်ဆတိုး၍ ပျက်စီးလာခဲ့လေ၏။

ကျီချိန်သည် သားများကို ပညာသင်ပေးရာတွင် လည်းကောင်
အိမ်တွင်း စည်းကမ်းကြပ်မတ်ရာတွင် လည်းကောင်း တော်လှသည်
နာမည်ကြီးသည့်တိုင် အိမ်ထောင်စုကြီးက ကြီးလွန်းသည့်အတွက် နေ
တကာကို လိုက်၍ကွပ်ညှပ်ခြင်း မပြုနိုင်ချေ။ ထို့ပြင် ကျီချိန်မှာ ယွန်
မြို့စားကြီး၏ အကြီးဆုံးမြေး ဖြစ်သည့်အတွက်လည်း ကျီ ဆွေမျိ
အားလုံး၏ ကိစ္စအဝဝကို စီမံခန့်ခွဲ နေရလေ၏။

ထိုသို့ မိသားစု ဆွေမျိုးကိစ္စ၊ ပေါင်းသင်း ဆက်ဆံရေးကိစ္စမျ
ကို အာရုံပြုနေရသူဖြစ်သည့်အပြင် ကျီချိန်သည် လူမှုကိစ္စများကို အ
အနက် ထားတတ်သူ တစ်ယောက် မဟုတ်ဘဲ ပေါ့ပေါ့နေ ပေါ့ပေါ
တတ်သည့် ဝါသနာရှိသည့် အလျောက် ကျန်အချိန်များတွင် စာပ
ခြင်း၊စစ်တုရင်ထိုးခြင်းဖြင့် အချိန်ကုန်လျက် ရှိလေ၏။





ဆွေ့ မိသားစု နေထိုင်သည့် သစ်တော်မွှေးဆောင်မှာ ကျီချိန် နေထိုင်သည့် အဆောင်နှင့် နှစ်ဝင်းကျော် တလှင်းနှစ်ကွက်ကျော်ကျော်မျှ ခြားပြီး ယမ်းမကိုလည်း ကိုယ့်တံခါးဖြင့်ကိုယ် ထွက်နိုင်လေရာ လူငယ်များမှာ လွတ်လပ်ခွင့် ရလျက်ရှိကာ သောက်လိုက် စားလိုက်၊ ပျော်လိုက် ပါးလိုက်ဖြင့် ဖြစ်ချင်တိုင်း ဖြစ်လျက် ရှိလေ၏။ ထိုအကြောင်းများကြောင့် ဆွေ့ပန်သည် နောက်အိမ်သစ်သို့ ပြောင်းရန် စိတ်ကူးကို စွန့်လွှတ်လိုက်လေ၏။

မည်သို့ ဖြစ်ပျက်သည်ကို သိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၅

### မနောမသိဒ္ဓိ ကျောက်စိမ်းတုံးသည် နတ်သမီးတို့၏ စကားထာများကို အရှုံးပေးရခြင်း။ မာယာဒေဝီနတ်သမီးသည် သနားကြင်နာသောအားဖြင့် အချစ်အကြောင်းကို လျှို့ဝှက်၍ ဖော်ပြခြင်း။

ရာသီနွေဦး၊ ယစ်မူးအိပ်ငိုက်
ဖိတ်ဖိတ်တောက်ပြောင်၊ ရွှေခြည်စောင်လွှမ်း
အနမ်းအိပ်မက်၊ ရုတ်တရက်ဖြင့်
ရှိုက်မက်တမ်းမော၊ သူယောင်တောသို့
မောလျှရောက်လာ၊ မည်သူပါလိမ့်
ကမ္ဘာကမ္ဘေ၊ အသခေါ်ျက
ပြုပြင်မရ၊ ဆိုမရသည့်
မိုက်မဲ့လှသူ၊ အို ချစ်သူ။ ။

ဆွေ့ပန်တို့မိသားစုယွန်းစံအိမ်ကြီးသို့ မည်သို့မည်ပုံရောက်ရှိလာကြောင်း
ကို အခန်း ၄ တွင် အကျဉ်းချုပ် ဖော်ပြခဲ့လေပြီ။ ယခု ထိုက်ယု
အကြောင်းကို ပြန်၍ ကောက်အံ့။

ယွန်းစံအိမ်ကြီးသို့ ရောက်သည့်အချိန်မှစ၍ မယ်မယ်သည်
ထိုက်ယုအား များစွာအလိုလိုက် ချစ်ခင်ကာ သူ့အချစ်ဆုံးမြေး
ပေါက်ယုကို အလိုလိုက်သကဲ့သို့ အလိုလိုက်သည့်အတွက် ယင်ချ





တန်ချွန်း၊ ဆိချွန်း စသည့် ကျိချိန်မိသားစုမှ မိန်းကလေးများမှာ
နောက်တန်းသို့ ရောက်သွားကြလေ၏။ ပေါက်ယုနှင့် ထိုက်ယုတို့မှာလည်း
အခြားသူများထက် ပို၍ ခင်မင် ရင်းနှီးလာခဲ့ကြလေ၏။ နေ့ခင်းတွင်
သူတို့နှစ်ယောက်သည် ဥယျာဉ်ထဲသို့ အတူ လျှောက် သွား ကြ ၏။
သို့မဟုတ်လျှင်လည်း ထိုင်၍စကားပြောကြ၏။ ညဆိုလျှင်လည်း သူတို့
နှစ်ယောက်သည် အဆောင်တစ်ဆောင်တည်းတွင် အိပ်ကြ၏။ အမှန်
ပြောရလျှင် သူတို့နှစ်ယောက်သည် နေရာတိုင်းတွင် စိတ်ချင်းသဘော
ချင်း တိုက်ဆိုင်လျက် ရှိလေ၏။

သို့ရာတွင် ယခုအချိန်တွင်မူ ပေါက်ကြည် ရောက်လာခဲ့လေပြီ။
ပေါက်ကြည်သည် သူတို့နှစ်ယောက်စလုံးထက် အနည်းငယ်မျှသာ
ကြီးသည့်တိုင် အနေအထိုင်၊ အပြောအဆိုမှစ၍ ယဉ်ကျေးသိမ်မွေ့
လှသည့်အတွက် ထိုက်ယုထက် သာသည်ဟု လူတိုင်းကပင် ချီးမွမ်းကြ၏။
လူတိုင်းလူတိုင်း၌ ချီးမွမ်းစရာ ဂုဏ်တစ်ခုစီ ရှိတတ်ကြစမြဲ ဖြစ်လေရာ
ထိုက်ယုနှင့် ပေါက်ကြည်တို့နှစ်ယောက်မှာကား တစ်ယောက်ကပန်းပွင့်
ကလေးတစ်ပွင့်လို ချစ်စရာကောင်းပြီး အခြားတစ်ယောက်က မိုးမခပင်
တစ်ပင်နှယ် ကျက်သရေရှိလှပေ၏။ နှစ်ယောက်စလုံးပင် စိတ်နေ
သဘောထားကို လိုက်၍ တစ်ယောက်တစ်မျိုးစီ စွဲမက်နှစ်သက်ဖွယ်
ကောင်းလျက် ရှိလေ၏။

ပေါက်ကြည်မှာ အေးအေးအကျမ်းရက်ရောပြီး အပေါင်းအသင်း
ဆံ့ရုံမျှမက အထိန်းတော်များ၊ အစေတော်များ၏ ချစ်ခင်မြတ်နိုး
ခြင်းကိုလည်း ခံရလေရာ ပေါက်ကြည်၏ ထိုသို့သော စရိုက်သည်
မပ်အေးအေး တသီးတခြားနေတတ်သည့် ထိုက်ယု၏စရိုက်နှင့် များစွာ
ခြားနားလျက် ရှိလေ၏။ အစေတော်၊ အထိန်းတော်များသည်
ပေါက်ကြည်နှင့် စကားပြောဆိုနေရသည်ကို နှစ်သက်ကြ၏။ ထို
အကြောင်းများကြောင့် ထိုက်ယု၏ရင်ထဲတွင် မနာလိုစိတ်သည် ပေါ်
ပေါက်လာခဲ့လေပြီ။ သို့ရာတွင် ပေါက်ကြည်မှာမူ ထိုအချက်ကို လုံးဝ
သတိမပြုမိချေ။

ပေါက်ယုမှာ ယခုထက်တိုင် သူငယ်တော်အရွယ်မျှသာ ရှိပြီး နွဲ့ဆိုး ဆိုးလိုက်သည်မှာလည်း ဆိုဖွယ်မရှိတော့ချေ။ ကြီးသည် ငယ်သည်၊ နိမ့်သည် ဝေးသည်မဟူ အစ်ကိုများ၊ အစ်မများ၊ ဝမ်းကွဲ ညီ အစ် ကို မောင်နှမများအပေါ်တွင် အနိုင်ကျင့်တတ်၏။ ပေါက်ယုနှင့် ထိုက်ယု တို့မှာ မယ်မယ်၏ အဆောင်ထဲတွင် နေကြ ရသူ များ ဖြစ် လေ ရာ ပေါက်ယုသည် အခြားသော မိန်းကလေးများထက် ထိုက်ယုနှင့် ပို၍ ခင်မင်ရင်းနှီးလာခဲ့လေ၏။ သို့ရာတွင် ထိုသို့ရင်းနှီးလာခဲ့သည့်အတွက် ပင်လျှင် ပေါက်ယုသည် ထိုက်ယုကိုလည်း တစ်ခါတစ်ရံတွင် အနိုင်ကျင့် တတ်သဖြင့် ထိုက်ယုမှာ မကြာခဏ စိတ်ထိခိုက်ခြင်း ဖြစ်ရပေ၏။

တစ်နေ့တွင်မူ ပေါက်ယုနှင့် ထိုက်ယုတို့သည် ကိစ္စတစ်ခုကြောင့် စကားများခဲ့ကြသဖြင့် ထိုက်ယုသည် အခန်းဆောင်သို့ ပြန်လာကာ တစ်ယောက်တည်း ကျိတ်၍ငိုလျက် ရှိလေ၏။ ပေါက်ယုသည် သူမှား သွားပြီကို သိလိုက်သည့်အတွက် အနားသို့ရောက်လာပြီး ကျေရာ ကျေ ကြောင်း တောင်းပန်ချော့မော့လျက် ရှိရလေ၏။

နှိန်းစံအိမ်ထဲရှိ ဥယျာဉ်တွင် ဆီးတော်ပွင့်တွေ ဝေအောင် ပွင့်စ ပြုကြလေပြီ။ ကျိချန်၏ဇနီး မမယုသည် မယ်မယ်၊ ဒေါ်လေးဆင့်၊ ဒေါ်ကြီးဝမ်နှင့် အခြားသူများကို ပန်းခြံကြည့်ရန် ဖိတ်ထားလေ၏။ မမယုသည် သားဖြစ်သူ ကျိယုန်နှင့် သူ့ဇနီးကျင်ကို့တို့ကို လွှတ်၍ အဖိတ်ခိုင်းလိုက်သဖြင့် မယ်မယ်တို့တစ်သိုက်လည်း မနက်စာ စားပြီး သည်နှင့် နှိန်စံအိမ်ကြီးဘက်သို့ ကူးလာခဲ့ကြလေ၏။ သူတို့တစ်သိုက် သည် ပန်းပေါင်းနံ့သာ ဥယျာဉ်ထဲတွင်လျှောက်၍ ပန်းများကိုကြည့် ကြပြီးလျှင် လက်ဖက်ရည်ကြမ်း၊ ထို့နောက် ဝိုင် အရက် ချို တို့ကို သောက်သုံးကာ အပန်းဖြေလျက် ရှိကြ၏။ သို့ရာတွင် သူတို့တစ်သိုက် တွေ့ဆုံစကားပြောကြခြင်းမှာ စံအိမ်ကြီးနှစ်ခုမှ အမျိုးသမီး များ အပျင်းပြေ တွေ့ဆုံစကားပြောခြင်းမျိုးမျှသာဖြစ်သည့်အတွက် ဤနေရာ တွင် အထူးအထွေမှတ်တမ်းတင်စရာ မရှိချေ။





"သူ့ကို ကျွန်တော်မတွေ့လိုက်ပါလား။ သွားခေါ်ချည်ပါလား၊ တွေ့ရတာပေါ့"

ထိုအခါတွင် အစေတော် မိန်းမများသည် ရယ်လိုက်လျက်

"ဘယ်ခေါ်လို့ရတော့မှာလဲ သခင်လေးရဲ့။ ခုဆို သူက အဝေးကို ရောက်နေပြီ။ နောက်တစ်ခါ လာတော့မှ တွေ့ပေတော့"

ကျင်ကို့၏ခန်းဆောင်ထဲသို့ ဝင်လိုက်သည့်အခါ၌ အလွန်မွှေး ကြိုင်သော ရေမွှေးနံ့သည် သင်းပျံ့လျက် ရှိလေရာ ပေါက်ယုမှာ မျက် လုံးတွေ ရီဝေလာပြီးအရိုးတွေ အရည်ပျော်ကျ သွားသည်ဟု ထင်လိုက် ရလေ၏။

"မွှေးနေတာပဲနော်" ဟု ပေါက်ယုက ပြောလေ၏။

စက်ခန်းဆောင်ထဲသို့ ဝင်လိုက်သည့်အခါတွင် နံရံပေါ်၌ နေ့ဦး ရာသီ၌ အပွင့်တွေ ဝေနေအောင် ပင်လုံးကျွတ် ပွင့်နေသည့် ပန်းသီးရိုင်း ပင်ကြီး တစ်ပင်အောက်တွင် အိပ်ပျော်သော အလှမယ်တစ်ဦး၏ ပန်းချီ ကားကို တွေ့ရလေ၏။ ထိုပန်းချီကားဘေးတွင် ချိတ်ထားသည့် စာတန်း များမှာ ဆွန်မင်းခေတ် သုခမိန်ချင်ကွမ်း၏ကဗျာတိုကလေးများ ဖြစ်၏။

ခါနွေဆန်း ငှံပန်းကစီရရီ
ပန်းလှုပြီ အိပ်မက်ထဲမှာ
အေးမြခဲ့ပြီ။
မွှေးပျံ့ပျံ့ ရနံ့ကြည်
ရစ်သီလို့ပျံ့ဝဲ။
ယစ်ရွှေရည် ထိုအနံ့ကို
ကြိုက်ကြသည်ပဲ။ ။

အလှပြင် မှန်ခုံပေါ်တွင်မူ ထျန်မင်းဆက်ခေတ် ဧကရီ ဝူရှိထျန် ၏ ကြေးမုံခန်းဆောင်တွင် ထားခဲ့သည့် ကြေးမုံကြီး တစ်ချပ် ရှိလေ၏။ ထိုကြေးမုံ အနီး ရွှေဗန်းထဲတွင်မူ ထျန်မင်းဆက်ခေတ်က နာမည်ကျော် အချောသည် တစ်ဦး ဖြစ်သည့် ချောဖေ့ယင် တက်၍ ကခဲ့သည်ဟု အဆို

ရှိသော ရွှေလင်ဗန်း တစ်ချပ်ရှိပြီး ထဲ့နီမင်းဆက် ကေရာဇ်မင်း ကွပ်
အချစ်တော် မိဖုရားငယ် ယင်အား ထိုခေတ်က သူပုန်ဗိုလ်ချုပ် အနို
ရှန့်ဏ ရင်တွင်ဒဏ်ရာရအောင် ပစ်ပေါက် ကျီစယ်ခဲ့သည့် ဆိုသော ဥသျှ
မွေးသီးခြောက်ကို တင်ထား၏။ ခန်းဆောင် အစွန်တွင်မူ ဆွန်နိုင်ငံခေ
က ဂူကေရာဇ်၏ အလှမယ် သမီးတော် တစ်ပါး ဖြစ်သည့် ရှောက်
ထိပ်ထားသည့် ဟန်ချန်နန်းဆောင်တွင် အိပ်စက်ခဲ့ရာ ဖြစ်သည့် ညော
စောင်းတစ်ခုရှိလေ၏။ ထိုညောင်စောင်းပေါ်တွင် ထျန်ခေတ်မင်းသ
တစ်ပါးဖြစ်သော တုန်ချန်ထိပ်ထား အသုံးပြုခဲ့သည့် ပုလဲမြိတ် အသွ
သွယ်ချထားသည့် ကန့်လန့်ကာကို ချိတ်ဆွဲထားလေ၏။

''တယ်ပြီး ကြည်နူးစရာ ကောင်းပေတာပဲနော်'' ဟု ပေါက်
သည် တဖွဖွပြောကာ ပျော်၍နေလေ၏။

''ကျင်ကို့ရဲ့ စက်ရာက နတ်သားတစ်ပါးတောင် ပျော်မွေ့နိုင်
စက်ရာပါကွယ့်'' ဟုကျင်ကို့ က ခပ်ပြုံးပြုံးဖြင့်ပြောလေ၏။ ကျင်ကို့ သ
ထွေ့နိုင်ငံခေတ် အလှမယ်တစ်ပါးဖြစ်သည့် ဆိရှိကိုယ်တိုင် လျှော်ဖွ
သည့် ပိုးပျော့ အိပ်ရာခင်းကို သူကိုယ်တိုင် ဖြန့်ခင်းပေးကာ ယွန်မင်းဆ
ခေတ်က နာမည်ကျော်နန်းတွင်း အောင်သွယ်တော်ကြီး ဖြစ်သူ တုန်
ယူဆောင်လာခဲ့သည့် သတ္တိသမီးသုံး ပိုးပျော့ခေါင်းအုံးကိုလည်း သူကို
တိုင် နေရာ ချပေးလေ၏။ ထိုနောက်၌ အထိန်းတော်များနှင့် အ
တော်များသည် ပေါက်ယုကို အသာ ပွေ့သိပ်ကာ ထွက်သွားကြလေ
စက်ခန်းဆောင်ထဲတွင် ပေါက်ယု၏ အစေတော်များ ဖြစ်သော မာလ
ပုလဲ၊မိလ္လာနှင့် ရွှေလိုင်းတို့သာလျှင် ကျန်ရစ်ခဲ့၏။ ကျင်ကို့ က ၎
တို့အား အပြင်ဘက်စင်္ကြံတွင် သွား၍ ကြောင်ကလေးများ၊ ခွေးကလေ
များ ကစားနေသည်ကို ကြည့်ရန် ခိုင်းလိုက်လေ၏။

မျက်စိမှိတ်လိုက်သည်နှင့် ပေါက်ယုသည် အိပ်ပျော်သွား
ပြီ။ အိပ်မက်ထဲတွင် ကျင်ကို့ သည် သူ့ ရှေ့တွင် ရပ်နေသည်ကို မြင်
လေ၏။ ပေါက်ယုသည် စိတ်ညှို့ခံရသူကဲ့သို့ ခရမ်းရောင်လက်ရန်းမျ





ကာထားသည့် ကျောက်ဖြူသား လှေကားထစ်ကြီးများအတိုင်း ကျင်ကို့နောက်သို့ လိုက်လာခဲ့လေ၏။ ကျောက်ဖြူသား လှေကားကြီးဘေးတွင် စိမ်းမှောင်သောသစ်ပင်တို့ ဝေဆာလျက်ရှိပြီး ကြည်လင်သော စမ်းချောင်းကလေးများသည်လည်း တသွင်သွင်စီးဆင်းလျက် ရှိလေ၏။ ထိုနေရာကား အညစ်အကြေးဖုန်မှုန့်ဆို၍ မြူမျှမရှိသော လူသူတို့ မရောက်ဖူးသည့် ဘုံဗိမာန် ဖြစ်လေ၏။

''တယ်လှိုလဲ ကြည်နူးစရာကောင်းပေတာပဲ။ ဒီလို ပျော်စရာကောင်းတဲ့ နေရာမျိုးကို သေတပန်သက်ဆုံး နေလိုက်ချင်ပါဘိ၊ အိမ်မှာဆိုယင် လူကြီးမိဘတွေ၊ ဆရာသမားတွေရဲ့ ဆုံးမတာတွေ။ ကြိမ်နဲ့ရိုက်တာတွေ ခံရတယ်၊ ဒီလို သာယာတဲ့ နေရာမျိုးမှာသာ နေရမယ်ဆိုယင် မိဘအိုးအိမ်အားလုံးကိုတောင် စွန့်ပါရဲ့'' ဟု ကျေနပ်စွာတွေးလျက် ရှိလေ၏။

တောင်ကုန်း၏ တခြားဘက်မှ သာယာသည့် သီချင်းဆိုသံကို ကြားရသည့်အခါ၌ ပေါက်ယုမှာ အပျော်ကြီးပျော်လျက် ရှိလေပြီ။

နွေဦးအိပ်မက်တွေ....တိမ်တိုက်တွေနဲ့ လွင့်ပါးကြပေ....
ပန်းပွင့်တွေလဲ စမ်းရေစီးမှာ....မျောပါကြသလေ....
နုနယ်တဲ့ ချစ်သူတွေလဲ....မလိုအပ်ဘဲနဲ့ ဒေါသည်းမကဲ့ကြဖို့....
သတိပေးလိုက်လေ....

ထိုအသံမှာ မိန်းမပျိုကလေးတစ်ယောက်၏ အသံ ဖြစ်၏။ သီချင်းမဆုံးခင်မှာပင် တောင်ကုန်းကိုကွေ့ပတ်ကာ မိမိထံလာနေသော မိန်းမပျိုကလေးတစ်ယောက်ကို မြင်ရလေ၏။ ထိုမိန်းမပျိုကလေးမှာ လွန်စွာကျက်သရေရှိကာ လှပချောမောလှသည့်အတွက် လူစင်စစ်မဖြစ်နိုင်။ ဘုံကြွှီးပြတ်သည့် နတ်မိမယ်တစ်ပါးပင်ဖြစ်ရမည်ဟု ပေါက်ယု ထင်လိုက်လေ၏။ ထိုနတ်မိမယ်၏ အလှကို ရေးပြရလျှင် အောက်ပါအတိုင်း ရေးပြနိုင်ပေ၏။

နတ်မိမယ်သည် မိုးမခကမ်းပါးမှထွက်ခဲ့ပြီးလျှင် ပန်းတောကြီးထဲသို့ ဖြတ်သန်း၍ လျှောက်လာခဲ့လေ၏။ သူ့ခြေသံကြောင့် ဥယျာဉ်ထဲရှိ သစ်ပင်များပေါ်တွင် နားနေကြသည့် ငှက်ကလေးများမှာ လန့်ပျံသွားကြလေ၏။ မကြာခင် ထိုနတ်မိမယ်၏ အရိပ်သည် ကျောက်သားဝရန်တာပေါ်သို့ ထိုးကျသွားလေ၏။ လေထဲတွင် တလှင့်လှင့်ပျံဝဲလျက်ရှိသည့် နတ်သမီးဝတ်ရုံလွှာမှာ ကတိုးနံ့နှင့် ခွာညိုနံ့တို့ မွှေးကြိုင်သင်းထုံလျက်ရှိသဖြင့် ရှူရှိုက်ရသူအပေါင်းတို့ကို ရီဝေယစ်မူးစေလေ၏။ ကြာပန်းလွှာဇာတ်ရုံကို လေတိုးသည့်အခါ၌ ထိုဝတ်ရုံတွင် ဆွဲထားသည့် ကျောက်မျက်ရတနာတို့သည် တချင်ချင်မြည်လျက် ရှိကြလေ၏။

နတ်မိမယ်၏ ပါးချိုင့်ကလေးများ ပေါ်နေသည့် အပြုံးသည် နွေဦးတွင်ပွင့်သည့် မက်မုံပွင့်နှင့် တူ၏။ ပြာမှောင်ဓသော ဆံကေသွယ်တို့သည် တိမ်တိုက်များနှင့် တူ၏၊ နှုတ်ခမ်းများသည် ချယ်ရီပန်းကဲ့သို့ ဖြစ်၍ သလဲစေ့သဖွယ်သွားများမှ ထွက်လာသည့် ထွက်သက်သည် မွှေးပျံ့ပါပေ၏။

သေးသွယ်သည့် ခါး၏ကောက်ကြောင်းသည် လေတွင် နှင်းပွင့်ကလေးများ လွင့်ပါလာပုံနှင့် အလားသဏ္ဌာန်တူ၏။ နဖူးတွင်စည်းထားသည့် ဦးရစ်တွင် အဆန်းဆန်းအကြွယ် စီခြယ်အပ်သော ပုလဲလုံးများ၊ မြခဲများနှင့် နရဏီရွှေတို့သည် ပြိုးပြိုးပြက်ပြက် တောက်ပလျက် ရှိလေ၏။

နတ်မိမယ်သည် ပန်းတောကြီးထဲတွင် ပျောက်ကွယ်သွားချည် ပေါ်လာချည်ဖြစ်လျက်ရှိပြီး သူ့မျက်နှာမှာလည်း တစ်ခါတစ်ခါတွင် စိတ်ရှုပ်သည့်နှယ် မှုန်မှိုင်းသွားချည်၊ တစ်ခါတစ်ရံတွင် ပျော်မြူးသည့်နှယ် ရွှင်လန်းချည်ဖြစ်လျက် ရှိလေ၏။ ကန်ရေပြင်ကိုဖြတ်လာသည့်အခါတွင် နတ်မိမယ်သည် လေထဲတွင် ဝဲပျံလာသည့်နှယ် လွင့်မျောပါလာလေ၏။

ရွှေပိုးထိကောင်နှယ်ရှိသော သူ့မျက်ခုံးများသည် အနည်းငယ်တွန့်လျက်ရှိကြသည့်တိုင် အပြုံးတစ်ခုသည် မသိမသာယှက်သန်းလျက်ရှိပြီး စကားပြောမည့်ဟန်ဖြင့် လှပသော နှုတ်ခမ်းအစုံကို ဟထားသော်





လည်း မည်သည့်အသံကိုမျှ မကြားရချေ။ နတ်မိမယ်သည် ကြာပန်းကဲ့သို့သောခြေအစုံဖြင့် လျင်မြန်စွာလွင့်မျောနေရာမှ တစ်ခါတစ်ခါတွင် တုံ့ခနဲ ရပ်သွားရာ ငှက်သွင်ပျံကြွတော့မယောင် ထင်ရလေ၏။

အသားအရေမှာ ပြစ်မျိုးမွဲမထင်ဘဲ နှင်းခဲကဲ့သို့ ကြည်လင်သန့်ရှင်းကာ ပယင်းကဲ့သို့ ချော့မွေ့လျက် ရှိလေ၏။ နတ်မိမယ်၏ ဝတ်စုံမှာလည်း အဆန်းတကြွယ်ဖြစ်သော ပန်းပွင့်မျိုးစုံတို့ဖြင့် ရေးခြယ်ထားလေ၏။ မျက်နှာသည် ချိုမြလျက် နံ့သာပန်းပေါင်းနံ့ဖြင့် သင်းထုံကာ ပယင်းရောင်ဖြင့် လဲ့ကြည်လျက်ရှိလေ၏။ နတ်မိမယ်သည် ပျံသန်းတော့မည့် နတ်ငှက်တစ်ကောင်နှင့်သော် လည်းကောင်း၊ နဂါးတစ်ကောင်နှင့်သော်လည်းကောင်း တူပေ၏။

နတ်မိမယ်၏ဖြူဝင်းပုံကို မေးမည်လော။ နှင်းပွင့်များထဲမှ ချောင်းကြည့်နေသော ဆီးတော်ပွင့်များနှင့် တူပေ၏။ သန့်စင်ခြင်းကို မေးမည်လော။ နှင်းဝတ်လွှာကိုခြုံထားသည့် နတ်ပန်းမြခွာညိုနှင့် တူပေ၏။ တည်ကြည်ငြိမ်သက်ပုံကို မေးဦးမည်လော။ အထီးကျန် တောင်ကြားတစ်ခုထဲမှ ပိုင်းပင်တစ်ပင်နှင့် တူပေ၏။ အလှကို မေးမည်လော။ ငြိမ်သက်နေသည့် ကန်ရေပြင်တွင် မှန်ကြည့်နေသည့် ဆည်းဆာ နေဝင်ချိန်နှင့် တူပေ၏။ ကျက်သရေရှိပုံကို မေးမည်လော။ ကွေ့ကောက်နေသည့် စမ်းချောင်းကို ဆန်ကူးနေသည့် နဂါးတစ်ကောင်နှင့် တူပေ၏။ မနောဓာတ်ကို ပြောမည်လော။ နှင်းဝေနေသည့် မြစ်ယံပေါ်သို့ လရောင်ရည်ထိုးကျနေသည်နှင့် တူပေ၏။

နတ်မိမယ်သည်(ထျန်မင်းဆက်ခေတ် အလှမယ်များ ဖြစ်သော) ဝပ်ကျန်းကို ရှက်သွေး ဖျန်းစေကာ ဆီရှိကို အရှက်ရစေပေလိမ့်မည်။

နတ်ဘုံတွင် နတ်မိမယ်သည် တုကျွန်းလွတ်ပေ၏။ နတ်ပြည်မှ နှင်းအဆောင်ဆောင်တွင် နတ်မိမယ်သည် ပြိုင်နှုန်းကင်းပေ၏။

ဤအလှမယ်သည် မည်သူ ဖြစ်လေသနည်း။

ပေါက်ယုသည် နတ်မိမယ်ကိုမြင်လျှင် များစွာ တိမ်းညွတ်သည် ဖြစ်၍ ဦးညွှတ် နှုတ်ဆက်လေ၏။ ပေါက်ယုသည် ပြုံးလိုက်လျက်

''အို နတ်မိမယ်၊ ဘယ်ကလာ၍ ဘယ်ကိုသွားမည်နည်း။ ကျွန်ုပ်မှာ လမ်းပျောက်လျက် ရှိသဖြင့် လမ်းပြပါ'' ဟု ပြောလေ၏။

''ကျွန်ုပ်၏ဘုံသည် သောကပင်လယ် အတွင်းရှိ ပူဆွေးခြင်း ကျွန်း အထက်တွင် ရှိလေ၏။ ကျွန်ုပ်သည် အသခ်တဘုံ၊ ဂိမာန္တရာသီတောင် ထွတ်ရှိဂန္ဓမာဒနလှိုဏ်ဂူမြနန်းတွင် နေထိုင်သည့် မာယာဒေဝီ နတ်သမီး ဖြစ်ပေ၏။ ကျွန်ုပ်သည် လူ့ပြည်တွင် ရှိသည့် နဖူးစာ ဇာတ်လမ်းများနှင့် တုံ့ပြန်ခြင်း မခံရသော မေတ္တာဇာတ်လမ်းကို အစိုးရသူ ဖြစ်ပေ၏။ လူ့ပြည်တွင် ရှိသည့် မိန်းမတို့၏ သောကနှင့် ယောကျ်ားတို့၏ ရမ္မက်ကို အစိုးရသူ ဖြစ်ပေ၏။ ယခင် ဘဝဘဝများစွာက ချစ်သူတို့သည် ဤဘဝတွင် ပြန်လည်ဝင်စားကာ လာရောက် စုဝေးကြကုန်၏။ ထို့ကြောင့် ကျွန်ုပ်သည် ထိုချစ်သူတို့၏အချစ်နှင့်အလွမ်းကို ဖန်တီးပေးရန် ရောက် လာခြင်း ဖြစ်ပေ၏။

''ကျွန်ုပ်တို့သည် ဤနေရာနှင့် များစွာ မဝေးလှပါ။ ကျွန်ုပ်တွင် ညှော့ခံပြုံးစုစရာ ဆို၍ ကျွန်ုပ်လက်ဖြင့် ခူးထားသည့် နတ်သစ်ရွက်လက်ဖက် ရည်နှင့် ကျွန်ုပ်ကိုယ်တိုင် ချက်လုပ်ထားသည့် နတ်သုဒ္ဓါရည် သီချင်းသည်နှင့် ကခြေသည်များ အပြင် 'ခန်းဆောင်နီအိပ်မက်' အမည်ရှိသော နတ်တေးဂါထာ တစ်ဆယ့်နှစ်ပုဒ်တို့သာ ရှိပေ၏။ အသင်လူသား ကျွန်ုပ်နှင့် လိုက်ခဲ့ပါလေ''

ပေါက်ယုသည်ကျင်ကို့ကိုမေ့သွားလေပြီ။ အသခ်တဘုံဟု ကမ္ပည်း ထိုးထားသည့် ကျောက်ဖြူသား မုခ်ဦးကြီးထဲသို့ဝင်ကာ မာယာဒေဝီ နတ်သမီးနောက်သို့ လိုက်လာခဲ့လေ၏။ ကျောက်တိုင်ကြီး တစ်ဖက်တစ် ချက်တွင်မူ အောက်ပါအတိုင်း စာတန်း ထိုးထားလေ၏။

''အကြင်အရပ်၌ အတုကို အစစ်ဟု ထင်၏။ ထိုအရပ်၌ အစစ်သည် အတုဖြစ်၏။





အကြင်အရပ်၌ မဟုတ်ကို အဟုတ်ထင်၏။ ထိုအရပ်၌ အဟုတ်သည် မဟုတ်ဖြစ်၏။

မုခ်ဦးကြီးကို လွန်သော် အလွန်ကြီးကျယ်သည့် နန်းဘုံထွတ်ဘုံဆောင်ကြီး တစ်ခု၏ အဝကို လှမ်းမြင်လိုက်ရပြီးလျှင် ''သောကပင်လယ်နှင့် ချစ်ဘုံဗိမာန်'' ဟူသော စာလုံးများကို ရေးထိုးထားလေ၏။ ထိုစာတန်းကြီး ဘေးတစ်ဖက်တစ်ချက်တွင် အောက်ပါလင်္ကာတိုကလေးကို တွေ့ရလေ၏။

ရမ္မက်ဟူသည်၊ ပဝေဏိက
ဆုံးစမရှိ၊ မိုးထိမြင့်နိုင်
မြေသို့ခိုင်၏၊ မသိနားမလည်
လူငယ်လုံမ၊ သူ့ကိုတ,လည်း
ကျိုးယုတ်ကြလျက်၊ အရှက်ကင်းကင်း
လေညင်းလရောင်၊ အယောင်ဆောင်၍
တိမ်းရှောင်ကွေ့ပတ်၊ လာတတ်ကြရှင့်။ ။

''အလို၊ ရှေး အတီတေ ပဝေသဏီကရှိခဲ့သည့် ရမ္မက်နဲ့ လေညင်းနှင့် လရောင်တို့ကို အယောင်ဆောင်တဲ့ အရာတွေဟာ ဘာတွေများပါလိမ့်။ ခု ငါလဲ ဒီအရာတွေရဲ့ အရသာကို ခံစားချင်ပါဘိတော့တယ်'' ဟု ပေါက်ယု စိတ်မှ ဆိုမိလေ၏။

ဤသို့ တောင့်တလိုက်မိသည်နှင့် သူ့စိတ်ထဲသို့ မကောင်းသော မိစ္ဆာနတ် ဝင်ရောက်လာပြီကိုမူ ပေါက်ယု သတိမပြုမိချေ။

ပေါက်ယုသည် မာယာဒေဝီ နတ်သမီး နောက်သို့ လိုက်လာခဲ့ရာ တံခါးကြီးနှစ်ခုကို လွန်မြောက်ပြီးနောက် စာတန်းများ၊ လင်္ကာများ ရေးချိတ်ထားသည့် ခန်းဆောင် နှစ်ခုကိုလည်း ကျော်ဖြတ်ခဲ့လေ၏။ ပေါက်ယုသည် ထိုစာတန်းများကို ဖတ်ချိန်မရခဲ့သော်လည်း ခန်းဆောင်တွင် ရေးထားသည့် အမည်များကိုမူ ဖတ်မိခဲ့လေ၏။ ယင်းတို့မှာ တပ်မက်ယစ်မူးခြင်း ခန်းဆောင်၊ မနာလိုဝန်တိုခြင်း ခန်းဆောင်၊ နံနက်

ခင်း ငိုကြွေးရခြင်း ခန်းဆောင်၊ ညဉ့်ဦးယံ သက်ပြင်းချခြင်း ခန်းဆောင်၊ နေ့ဦးလွမ်းဆွတ်ခြင်း ခန်းဆောင်နှင့် နေ့နှောင်းဝမ်းနည်းခြင်း ခန်းဆောင်တို့ ဖြစ်ကြလေ၏။

"အသင်မာယာဒေဝီနတ်သမီး။ ဤသော ခန်းဆောင်တို့ကိုမှ မပြတော့ပြီလော"ဟု ပေါက်ယုက မေးလေ၏။

"ဤသည်တို့မှာ လူ့ပြည်မှ မိန်းမချော ကလေးများ၏ အတိတ်ဘဝနှင့် အနာဂတ်တို့ကို မှတ်တမ်းတင်ထားသည့် မှတ်တမ်းများ ဖြစ်ပေ၏။ထိုမှတ်တမ်းများကို သာမန်လူသားတို့ မျက်စိဖြင့် ကြည့်မြင်ခြင်ငှာမတတ်နိုင်"

သို့ရာတွင်ပေါက်ယုမှာ ထိုသို့သောအဖြေကို မကျေနပ်ဘဲအတင်းပူဆာလျက် ရှိသည့်အတွက် မာယာဒေဝီ နတ်သမီးက ခွင့်ပြုလိုက်လေ၏။

"ကောင်းပြီ။ ခန်းဆောင်များထဲသို့ ဝင်၍ ကြည့်လေတော့"

ပေါက်ယုသည် ဝမ်းသာအားရဖြင့် ခန်းဆောင်ထဲသို့ ဝင်ခဲ့လေ၏။ ကျောက်ပြားပေါ်တွင် ကံဆိုးသူတို့၏ စားပွဲခုံဟု ရေးထားပြီးကျောက် ပြား ပေါ် တွင် အောက်ပါ လင်္ကာတိုကလေးကို ရေးထားလေ၏။

နွေဦးသောက၊ ဆောင်းဗျာပါဒကို
သူတို့ကိုယ်မှာ၊ သူတို့ရှာကြ
သူတို့အလှ၊ ပန်းနှင့် လသို့
တင့်တယ်ရာမှ၊ ညှိုးခဲ့ပြီ။ ။

ပေါက်ယုသည် ထိုအဓိပ္ပာယ်ကို ချက်ချင်းသဘောပေါက်ကာ စိတ်လှုပ်ရှားစွာဖြင့် ခန်းဆောင်ထဲသို့ ဝင်ခဲ့သည်တွင် ဒေသအမျိုးမျိုးတို့၏ အမည်များကို ရေးထိုးပြီး ချိပ်ပိတ်ထားသည့် သေတ္တာကြီးဆယ်လုံးကို တွေ့ရ၏။ ပေါက်ယုသည် ထိုနယ်များ၊ ဒေသ များကိုစိတ်မဝင်စားနိုင်ဘဲ မိမိဒေသအမည်ပါသည့် သေတ္တာကြီးကို လိုက်လံရှာဖွေလျက် ရှိလေ၏။ နောက်ဆုံးတွင် 'ချင်လင်းမြို့မှ အလှမယ်





ဆယ့်နှစ်ဦး၏ ပထမစာရင်း'ဟု တံဆိပ်ကပ်ထားသည့် သေတ္တာကြီးတစ်လုံးကို တွေ့လေ၏။ ထိုစာတန်း၏ အဓိပ္ပာယ်ကို မေးမြန်းသည့်အခါတွင် မာယာဒေဝီက

"ဤသည်တို့မှာ သင်၏ဒေသတွင်ရှိသည့် အချော အလှမယ် ဆယ့်နှစ်ယောက်တို့၏ စာရင်းပင် ဖြစ်တော့သည်။ ထို့ကြောင့် ယင်းတို့ကို ပထမစာရင်းဟု အမည်ပေးရခြင်း ဖြစ်ပေ၏"ဟု ပြောလေ၏။

ပေါက်ယုက

"ချင်လင်းမြို့သည် အလွန်ကျယ်သည့် ဒေသကြီးတစ်ခု ဖြစ်ပါသည်ဟု ကြားဖူးပါသည်။ ထိုဒေသတွင် အဘယ်ကြောင့် မိန်းမပျိုဆယ့်နှစ်ဦးသာ စာရင်းတင်ထားသနည်း။ ကျွန်ုပ်၏ အိမ်ထောင်စုတွင်ပင်လျှင် ဆယ့်နှစ်ယောက်ရှိနေပြီ။ အစေတော်များပါ ထည့်တွက်လျှင် ရာချီ၍ပင် ရှိပါလိမ့်မည်"

"မှန်ပေ၏။ သင်တို့နယ်တွင် မိန်းမပျိုမြောက်မြားစွာရှိပေ၏။ ယခု ဤတွင် စာရင်းတင်ထားသည်မှာ အလှဆုံးမိန်းမပျိုများသာ ဖြစ်ပေ၏။ နောက်သေတ္တာနှစ်လုံးမှာ ဒုတိယတန်းနှင့် တတိယတန်း အလှမယ်များ၏ စာရင်းများပင်ဖြစ်ပေ၏။ ကျန်မိန်းမပျိုများမှာမူ သာမန်မျှသာ ဖြစ်သည့်အတွက် စာရင်းတင်ခြင်း မရှိပေ"

နောက်သေတ္တာနှစ်လုံးကို ပေါက်ယု ကြည့်ရှုသည့် အခါ၌ 'ချင်လင်းမြို့မှ အလှမယ် ဆယ့်နှစ်ယောက်တို့၏ ဒုတိယစာရင်း' နှင့် 'ချင်လင်းမြို့မှ အလှမယ်များ၏ တတိယစာရင်း'စသည့် စာတန်းများကို တွေ့ရလေ၏။ ပေါက်ယုသည် တတိယသေတ္တာကို ဖွင့်ကာ စာရင်းစာအုပ် ပထမစာမျက်နှာကို လှန်ကြည့်လိုက်လေ၏။ ထိုစာမျက်နှာတွင် မည်းမှောင်သော တိမ်တိုက်များနှင့် နှင်းများကျနေပုံကို မင်ဖြင့် ရေးဆွဲထားသည်ကို တွေ့ရလေ၏။ ထိုရုပ်ပုံ၏ဘေးတွင် အောက်ပါအတိုင်း ရေးထားလေ၏။

တိမ်စင်သောလကို တွေ့ရခဲပါသည်။

တောက်ပသော တိမ်တို့သည် အလွယ်တကူ လွင့်ပျောက်တတ်ကြသည်။

ချစ်နှမ၏ အသည်းနှလုံးသည် ကောင်းကင်ထက် မြင့်ပေ၏။
သို့ရာတွင် ကိုယ်ခန္ဓာမှာမူ နိမ့်ကျပေ၏။
နှမ၏အလှနှင့် ဉာဏ်ပညာသည် မနာလိုမှုကို ဖြစ်ပေါ်စေ၏။
အမနာပစကားတို့ကြောင့် ချစ်နှမ ဆုံးခဲ့ရပြီ။
ချစ်သူသခင်၏ ပူဆွေးခြင်းသည် အချည်းနှီးသာ။

နောက်တစ်မျက်နှာတွင်မူ ပန်းခိုင်တစ်ခိုင်နှင့် ဖျာစုတ်တစ်ချပ်ပုံ ရေးဆွဲထားသည်ကို တွေ့ရပြီး အောက်တွင် အောက်ပါစာကို တွေ့ရလေ၏။

နှမ၏ နူးညံ့မှုနှင့် ကြည်ဖြူမှုကို မည်သည့်အရာနှင့်မျှ မယှဉ်နိုင်။
နှမ၏ ကိုယ်သင်းနံ့သည် သဇင်နှင့် ခွာညိုတို့ကို ပိုင်လျက်ရှိ၏။
သို့ရာတွင် ဤသူကို ကချေသည်တစ်ဦးက ယူသွားခဲ့ပြီ။
သခင်မျှသည် ကံ ချော်ခဲ့လေပြီ။

ပေါက်ယုသည် ထိုစာ၏အဓိပ္ပာယ်ကို နားမလည်သဖြင့် ကျမ်း စာအုပ်ကို ချကာ နောက်သေတ္တာတစ်လုံးကိုဖွင့်ပြီး ‘ဒုတိယစာရင်း’ကို ယူကြည့်လေ၏။ စာအုပ် ပထမစာမျက်နှာ၌ ရေခန်းခြောက်နေသည့် ရေကန်တစ်ခုထဲရှိ ညှိုးခြောက်နေသော ကြာပွင့် တစ်ပွင့် ပေါ်တွင် ခွာညိုပွင့်တစ်ပွင့် ဆွဲထားသည်ကို တွေ့ရပြီး အောက်တွင် စာရေးထားသည်ကို တွေ့ရလေ၏။

နှမသည် ပွင့်ဆဲကြာပန်းကဲ့သို့ သင်းပျံ့ပေ၏။
သို့ရာတွင် နှမကဲ့သို့ ဖိနှိပ်ခံခဲ့ရသူသည် မရှိ။
မြေနှစ်မြေတွင် အထီးကျန် သစ်ပင် တစ်ပင် ပေါက်ပြီး သည့် အခါ၌
နှမ၏ဝိညာဉ်သည် နောက်ဆုံးကွန်းခိုရာသို့ ရောက်ပေတော့အံ့။

ဤသည်ကိုလည်း ပေါက်ယုနားမလည်သည့်အတွက် စာအုပ်ကို ချကာ ‘ပထမစာရင်း’ကို လှန်ကြည့်လေ၏။ ပထမ စာမျက်နှာတွင် သစ်ပင်ခြောက်နှစ်ပင်ပေါ်၌ မြပုလဲသွယ်တစ်ကုံးကို ချိတ်ဆွဲထားပြီး သစ်ပင်ခြေရင်းရှိ နှင်းရည်စမ်းချောင်းထဲတွင် ရွှေဆံထိုးတစ်ခု ကျလျက် ရှိလေ၏။ အောက်တွင်





အလို သနားဖွယ် ချစ်နှမ၊
သင်၏ မယားမြတ်ဂုဏ်ရည်အတွက်
နှမ၏ဉာဏ်သည် မိုးမခမြေအကြောင်းကို တေးသီခဲ့လေပြီ။
ကျိုးပဲ့နေသော ဆံထိုးသည် နှင်းထဲတွင် မြုပ်ခဲ့လေပြီ။
မြပုလဲကုံးသည် သစ်ကိုင်းတွင် ချိတ်ခဲ့လေပြီ။

ထိုစာ၏အဓိပ္ပာယ်ကိုလည်း ပေါက်ယု နားမလည်ချေ။ အကျိုးအကြောင်းကို မာယာဒေဝီနတ်သမီးအား မေးမြန်းသည့်တိုင် ပြောမည် မဟုတ်ကြောင်းကို သိပါ၏။ သို့ရာတွင် စာအုပ်ကို မချနိုင်ဘဲဖြစ်လျက်ရှိ၏။ ထို့ကြောင့် ပေါက်ယုသည် ကမ္ဘာလုံးကြီးတစ်လုံး တွဲလောင်း ချိတ်နေသည့် လေးတစ်စင်း၏ပုံ ရေးထားသည့်အရုပ်ကားကို ကြည့်နေ၏။

နန်းတော်တံခါးဝ သလဲပင်များသီးနေရာတွင်
နှမသည် အနှစ်နှစ်ဆယ်ပတ်လုံး လွှမ်းမိုး တရားစီရင်ခဲ့၏။
နွေနှောင်းသည် နွေဦးအစနှင့် မည်သို့ တူနိုင်မည်နည်း။
ရွှေယုန်နှင့် ရွှေကျားတို့ တွေ့ကြသည့်အခါတွင်
နှမသည်လည်း ဘဝအိပ်မက်မှ ထွက်ခွာသွားရတော့အံ့။

နောက်စာမျက်နှာတစ်ခုတွင် လူနှစ်ယောက်သည် လေတံခွန် တစ်ခုကိုလွှတ်လျက်ရှိကြ၏။ အဝေးပင်လယ်ပြင်တွင်မူ မိန်းမပျို တစ်ယောက် လှေကလေးတစ်စင်းပေါ်တွင်ထိုင်ကာ မျက်နှာကို လက်ဝါး ဖြင့်အုပ်၍ ငိုကြွေးလျက်ရှိလေ၏။ အောက်တွင် စာတန်းရေးထိုးထား လေ၏။

စိတ်ထားမြင့်၍ ပါရမီရင့်သည့်တိုင်
နှမသည် ကံကြမ္မာကို မမီလိုက်ဘဲ နောက်ကျ၍ မွေးလာခဲ့၏။
ကြည်လင်တောက်ပသည့်နွေ၌ နှမသည်
မျက်ရည်ဖုံးသော မျက်လုံးများဖြင့် စမ်းချောင်းကို ငေးကြည့် ခဲ့၏။

အရှေ့လေသည် မိုင်ပေါင်းတစ်သောင်း တိုက်ခတ်သည့်တိုင်
နှမ၏ မွေးရပ်မြေသည် အလှမ်းတာ ဝေးကွာလှပါ၏။
နောက်တစ်မျက်နှာတွင် လွင့်နေသော တိမ်တိုက်များနှင့် စီးနေသော ရေတို့ကို ရေးဆွဲထားလျက် အောက်ပါအတိုင်း စာတန်းထိုးထားသည်။

စုတ်ပြတ်သော အဝတ်အစားများနှင့် မိဘမဲ့ နှမငယ်
ဂုဏ်နှင့်ဓနတို့ ကင်းမဲ့ရှာ၏။

လျှပ်တစ်ပြက်အတွင်း၌ ဝင်လုဆဲနေမင်းကို တမ်းတ၏။
စိုင်မြစ်လည်း ရေခန်းပြီ။ ချူမြစ်ပေါ်မှ တိမ်တို့လည်း ပြယ်လေပြီ။

နောက်တစ်ပုံမှာ ရွှံ့ထဲသို့ကျနေသော မြကျောက်တစ်လုံး၏ပုံကို ဆွဲထားပြီး အောက်တွင်မူ

သန့်စင်ခြင်းသည် နှမ၏ဆန္ဒ။
ကေစာကျင့်ခြင်းသည် နှမ၏အလို။
ရွှေနှင့်မြကဲ့သို့ လှပသော်လည်း
နောက်ဆုံးတွင် ညွှန်မှာနစ်ရပေ၏။

နောက်ဆုံးတစ်ပုံမှာ ရက်စက်ကြမ်းကြုတ်သည့် ဝံပုလွေ တစ်ကောင်က လှပချောမောသည့် မိန်းမပျိုကလေးတစ်ယောက်ကို ဝါးမျိုစားသောက်ရန် လိုက်လံဖမ်းဆီးနေသည့်ပုံ ဖြစ်ပြီး အောက်ပါအတိုင်း ရေးထားလေ၏။

နှမသည် တောဝံပုလွေကို လင်ပြုရတော့အံ့။
ဝံပုလွေသည် လိုရာကိုရသည်နှင့် ဝါးမျိုစားသောက်တော့သည်။
ရွှေပန်း ပေါင်းကူးအောက်တွင် မိုးမခပန်းတို့ ပွင့်ကြပေ၏။
မကြာမီတွင် နိုးထလာသောလူရိုင်းသည် နှမကိုစောင့်လင့်ပေ၏။





နောက်တစ်ပုံမှာ တန်ဆောင်းပျက်ကြီးတစ်ခုထဲတွင် သုတ္တန်ကို ဖတ်နေသည့် မိန်းမပျိုကလေးတစ်ယောက်၏ပုံဖြစ်ပြီး အောက်ပါအတိုင်း ရေးထားလေ၏။
ကြွေလျောကုန်လုနွေဦး၌
နှမသည် ဝတ်ကြောင်ကိုစွန့်ကာ ဘိက္ခုနီမဝတ်ရုံကို ဆင်မြန်း၏။
ချမ်းသာ၍ အမျိုးမြတ်သောအိမ်ထောင်မှ ဆင်းသက်လာသည့်
နှမသည်

တန်ဆောင်းအိုမှ ဆီမီးမှိန်မှိန်ထဲတွင် အိပ်စက်နေချေပြီတကား။

ထို့နောက်တွင် ရွှံ့ခဏလေးတစ်ရှာ၌ မိန်းကလေးတစ်ယောက် ပိုင်းငင်နေပုံဖြစ်ပြီး အောက်ပါအတိုင်း စာတန်းထိုးထား၏။

ဥစ္စာနေက မျက်မှောင်ကုတ်သည့်အခါတွင် မျိုးရိုးမြတ်ခြင်းသည်လည်း အချည်းနှီးသာ။
မိသားစုတစ်စု စီးပွားပျက်ပြီဆိုလျှင် ဆွေမျိုးတို့ကလည်း အကြင်နာမဲ့ကြသည်သာ။
ကံတရားက အသွားလူကို အကူအညီပေးလိုက်သည့်အတွက်
အသွားသည် အရေးအကြောင်းရှိလျှင် မိတ်ဆွေကောင်းကို တွေ့ရလေအံ့။

၆

ထို့နောက်တွင် နန်းတွင်းသူအဝတ်ကို ဝတ်ဆင်ထားသည့် မိန်းမချောကလေးတစ်ဦးအနီးတွင် သဇင်ပန်းအိုးကြီးတစ်လုံးကို ရေးထားပြီး အောက်ပါအတိုင်း စာတန်းထိုးထားသည်။

ဓန္နဦးလေပြည်ထဲတွင် မက်မုံနှင့် ဆီးတို့ ပျိုးကြဲပြီးကြပြီ။
ခွာညိုပန်းကို မည်သူအနှိုက်တုပွင့်နိုင်သနည်း။
နှင်းနှင့်ရေကဲ့သို့ သန့်စင်သောကြောင့် နှမကို မနာလို ဖြစ်ကြ၏။
အခြေအမြစ်မဲ့သော ကဲ့ရဲ့စကားတို့သည် အချည်းနှီးသာတည်း။

နောက်တစ်ပုံမှာ မျှော်စင်ပေါ်တွင် မိန်းကလေးတစ်ယောက် ကြိုးဆွဲချ အဆုံးစီရင်သည့်ပုံဖြစ်ပြီး အောက်ပါအတိုင်း ရေးထား၏။

ပင်လယ်နှင့် ကောင်းကင်ကဲ့သို့ အတိုင်းအဆမရှိသော အချစ်
သည် မာယာတည်း။
ချစ်သူချင်းတွေ့သည့်အခါတွင် ရမ္မက်သည် ဘုရင်ဖြစ်၏။
မာန်ထောင်မှုမှန်သမျှသည် ယွန်းစံအိမ်မှလာသည် မဟုတ်။
ပျက်စီးမှုတို့သည် နိန်စံအိမ်မှ အစပြုပေသတည်း။

ပေါက်ယုက ဆက်ဖတ်မည်ပြုသေးသော်လည်း မာယာဒေဝီသည် ပေါက်ယု၏ ဉာဏ်ထက်မြက်ပုံနှင့် အကင်းပါးနပ်ပုံကို သိသည့်အလျောက် ကောင်းကင်ရှိ လျှို့ဝှက်မှတ်တမ်းတို့ကို သိသွားမည်စိုးသည့်အတွက် ဖတ်ခွင့်မပေးတော့ဘဲ စာအုပ်ကိုပိတ်လိုက်ကာ ပြုံးလျက်

“ဤဘာမဟုတ်သည့် စကားထာများ၊ ပဟေဠိများကို ဖတ်နေမည့်အစား ကျွန်ုပ်နှင့် အတူလိုက်၍ လှပသော ရှုခင်းများကို ကြည့်ပါလေ” ဟု ပြောလေ၏။

ပေါက်ယုသည် မှင်တက်မိနေသူတစ်ဦးကဲ့သို့ပုလဲတို့ မြိတ်ချထားသော ခန်းဆီးများ၊ ရွှေချည်ထိုး ကန့်လန့်ကာများ၊ အပြောက်အမွှန်တို့ ခြယ်ထားသည့် တိုင်လုံးကြီးများနှင့် ပန်းကြွတို့ ဖော်ထားသည့် တံလျောက်များ ဆင်ယင်ထားရာ ခန်းဆောင်ကြီးများကို ဖြတ်၍ မာယာဒေဝီနောက်မှ လိုက်လာခဲ့လေ၏။ ပြိုးပြက်တောက်ပလျက် ရှိသော ဟင်္သာ ပြဒါးရောင် ခန်းဆောင်ကြီးများ၊ ရွှေစင်တို့ ခင်းထားသည့် ကြမ်းပြင်များ၊ နှင်းပွင့်ကဲ့သို့ တလက်လက် တောက်ပနေသည့် လေသာပြတင်းကြီးများ၊ ကျောက်စိမ်းတို့ဖြင့် ဆောက်ထားသည့် နန်းဆောင်ကြီးများနှင့်တကွ နတ်ပန်းများ၊ ရှားပါးသည့် နတ်သစ်ပင်များ၊ မွှေးကြိုင်သင်းပျံ့လျက်ရှိသည့် ဆေးပင်များတို့ဖြင့်ပြည့်နှက်လျက်ရှိသော ထိုနေရာအကြောင်းကိုစာဖြင့်ဖော်ပြခြင်းငှာ မတတ်နိုင်တော့ပြီ။ ပေါက်ယုသည် ထိုသို့ အံ့ဖွယ် ဘနန်း အဆန်းဆန်း အကြွယ်ကြွယ် ရှိနေသည့် အရာများကို ငေးမောကြည့်ရှု လိုက်လာစဉ်တွင် မာယာဒေဝီက ရယ်လိုက်လျက်





“ကဲ ကဲ ညီမလေးတို့ လာကြဟေ့။ ဟောဒီက တို့ရဲ့ ဧည့်သည်တော်ကြီးကို လာကြိုလှည့်ကြ” ဟု ခေါ်လိုက်လေ၏။

ထိုသည်နှင့် တစ်ပြိုင်နက် ကြာပန်း ဝတ်လွှာလက်များကို ဝှေ့ယမ်းလျက် ငှက်မွေးဝတ်ရုံကို ခြုံကာ နွေဦးပန်းပွင့်များကဲ့သို့ လှပတင့်တယ် ရှုချင်စဖွယ် ရှိသည့် နတ်သမီးများသည် နွေနှောင်းတွင် သာသည့် လပြည့်ဝန်းကြီးကဲ့သို့ ပေါ်လာလေ၏။ ပေါက်ယုကို မြင်သည့်အခါတွင် နတ်သမီးများက

“အလိုလေး၊ မမဧည့်သည်ကြီးကို ဘာဖြစ်လို့ ကြိုရမှာလဲ မမရဲ့၊ မမက ပြောတော့ ဒီနေ့ ဒီအချိန်မှာ ပုလဲနီ နတ်သမီးလေး ကျွန်မတို့ဆီကို အလည်လာလိမ့်မယ်ဆို။ သူ ပျော်ပါးသွားတဲ့ ကျွန်မတို့ နတ်ဘုံကို အလည်လာကြည့်လိမ့်မယ်ဆို၊ ခုတော့ မမရဲ့ ဧည့်သည်က လူ့ပြည်က လူသားပါကလား။ လူသားဆိုတာ နိမ့်ကျပြီး ညစ်ညမ်းပါတိသနဲ့။ ကျွန်မတို့ရဲ့သန့်ရှင်းတဲ့ဘုံတော့ညစ်ညမ်းတော့မှာပါပဲ” ဟု အပြစ်တင်ကြလေ၏။

ပေါက်ယုသည် မိမိ၏ ညစ်ညမ်းသည့်အဖြစ်ကို သိရှိကာ ထိုဘုံမှ ချက်ချင်း ထွက်ပြေးချင်စိတ်များ ပေါ်ပေါက်လာလေ၏။ သို့ရာတွင် မာယာဒေဝီက ပေါက်ယု၏ လက်ကို လှမ်းဆွဲလိုက်ပြီးလျှင်

“ညည်းတို့ နားမလည်ပါဘူးအေ။ ဒီနေ့ တို့ညီမဖြစ်တဲ့ပုလဲနီနတ်သမီးကလေး လူ့ပြည်မှာ ဝင်စားရာဖြစ်တဲ့ ယွန်းစံအိမ်ကြီးကို ငါသွားတော့ နိန်စံအိမ်ကြီးကို ဖြတ်အလာမှာ မြို့စားကြီး နိန်တူနဲ့ မြို့စားကြီး ယွန်းကူတို့ရဲ့ ဝိညာဉ်တွေနဲ့ တွေ့တယ်။ သူတို့က ဘာပြောသလဲဆိုတော့ ‘၄ မင်းဆက် စသည့်အချိန်မှ မျိုးဆက်ပေါင်းများစွာအထိ ကျွန်တော်တို့သည်ရာထူးအားဖြင့်လည်းကောင်း၊ ဥစ္စာဓနအားဖြင့်လည်းကောင်း၊ ဂုဏ်သိန်အားဖြင့် လည်းကောင်း ကြီးကျယ် ထင်ရှားခဲ့ပါသည်။ သို့ရာတွင် အနှစ်တစ်ရာခန့် ကြာသည့်အခါတွင် ကျွန်တော်တို့၏ စည်းစိမ်ဥစ္စာတို့သည် ယိုယွင်းခဲ့ပါသည်။ ကျွန်တော်တို့တွင်သားစဉ်မြေးဆက် များစွာ ရှိသည့်တိုင် ကျွန်တော်တို့ကို ဆက်ခံနိုင်မည့်သူမှာ ကျွန်တော်တို့၏ မြစ်ဖြစ်သော ပေါက်ယု တစ်ယောက်သာ ရှိပါသည်။ ပေါက်ယုသည်

ခေါင်းမာ၍ စိတ်ရှူးထတတ်ပြီး အသိဉာဏ်ပညာ နည်းသည့်တိုင် သူ့ အပေါ်တွင် ကျွန်တော်တို့ မျှော်လင့်ချက် များစွာ ထားကြပါသည်။ သို့ရာတွင် ကျွန်တော်တို့ ဆွေမျိုးစု၏ ကံကြမ္မာသည် မှေးမှိန်ဖြာ ပေါက်ယုအား နည်းမှန်လမ်းမှန်ကို ပြနိုင်သူ ဟူ၍ ဆွေမျိုးစုထဲတွင် မရှိ တော့လောက်အောင် ဖြစ်ခဲ့ပါသည်။ ယခု အသင် မာယာဒေဝီ နတ် သမီးနှင့် တွေ့ရခြင်းမှာ ကျွန်တော်တို့အတွက် များစွာ ကံကောင်းလှ ပါသည်။ မိန်းမလိုက်စားခြင်း၊ ရမ္မက်အလိုသို့ လိုက်ကာ မိန်းမများနှင့် ပျော်မွေ့ခြင်းသည် မည်မျှ အန္တရာယ်ကြီးကြောင်းကို မာယာဒေဝီ နတ်သမီးက သတိပေး နိူးဆော်စေချင်ပါသည်။ ထိုသို့ သတိပေးမှသာ လျှင် မညွှတ်ကွင်းမှ လွတ်ကင်းကာ မှန်ကန်သော လမ်းပေါ်သို့ လျှောက် သွားနိုင်မည် ဖြစ်ပါသည်။ ထိုအခါတွင် ကျွန်တော်တို့ ညီအစ်ကို နှစ် ယောက်သည် စိတ်ချမ်းသာမည် ဖြစ်ပါသည်’တဲ့။

“ဒီတော့ ငါလဲ သူတို့ရဲ့ တောင်းပန်ချက်အရ ပေါက်ယုကို ဗျို တိုင်းပြည်ကို ခေါ်လာခဲ့ရတယ်။ တို့တိုင်းပြည်ကို ရောက်တဲ့အခါကျတော့ ငါက သူတို့မိသားစုဆွေမျိုး မိန်းမလေးတွေရဲ့ စာရင်းသုံးခုကို ပြကြည့် တယ်။ ဒီစာရင်းတွေကို ပြရုံနဲ့ သဘောမပေါက်တဲ့ အခါကျတော့ ကာမတဏှာတို့ဟာ ဘယ့်ကလောက် ဆိုးတယ်ဆိုတာကို မြည်းစမ်းကြည့် ဖို့ ဒီကို ခေါ်လာခဲ့တယ်။ ဒီလို မြည်းစမ်းကြည့်ပြီး ကာမတဏှာ၏ အချည်းနှီး အကျိုးမဲ့ပုံကို သိတော့မှ သစ္စာတရားကို မြင်နိုင်ပေမှာ ပေါ့”

ထိုသို့ ပြောဆိုပြီးနောက် မာယာဒေဝီသည် အတွင်းဆောင်တစ် ခုထဲသို့ ခေါ်သွားလေ၏။ အတွင်းသို့ ရောက်သည့်အခါတွင် အမွှေးနံ့ တစ်ခုသည် လွန်စွာသင်းထုံ မွှေးကြိုင်လှသည့်အတွက် ပေါက်ယုသည် မအောင့်နိုင်တော့ဘဲ မည်သည့် အမွှေးနံ့မျိုးနည်းဟု မေးမြန်းကြည့်ပါ လေ၏။

မာယာဒေဝီက ပြုံးလျက်

“သင်တို့၏ ဖုန်စွန်းသော လူ့ပြည်တွင် ဤရနံ့မျိုး မရှိလေ။ ထို့ကြောင့် သင်သိနိုင်မည် မဟုတ်။ ဤရနံ့သည် ကျွန်ုပ်တို့ ဘုံတွင်ရှိ





တောင်ထွတ်ဖျားတို့တွင် ပေါက်သော အထူးထူးသော နတ်ပန်းမျိုးတို့မှ အဆီအနှစ်ကို ထုတ်ယူပြီးလျှင် အဖိုးတန် နတ်သစ်ပင်များစွာမှ အစေး နှင့်ဖြင့် ချက်လုပ်ထားသည့် အမွှေးနံ့ဖြစ်ပြီး ယင်းကို နံ့သာမွှေးဆီ မပေါင်းချုပ် ဟု ခေါ်ပေ၏”

ပေါက်ယုသည် ထူးခြားလှသည့် ထိုရနံ့ကို တအံ့တဩ ဖြစ်လျက် ရှိရင်း ညောင်စောင်းတွင် ဝင်ထိုင်လိုက်သည့်အခါ၌ နတ်သမီးများ သည် လွန်စွာ ရနံ့မွှေးကြိုင်၍ အရသာ ထူးလှသည့် နတ်သစ်ရွက်လက် ဖက်ရည်ကို လာရောက်တည်ခင်းကြလေ၏။ ဤတွင်လည်း ပေါက်ယု သည် အနံ့အရသာ ထူးလှသည့် ထိုနတ်သစ်ရွက် လက်ဖက်ရည် အကြောင်းကို မေးမြန်းမိပြန်လေ၏။

“ဤလက်ဖက်ပင်သည် ဂိမန္တတောင်ထွတ်ဖျားရှိ ဂန္ဓမာဒန ကိုက်ဂူတွင် ပေါက်ရောက်ပေ၏။ ထိုနတ်သစ်ရွက်ကို မဉ္ဇူသကနတ်ပန်း များပေါ်တွင် တင်နေသည့် နှင်းစက်များနှင့် ရော၍ဖျော်စပ်ထားခြင်း ဖြစ်ပေ၏။ ယင်းနတ်သစ်ရွက်၏ အမည်မှာ ‘တစ်ထောင်သော အာသာ ပေါ် နတ်ပန်းနွယ်နီ’ ဟု အမည်တွင်ပေ၏”

ပေါက်ယုသည် မိမိ၏ပတ်ဝန်းကျင်ကို လှည့်ကြည့်လိုက်မိ၏။ မဟူရာစောင်းများ၊ ရှားပါးသည့် သုံးချောင်းထောက် ကြေးဒေါင်း ပန်းကြီးများ၊ ရှေးပန်းချီကားကြီးများနှင့် လင်္ကာ ကျမ်း များ ကို တွေ့ရလေ၏။ သို့ရာတွင် ပေါက်ယု သဘောအကျဆုံးအရာမှာ လေသာ ပြူတင်းတွင် စွန်းပေနေသည့် နူတ်ခမ်းဆိုးသော ဒန်းနီရောင်ဆေးစများ နှင့် နတ်သမီးတစ်ပါး၏ ယွန်းအစ်ထဲမှ ကျကျန်ရစ်ခဲ့သော နံ့သာမှုန့် အစအနများ ဖြစ်လေ၏။ နံရံပေါ်တွင်မူ

‘သီးသန့်ရိပ်မြုံ၊ နတ်တို့ဘုံ

ထွတ်ပျံ့ဖွယ်ရာ နတ်တို့ရွာ’ ဟု ရေးထားလေ၏။

ပေါက်ယုသည် မြင်ရသမျှကို ကြည့်၍ ကြည်နူးလျက်ရှိက နတ်သမီးတို့၏အမည်များကို မေးမြန်းကြည့်လေ၏။ ယင်းတို့၏ အမည် များမှာ အိပ်မက်ပျော်ဖွယ်နတ်သမီး၊ ရမ္မက်ကေရီနတ်သမီး၊ သောက ယူဆောင် နတ်သမီးနှင့် သောကမျှယူနတ်သမီးတို့ ဖြစ်လေ၏။

ထိုစဉ် နတ်အစေတော်များသည် ထိုင်ခုံနှင့် စားပွဲများကို ယူ လာပြီး နတ်သုဒ္ဓါရည်များနှင့် ခဲဖွယ်ဘောဇဉ်တို့ကို တည်ခင်းလေ၏။ နတ်သုဒ္ဓါရည်တို့ ထည့်ထားသည့် ဖန်အိုးကြီးများနှင့် ပယင်းခွက်များ ကိုလည်း ယူလာလေ၏။ ဤစားသောက်ပွဲကြီး မှည် မျှ ကြီး ကျယ် ခမ်းနားကြောင်းကိုမူ အကျယ်မဆိုတော့ပြီ။ သို့ရာတွင် နတ်သုဒ္ဓါ ရည်မှာ များစွာအနံ့အရသာ ကောင်းမွန်လှသည့်အတွက် ပေါက်ယု သည် ထိုအကြောင်းကို မစုံစမ်းဘဲ မနေနိုင်ချေ။

''ဤနတ်သုဒ္ဓါ ယစ်မျိုးမှာ ပန်းပေါင်းတစ်ရာတို့၏ ဝတ်မှုန် များနှင့် နတ်သစ်ပင်ပေါင်း တစ်ထောင်တို့၏ အစေးများကို နတ် မြင်းပျံတို့၏ ခြင်ဆီနှင့်ရောစပ်ကာ နို့တိုက်၍ အတောင်ပံဖြင့်ပျံသော နတ်ငှက်တစ်မျိုး၏ နို့ရည်ဖြင့် ချက်လုပ်ထားခြင်း ဖြစ်ပါသည်။ ထို နတ်သုဒ္ဓါယစ်မျိုးရည်ကို 'ခွက်တစ်ခွက်ထဲတွင် စုထားသော အလှမယ် ပေါင်း တစ်သောင်း' ဟု ခေါ်ပါသည်'' ဟုမဒယာဒေဝီက ပြောလေ၏။

ပေါက်ယုက နတ်သုဒ္ဓါရည်တို့ကို သောက်သုံးလျက်ရှိစဉ် ကပြ လျက်ရှိသည့် ကချေသည် နတ်သမီးတစ်ဆယ့်နှစ်ယောက်တို့သည် အမြ သို့ တိုးလာကြကာ မည်သည့်အကမျိုးကို က ပြရမည်နည်းဟု မေး မြန်းကြ၏။

'''ခန်းဆောင်နီအိပ်မက်' ဆိုတဲ့ တေးသီချင်း ဆယ့်နှစ်ပုဒ်ရှိတယ် မဟုတ်လား၊ အဲဒီတေးသီချင်းတွေကို ဆိုကြစမ်း'' ဟု မာယာဒေဝီ နတ်သမီးက ပြောလေ၏။

ထိုအခါတွင် နတ်သမီးတစ်ဆယ့်နှစ်ယောက်တို့သည် ကရမက် သားဖြင့် လုပ်သည့် လက်ခုပ်နှင့်ငွေစောင်းတို့ကို ကောက်ယူတာ တေး သီချင်းကို တီးမှုတ်လေ၏။





သို့ရာတွင် မဒယာဒေဝီနတ်သမီးက ကြားဖြတ်လျက် ပေါက်ယု ထက် လှည့်လိုက်ပြီးလျှင်

''ယခုတေးသီချင်းမှာ သင်တို့၏ ဖုန်စွန်းသော လောက လူ့ ပြည်တွင် ရှိသည့် စိတ်ကူးယဉ် ဇာတ်သဘင်များနှင့်မတူ။ သင်တို့ လူ့ ပြည်က ဇာတ်သဘင်များမှာ သူခမိန်များ၊ မိန်းမချောများ၊ စစ်သူ ကြီးများ၊ လူအိုကြီးများနှင့် လူပြက်များသာပါဝင်၍ တီးမှုတ်သီဆိုသည့် တေးသွားမှာလည်း ကိုးမျိုးမျှသာ ရှိပေ၏။ ယခု ကျွန်ုပ်တို့တေးသီချင်း များမှာမူ အဖြစ်အပျက်တစ်ခု၊ သို့မဟုတ် လူတစ်ယောက်အကြောင်း ကို ချက်ချင်းဖွဲ့ဆိုနိုင်ပြီး ကြိုးတပ်တူရိယာ သို့မဟုတ် လေမှုတ်တူရိယာ တို့ဖြင့် တီးမှုတ်နိုင်ပေ၏။ သို့ရာတွင် ဤတေးသီချင်း၏ အဓိပ္ပာယ်မှာ နူးညံ့သိမ်မွေ့လှသည် ဖြစ်သောကြောင့် ကျွန်ုပ်တို့ဘုံသားမှအပ ဖြစ် သော အခြားသူတို့ ကောင်းစွာနားလည်နိုင်လိမ့်မည် မဟုတ်ချေ။ သင် လည်း ကောင်းစွာ နားလည်လိမ့်မည်မဟုတ်ဟု ကျွန်ုပ် ထင်ပေ၏။ အကယ်၍ စာသားတို့ကို မသိရလျှင် ဤဂီတသည် ဖယောင်းကို ဝါး ရသည့်နှယ် အရသာကင်းမဲ့လျက် ရှိပေလိမ့်မည်''

ထို့နောက် မာယာဒေဝီနတ်သမီးသည် 'ခန်းဆောင်နီ အိပ်မက်' တေးသီချင်းစာသားများကို ယူလာခဲ့ရန် နတ်အစေတော်တစ်ယောက် ကို ခိုင်းလိုက်လေ၏။ ရောက်လာသည့်အခါတွင် ပေါက်ယုကို လှမ်း ပေးလိုက်သဖြင့် ပေါက်ယုသည် စာသားကိုကြည့်ကာ ဂီတကို နား ထောင်လျက် ရှိလေ၏။

ပထမပိုဒ်

ခန်းဆောင်နီအိပ်မက် တေးသီချင်း ခြေဆင်း။

ကမ္ဘာကြီး၏ အရုဏ်ဦးအစတွင်
အချစ်၏မျိုးစေ့တို့ကို မည်သူကြဲခဲ့လေသနည်း။
လေညင်းနှင့် လှရောင်တို့၏ ပြင်းပြသော ရမ္မက်မှ
မျိုးစေ့တို့ ပေါက်ဖွားလာခဲ့ကြပေ၏။
ထို့ကြောင့် ဆွတ်ပျံ့လွမ်းမောရသော လောကတွင်

ပူဆွေးရသောနေ့၊ အထီးကျန်ဖြစ်ရသော နာရီ၌
ကျောက်စိမ်းနှင့် ရွှေတို့အတွက်
ငါ၏ အချည်းနှီးသော ပူဆွေးမှုကို
ခန်းဆောင်နီအိပ်မက်တေးကို သီဆိုခြင်းဖြင့်
ဖြေဖျောက်ပါအံ့။

ဒုတိယပိုဒ်

အချည်းအနှီးဖြစ်ရသော ဘဝတစ်ခု။

ရွှေနှင့် ကျောက်စိမ်းတို့သည် လိုက်ဖက်သည်ဟု ပြောကြ၏။
သစ်ပင်နှင့်ကျောက်ခဲတို့၏သစ္စာကို ငါသာလျှင် သိ၏။
ပြိုးပြိုးပြက်ပြက် နှင်းတို့ဖုံးလျက်ရှိသော တောင်ရိုးတွင်
သူတော်စင်ကို ဖူးမြော်ဆာနိုတော့ရင်း
ကမ္ဘာတစ်ဖက်ရှိ အထီးကျန် သစ်တောများမှ၊ နတ်သမီးကို
သတိရတာ
လူ၏ ပျော်ရွှင်ချမ်းသာမှုသည် ဘယ်ခါမျှ ပြည့်စုံသည်မရှိဟု
တွေးလျက်
ငါ သက်ပြင်းချ၏။
ရှေးသွားနောက်လိုက်ညီလှသည့် မောင်နှံပင်လျှင်
စိတ်ပျက်စရာကို တွေ့ရပေသေး၏။

တတိယအပိုဒ်။

အချည်းနှီးသော လွမ်းဆွတ်ခြင်း။

တစ်ခုသည် နတ်ပြည်မှ အာသာဝတီ နွယ်နီနတ်ပန်း ဖြစ်၏။
တစ်ခုသည် အပြစ်အနာကင်းသော ကျောက်စိမ်းတုံးဖြစ်၏။
ကံကြမ္မာဆုံးဖြတ်ပြဋ္ဌာန်းခြင်း မပြုပါက
သူတို့နှစ်ခု အဘယ်ကြောင့်လာ၍ ဆုံဆည်းကြလေသနည်း။
အကယ်၍ ကံကြမ္မာက ပြဋ္ဌာန်းခဲ့သည်ဆိုလျှင်လည်း





သူတို့အချစ်သည် အဘယ်ကြောင့် အဆုံးသို့ ရောက်ခဲ့ရသနည်း။
တစ်ခုသည် ရည်ရွယ်ချက်မဲ့ သက်ပြင်းချ၏။
အခြားတစ်ခုသည် အချည်းနှီးလွမ်းဆွတ်၏။
တစ်ယောက်သည် ကန်ရေပြင်တွင်အရိပ်ထင်သည့် လမင်းဖြစ်၏။
နောက်တစ်ယောက်သည် ကြေးမုံတွင်ထင်သည့် ပန်းပွင့်ဖြစ်၏။
နှမမျက်လုံးသည် မျက်ရည်မည်မျှစီးနိုင်မည်နည်း။
ဆောင်းမှဆောင်းတိုင် မျက်ရည်စီးနိုင်မည်လော။
နွေဦးပေါက်မှ နွေအထိ စီးနိုင်မည်လော။

ပေါက်ယုသည် အဆက်အစပ်ကင်း၍ အဓိပ္ပာယ်ငုပ်သည့် ထိုတေးသီချင်းစာသားများကို နားမလည်နိုင်သော်လည်း ဂီတသံသည် သူ့အာရုံကိုယစ်မူးစေပေ၏။ ထို့ကြောင့်စာသားများ၏အနက်ကိုသိအောင်လည်းမကြိုးစား၊ ထိုသီချင်းတို့ မည်သည်ကလာသည်ကိုလည်း မေးမြန်းခြင်းမပြုတော့ဘဲ နားထောင်လျက်ရှိ၏။ တေးသီချင်းသည်များသည် တေးကို ဆက်လက်သီဆိုလျက်ရှိ၏။

စတုတ္ထအပိုဒ်

ဘဝ၏မမြဲသောသဘော။

ဂုဏ်ကျက်သရေနှင့်တောက်ပမှု အမြင့်ဆုံးအချိန်၌
သေခြင်းတရားသည် နှမထံသို့ရောက်လာခဲ့ပြီ။
နှမသည် မျက်လုံးကိုဖွင့်လျက် အရာရာကိုထားခဲ့ပြီ။
နှမ၏ဝိညာဉ်သည် ဖြည်းညင်းစွာထွက်ခွာသွားလေပြီ။
နှမ၏နေရာသည် တောင်များ၏တစ်ဖက်တွင် ဝေးလံလှ၏။
အိပ်မက်ထဲ၌ နှမသည် မိဘတို့ကို ပြောပြလျက်ရှိ၏။
သမီးသည် သိင်္ဂါရောင်စမ်းချောင်းသို့ သွားလေပြီ။
အချိန်မနှောင်းမီ ခိုနားရာကိုရှာရာ၏။

ပဉ္စမအပိုဒ်

ချစ်သူများနှင့် ကွေကွင်းရခြင်း။

မိုးစက်နှင့် မုန်တိုင်းကြားတွင် နှမသည် ခရီးတိုင် သုံးထောင် ရွက်လှင့်ခဲ့ရ၏။

အိုးအိမ်၊ အသွေးနှင့်အသားတို့ကို စွန့်လွှတ်ခဲ့ရ၏။
မိဘနှစ်ပါး၏ အိုမင်းသောအရွယ်ကို မျက်ရည်တို့ စွန်းထင်းခြင်း မရှိစေလိုသည့်တိုင်
"သမီးငယ်အတွက် စိုးရိမ်ကြောင့်ကြ မဖြစ်ကြကုန်လင့်။
ကံအကောင်းအဆိုးတို့မည်သည် သူ့အကြောင်းနှင့်သူ ဖန်လာခဲ့ကြခြင်းဖြစ်၏။

ပေါင်းဖော်ခြင်း၊ ကွေကွင်းခြင်းတို့သည် ကံအတိုင်းသာ ဖြစ်လာကြရ၏။

ယခုဘဝ၌ ခွဲခွာ၍နေကြရသည့်တိုင်
ကျွန်ုပ်တို့သည် အေးချမ်းစွာနေထိုင်ကြကုန်အံ့။
မထိုက်သော သမီးငယ်အတွက် သောကဗျာပါဒ မဖြစ်ပါစေနှင့်" ဟု
နှမဆို၏။

ဆဋ္ဌမအပိုဒ်

ပျော်ရွှင်မှုထဲက ဝမ်းနည်းမှု။

မိဘတို့ကွယ်လွန်ချိန်၌ နှမသည် ပုခက်တွင်း၌သာရှိသေး၏။
စည်းစိမ်ချမ်းသာနှင့်နေရသည့်တိုင် နှမကို မည်သူအလိုလိုက်မည်နည်း။

နှမသည် သတ္တိရှိ၍ရက်ရောသောစရိုက်ဖြင့် မွေးပေ၏။
အချစ်ကို နှလုံးတွင်သိမ်းဆည်းရန် အစဉ် အဆင်သင့် ရှိပေ၏။





ကျောက်စိမ်းခန်းဆောင်မှ လရောင်နှင့်လေညင်းကဲ့သို့
နှမသည်အရည်အချင်းရှိ၍ ချောမောသောလင်ကောင်းနှင့်လိုက်ဖက်ပေ၏။

နှမသည် ထိုသူနှင့် အဓွန့်ရှည်အောင်ပေါင်းရပါစေ၏။
သို့မှသာလျှင် ဇာလေးဘဝက ပင်ပန်းခဲ့ရသည့်ဒုက္ခနှင့် ကာမိပေလိမ့်မည်။
ကောက်ထန့်မျှော်စင်ထိပ်တွင် တိမ်တိုက်တို့ပြိုကွဲစပြုလေပြီ။
ဆိုင်းမြစ်သည်လည်း ခန်းခြောက်လေပြီ။
ဤသည်မှာ လူတို့၏ကံကြမ္မာပင်ဖြစ်ပါ၏။
သောကဗျာပါဒဖြစ်၍ အချည်းနှီးသာ။

သတ္တမအပိုဒ်

ကမ္ဘာလောကကြီး၏ အငြင်းပယ်ခံ။

သဘာဝအားဖြင့် ခွာညိုပန်းကဲ့သို့လှပေ၏။
နတ်တို့၏အရည်အသွေးနှင့် ပြည့်စုံပါပေ၏။
သို့တိုင် ထူးဆန်းသည့်အတွက် နှမကိုအားလုံးက တအံ့တဩ ဖြစ်ကြပေ၏။

နှမသည် ချမ်းသာစည်းစိမ်တို့နှင့် စားကောင်းသောက်ဖွယ်တို့ကို စက်ဆုပ်ပေ၏။

ပိုးဝတ်ရုံသည် ညစ်ညမ်း၍ စက်ဆုပ်ဖွယ်ဖြစ်၏။
မြင့်မားခြင်းသည် အမုန်းကိုဖြစ်စေကြောင်း နှမ မသိလေ။

လောကကြီးသည် အလွန်သန့်စင်ခြင်းကို မုန်းတီး၏။

တန်ဆောင်းအိုထဲရှိ ဆီမီးရောင်မှိန်မှိန်တွင်
နှမသည် ညှိုးနွမ်းရှာတော့မည်။
နှမ၏ နုံ့သာတို့နှင့် ခန်းဆောင်နီ နှမ၏ ပျိုနုချိန်နှင့်
အလှတို့သည် အလဟဿ ဖြစ်ကြတော့မည်။

ဖုန်မှုန့်တို့ စွန်းပေသောလမ်းပေါ်တွင် ညစ်နွမ်းရင်း
အဆုံးသတ်ချေတော့မည်။
အပြစ်အနာကင်းသည့် ကျောက်ဖြူသည်ပင်လျှင် ရွှံ့တွင် နစ်မြု
သေး၏။
မင်းပျိုမင်းလွင်တို့၏ အိမ်တွင် နှမအတွက် သက်ပြင်းချ ဖြ
သော်လည်း
အချည်းနှီးသာ ဖြစ်လိမ့်မည်။

အဋ္ဌမအပိုဒ်။

ရန်သူတို့၏ ပေါင်းဆုံခြင်း။

အကြွင်းနာကင်း၍ ရက်စက်သည့် ဝံပုလွေသည်
အတိတ်ဝဋ်ကြွေးရှိသည့်တိုင်
မာန၊ စည်းစိမ်နှင့် ကာမဂုဏ်တို့ကို လိုက်စားခဲ့၏။
မှူးမတ်တစ်ဦး၏ သမီးငယ်အလှကို ဈေးပေါပေါဖြင့် ဝယ်ယူကာ
ရွှေစံအိမ်မှာ ကလေးငယ်ကို ခြေဖြင့်နင်းပစ်ခဲ့ချေ၏။
သို့ဖြင့် တစ်နှစ်မတိုင်မီတွင် ထိုသူငယ်မ၏ ဝိညာဉ်သည်
ကြွေလွင့်ခဲ့ရရှာပေ၏။

နဝမအပိုဒ်။

ပန်းပွင့်တို့၏ အနိစ္စသဘောကို ဆင်ခြင်ခြင်း။

နှမသည် နွေဦးသုံးလကို မြင်လိမ့်မည်။
မက်မုံပွင့်မှ အနီနှင့် မိုးမခမှ အစိမ်းတို့၏အနီး၌
မည်သည့်မျှော်လင့်ချက်ကိုမျှ ထားမည်မထင်။
ကြည်လင်သောကောင်းကင်မှ တည်ငြိမ်သော ငြိမ်းချမ်းမှုကို
အရသာ ခံရန်အတွက်
ငယ်နုသော တောက်ပမှု မီးလျှံကို ငြိမ်းသတ်ပစ်လိမ့်မည်။





မက်မုံပွင့်မှ အရောင်များသည် ကောင်းကင်နှင့် ရှုန်းရင်းဆန့်
ခတ် ဖြစ်ကြသည့်တိုင်
နွေနှောင်းတွင် မကြွေသောပန်းဆို၍ မည်သူမြင်ဖူးသနည်း။
ယခုပင်လျှင် ပူဆွေးသူတို့သည် ပေါ်ပလာပင်များ အနီးတွင်
ငိုကြွေးနေပြီ။
တစ္ဆေတို့သည် အစိမ်းရောင် မေပယ်ပင်များအနီးတွင်
ငိုကြွေးလျက်
သူတို့၏သင်္ချိုင်းမြေပုံပေါ်မှ ပေါင်းပင်တို့သည်
ကောင်းကင်ရောက်လုနီး လက်ဆန့်တန်းကြပြီ။
နေ့ညစ္စာ အတက်အကျဟူသည် လူ၏ကြိုးပမ်းမှုသာ ဖြစ်ပေ၏။
နွေဦးသည် ပန်းများကိုပွင့်စေ၍ နွေနှောင်းသည် ပန်းတို့ကို
ညှိုးစေ၏။
မည်သူသည် မွေးဖွားခြင်းတံခါးကို ရှောင်နိုင်သနည်း။ မည်သူ
သည် သေခြင်းကံကြမ္မာကို ရှောင်နိုင်သနည်း။
သို့ရာတွင် မဇ္ဈိမတိုင်းတွင်မူ အမတသစ်သီးကို သီးသည့်၊
အင်ကြင်းပင်ပေါက်သည်ဟု သူတို့ဆိုကြ၏။

ဒသမအပိုဒ်။

ကောက်ကျစ်စဉ်းလဲမှုကြောင့် ပျက်စီးရခြင်း။

နှမ၏အကြံအစည်တို့တွင် ပါသည့် ကျွမ်းကျင်မှုတို့သည်
နှမ၏ ပျက်စီးခြင်း၏ အကြောင်းရင်းပေတည်း။
ရှင်စဉ်က နှမ၏ နှလုံးသားသည် ကွဲအက်ခဲ့ရ၏။
သေသည့်အခါတွင် နှမ၏ ကျွမ်းကျင်လိမ္မာမှုတို့သည် အဆုံးသတ်
ခဲ့ကြပြီ။
မိသားစုအားလုံး ငြိမ်းချမ်းသာယာသည့် ချမ်းသာသည့် မိသား
စု တစ်ခုသည်
နောက်ဆုံး၌ ဖရိုဖရဲပျက်စီးခြင်းသို့ ရောက်ရ၏။

ဘဝထက်ပိုင်းကျိုးအောင် စိုးရိမ်ခဲ့ရသော်လည်း
အချည်းနှီးသာ။

ညသန်းခေါင်တွင် မက်သော ခြောက်အိပ်မက်ကဲ့သို့
လည်းကောင်း
ကြီးမားသော တိုက်အိမ်ကြီးတစ်ခု ပြိုလဲသကဲ့သို့ လည်းကောင်း
ဟုတ်ခနဲဖြိမ်းသွားသော မီးတိုင်တစ်တိုင်ကဲ့သို့ လည်းကောင်း
ပျော်ရွှင်ခြင်းသည် ဝမ်းနည်းခြင်းအဖြစ်သို့ ရုတ်ခြည်းပြောင်း၏။

လောကတွင် ဘာမျှရေရာခြင်း မရှိပြီတကား။

ဧကဒသမအပိုင်း။

ကြင်နာသော အပြုအမူတစ်ခု။

ကြင်နာသည့် အပြုအမူလေးတစ်ခုကြောင့်
နှမသည် ကျေးဇူးသိတတ်သော မိတ်ဆွေတစ်ဦးနှင့် မဝေး
တဆ ကြုံခဲ့ရ၏။

နှမ၏ အမေသည် ကောင်းသည့်အလုပ်တစ်ခုကို
အမှတ်မထင်လုပ်ခဲ့မိသည်မှာ ကံကောင်းလေစွ။

ကျွန်ုပ်တို့သည် ပူဆွေးသူကို ကယ်ဆယ်၍ ဆင်းရဲသူကို ကူညီသင့်
ပေ၏။

နှမ၏ သနားညှာတာတတ်သော ဦးလေးနှင့်
သစ္စာမဲ့သော ဆွေမျိုးကဲ့သို့ မဖြစ်ပါလေနှင့်။

သူတို့သည်ငွေကြေးကို စုံမက်သဖြင့် ကိုယ့်သွေးသားကိုမေ့လျော့
ပစ်ပယ်ကြ၏။

ဆုနှင့်ဒဏ်တို့သည် ကောင်းကင်ဘုံတွင်
ရကြစမြဲ ဖြစ်ပေ၏။





ဒွါဒသမ အပိုင်း။

ခမ်းနားတောက်ပခြင်းသည် အလာနှောင်းခဲ့ပြီ။

အချစ်သည် မှန်တွင် ထင်နေသည့် အရိပ်တစ်ခုသာ ဖြစ်ပေ၏။
ဂုဏ်အဆင့်အတန်းနှင့် ကျော်ကြားခြင်းတို့သည်
ထို့ထက် သိုးသေး၏။ အိပ်မက်မျှသာ ဖြစ်ချေ၏။
နုပျိုခြင်းနှင့် အလှတို့သည်လည်း ညှိုးနွမ်းကြကုန်၏။
ရွှေချည်ထိုး ကန့်လန့်ကာများနှင့် အချစ်ငှက်စောင်တို့
အကြောင်းကို
မပြောပါနှင့်တော့။
သေမင်း၏ ဆင့်ခေါ်ချက်ကို
ပုလဲသရဖူ၊ နတ်ငှက် ကိုယ်ကျပ်အင်္ကျီတို့ဖြင့် ကာသော်လည်း
ရှောင်မရနိုင်။
ဇရာတွင် လိုဘတောင့်တ ကင်းရမည်ဟု ပြောကြ၏။
ဤသည်မှာ ကုသိုလ်ကံအတိုင်းသာ ဖြစ်ကြပေ၏။
တောက်ပြောင်သော မြို့ဝန် ဝတ်ရုံကိုဝတ်၍
မြို့ဝန်၏ ရွှေတံဆိပ်တို့ ပြိုးပြက်လျက်ရှိသော လူတစ်ယောက်သည်
ကြီးမြင့်ကောင်း ကြီးမြင့်ပေလိမ့်မည်။ ကြောက်ဖွယ်ကောင်းချင်
ကောင်းလိမ့်မည်။

သို့ရာတွင် အဝါရောင် နွေဦးသို့ သွားရာလမ်းသည် နီးလာခဲ့
လေပြီ။

ယခင်က တိုင်းပြည်ခေါင်းဆောင်များနှင့် စစ်သူကြီးတို့သည်
ဘာကျန်ခဲ့သနည်း။

နှောင်းလူတို့ မြတ်နိုးကြသော အခွံသာရှိသည့် နာမည်သာ ကျန်
ခဲ့ကြပေ၏။

တေဒသမအပိုဒ်

အကောင်းတို့သည် အဆုံးသတ်ခဲ့လေပြီ။

နွေဦးကုန်ခါနီးတွင် သင်းပျံ့သော အမှုန့်တို့သည်
ဆေးပန်းတို့ခြယ်ထားသည့် ထုပ်လျောက်ပေါ်မှ ကြွေကျကြ၏။
ပင်ကိုအားဖြင့် လမင်းကဲ့သို့လှသော နှမသည်
မိသားစု ပျက်စီးရခြင်း၏ အကြောင်းရင်း ဖြစ်၏။
ဓလေ့ဟောင်းတို့ပျက်စီးခြင်းသည် ချင်လက်ထက်တွင်အစပြုပြီး
မိသားစု ပျက်စီးခြင်းသည် နိန်စံအိမ်မှ အစပြုလျက်
သူတို့အားလုံး၏ ဒုစရိုက်များသည် အချစ်ကြောင့် ဖြစ်ရခြင်း
ဖြစ်ပေ၏။

သီချင်းအဆုံး။

ကျေးငှက်တို့ ဌာနသို့ပြန်လေပြီ။

မှူးကြီးမတ်ရာ အိမ်ထောင်စုတစ်ခုသည် ပျက်စီးခဲ့ပြီ။
ချမ်းသာသော မှူးမတ်တို့၏ စည်းစိမ်သည် ကုန်ခန်းခဲ့ပြီ။
အကောင်းကို လုပ်ခဲ့သော နှမသည် သေခြင်း၏ နှုတ်ခံတွင်းဝမှ
လွတ်၏။
နှလုံးသား ကင်းမဲ့သူတို့မှာမူ အပြစ်ခံရပေ၏။
သူတစ်ပါးအသက်ကိုယူသူတို့သည် ကိုယ့်အသက်ကိုလည်း
ပေးရ၏။
မျက်ရည်ကြွေးကို ယူမိသူတို့သည် ထိုကြွေးကို မျက်ရည်ဖြင့်ဆပ်
ရ၏။
တစ်ပါးသူအား ပြစ်မှားခဲ့သည့်အတွက် အပြစ်ဒဏ်သည်သေးငယ်
သည် မဟုတ်။
ပေါင်းဖော်ခြင်းနှင့် ကွေကွင်းခြင်းတို့သည် ကံအတိုင်းသာ ဖြစ်
ကြကုန်၏။





အတိတ်ဘဝတွင် အသေစောခဲ့ရသည့် အကြောင်းရင်းကို ရှာ
ကြည့်လေ။
ဇရာရောက်မှ ရာထူးနှင့် စည်းစိမ်တို့ကို ခံစားရသူတို့သည် ကံထူး
ကြပေ၏။
လောကကို မြင်သူတို့ကား လောကမှ ထွက်ပြေးတိမ်းရှောင်ကြ
ပေ၏။
မိုက်မဲသော ချစ်သူတို့ကား ဘဝကို အ..ဟာသ ဖြုန်းတီးကြ
ကုန်၏။
အစာဝသောအခါတွင် ကျေးငှက်တို့သည်သူတို့ဌာနသို့ပြန်လျက်
နောက်ဆုံး၌ကား ဟာလာဟင်းလင်းနှင့် လွတ်လပ်လတာကြီး
သာ ကျန်ပေ၏။

ထိုသီချင်းများကို သီဆိုကပြပြီးသည့်အခါတွင် ကချေသည်များ
နှင့် သီချင်းသည်များသည် နောက်တစ်ကျော့ဆိုရန် ပြင်ဆင်ကြပြန်၏။
ထိုရာတွင် ပေါက်ယု ပျင်းရိငြီးငွေ့သွားပြီကို မာယာဒေဝီ နတ်သမီးမြင်
လိုက်လေပြီ။

"အင်း၊ ဒီလူနှယ်နော်၊ အလိုက် ထူလိုက်ပါဘိ" ဟု တွေး၍သက်
ပြင်းချ၏။

ပေါက်ယုက မိမိမှာ နတ်သုဒ္ဓါယစ်မျိုးရည်တို့ကို သောက်ထား
သဖြင့် အတော် မူးယစ်ကာ အိပ်ချင်နေပြီ ဖြစ်ကြောင်း၊ ထို့ကြောင့်
နောက်ထပ် တေးသီချင်းများကို သီဆိုရန် မလိုတော့ကြောင်းဖြင့်ပြော
ဆို၏။

မှာယာဒေဝီ နတ်သမီးသည် စားသောက်ဖွယ်ရာများကို ရှင်း
လင်းရန် အမိန့်ပေးလိုက်ပြီးလျှင် အမွှေးနံ့သာတို့ ပက်ဖျန်းထားသည့်
စက်ခန်းဆောင် တစ်ခုထဲသို့ ခေါ်သွားလေ၏။ ထိုစက်ခန်းဆောင်ထဲ
၌ကား ပိုးဖဲကတ္တီပါတို့ဖြင့် ခမ်းနားတောက်ပစွာ ပြင်ဆင်ထားလေရာ
ပေါက်ယုသည် ထိုမျှ ခမ်းနားသော စက်ခန်းဆောင်ကို လူ့ပြည်တွင်
တစ်ခါမျှ မမြင်ဖူးသေးချေ။ ပို၍အံ့သြစရာကောင်းသည်မှာ ထိုစက်ခန်း

ဆောင်ထဲတွင် ပေါက်ကြည်၏ အလှနှင့် ထိုက်ယှဉ်၏ကျက်သရေတို့ပေါ်၊ စပ်ထားသည့် နတ်မိမယ်ကလေး တစ်ယောက်သည် သူ့ကို အသင့် စောင့်ကြို့လျက် ရှိနေခြင်းပင် ဖြစ်၏။ ပေါက်ယုသည် ဝေခွဲမရ ဖြစ်နေစဉ် မာယာဒေဝီ နတ်သမီးက

'သင်တို့၏ ဖုန်စွန်းသောလူ့ပြည်တွင် မရေတွက်နိုင်သော လေသာပြတင်းစိမ်းတပ် ခန်းဆောင်များ၊ ရွှေချည်ထိုးအုံးစက်ရာများသည် ရာဂအလိုကိုလိုက်သော ယောကျ်ားများနှင့် အကျင့်ပျက်သော မိန်းမတို့ကြောင့် အထွတ်အမြတ်အဖြစ်မှ ယုတ်နိမ့်သောအဖြစ်သို့ ရောက်ခဲ့ကြရ၏။ ပို၍ဆိုးသည်မှာ ရှေးပဝေသဏီတည်းကပင်လျှင် အကျင့်ပျက်သော လူမိုက်တို့သည် မိမိတို့၏ အကျင့်ပျက်မှုတို့ကို ဖုံးကွယ်ရန်အတွက် အလှတရားကို ချစ်ခြင်းနှင့် သွေးသားတောင့်တမှုဟူ၍ လည်းကောင်း၊ မေတ္တာနှင့် တဏှာပေမဟူ၍ လည်းကောင်း ခွဲခြားပစ်ခဲ့ကြ၏။ သို့ဖြင့် အလှအပကို ချစ်ခင်မြတ်နိုးခြင်းသည် တပ်မက်ခြင်းအဖြစ်သို့ ရောက်ခဲ့ရ၏၊ မေတ္တာသည် တဏှာပေမအဖြစ်သို့ ရောက်ခဲ့ရ၏။ သို့ဖြင့် မိုးစက်နှင့်တိမ်တိုက်တို့ ပေါင်းဖော် သံဝါသပြုခြင်းသည် အလှအပကို ချစ်မြတ်နိုးတတ်သည့် အချစ်နှင့် ရမ္မက်တို့၏ အထွတ်အထိပ် ဖြစ်လာပေ၏။

"သင့်တွင် ကျွန်ုပ် သဘောအကျဆုံး အချက်ကား သင်သည် ကမ္ဘာလောကကြီးတွင် တပ်မက်မှု အကြီးဆုံးသူ ဖြစ်သည့်အတွက် ဖြစ်ပေ၏"

ပေါက်ယုသည် ထိတ်လန့်ခြင်းဖြစ်လျက်

"အသင်နတ်သမီး မှားနေပြီ၊ ကျွန်ုပ်သည် စာပေများကို သင်အံခြင်းမပြုဘဲ ပျင်းရိသူဟူ၍ မိဘများက မကြာခဏ မြည်တွန်တောက်တီးခြင်း ခံရပါသည်။ သို့ဖြစ်လျက်နှင့် ကျွန်ုပ်အား ရမ္မက်ကြီးသူဟု အဘယ်ကြောင့် ဆိုရသနည်း။ ထို့ပြင် ကျွန်ုပ်သည် ငယ်ရွယ်သေးသည့်အလျောက် ထိုစကားလုံး၏ အဓိပ္ပာယ်ကိုပင် ကောင်းစွာသိသူ မဟုတ်ချေတကား"





မာယာဒေဝီက

'မစိုးရိမ်လေနှင့်၊ အခြေခံအားဖြင့် တဏှာရမ္မက်အားလုံးတို့သည် အတူတူသာ ဖြစ်ကြကုန်၏။ သို့ရာတွင် သူ့နေရာနှင့်သူ အနက်အဓိပ္ပာယ်အသီးသီးကို ဆောင်ကြကုန်၏။ ဥပမာအားဖြင့် လောက၌ ရုပ်အဆင်းသဏ္ဌာန် လှပတင့်တယ်ခြင်း၊ သီဆိုခြင်း၊ ကခုန်ခြင်း အထူးထူးသော နည်းများဖြင့် ပျော်ရွှင်ခြင်း၊ မိုးစက်နှင့်တိမ်တိုက် ကစားနည်းတို့ဖြင့် မြူးတူးခြင်း စသည်တို့တွင်သာ ကြည်နူးနှစ်သက်ကြသော လူလွှမ်းတို့သည် ရှိကြကုန်၏။ ထိုသူတို့သည် ဏောမျှသော သုခချမ်းသာကို ရရန်အတွက် လောကအလုံးတွင်ရှိသော မိန်းမချော မိန်းမလှတို့ကို ပိုင်ဆိုင်လိုသောဆန္ဒ ရှိကြ၏။ ထိုသူတို့အား ကာမတဏှာ ညွှတ်ကွင်းတွင် မိနေကြသော ယုတ်နိမ့်သော သတ္တဝါများသာ ဖြစ်ကြကုန်၏။

"သင်ကား ကာမတဏှာညွှတ်ကွင်းတွင် အစင်းသားမိရန် မွေးလာသူမဟုတ်၊ စိတ်လွန်ကဲ ပြင်းထန်ခြင်းဖြင့် မွေးလာသူဖြစ်ပေ၏။ ဤအကြောင်းကို ကျွန်ုပ် စကားလုံးဖြင့် ရှင်းအောင် မပြောနိုင်၊ ပဏာတိဉာဏ်ဖြင့်သာ ဆင်ခြင်ရာ၏။ စိတ်ဓာတ်လွန်ကဲခြင်းကြောင့် သင်သည် မိန်းမတော်တွင် နှစ်သက်ဖွယ်ကောင်းသူတစ်ယောက် ဖြစ်သော်လည်း သင့်စရိုက်ကို ရှုံ့နှမ်းစေသည့်အတွက် သင်သည် ပြောင်လှောင်သရော်ခြင်းကို ခံရပေအံ့။

"ယနေ့၌ သင်သည် သင်၏ဘိုးဘေးများဖြစ်သော နိန်ကူမြို့စားနှင့် ယွန်းကူမြို့စားတို့ကို တွေ့ဆုံနှုတ်ဆက်ပြီးသည့်အခါတွင် သင့်အား မိန်းမတော်တွင် ပျော်ပါးလိုက်စားသူဟု လောကကြီးက သင့်အား ကဲ့ရဲ့ရှုတ်ချခြင်းပြုသည်ကို ကျွန်ုပ်မမြင်လို။ ထို့ကြောင့် သင့်အား ဤဘုံသို့ ခေါ်ဆောင် နတ်သုဒ္ဓါရည်နှင့် နတ်သစ်ရွက်ရည်တို့ကိုတိုက်၍ တေးသီချင်းတို့ဖြင့် ဖြေဖျော်ပြီးသည့်နောက်၌ ညီမတော်ဖြစ်တဲ့ ငယ်နာမည်ကျင်ကို့၊ နတ်သမီးဘွဲ့မည် ကျင်မေ့နှင့် ကျွန်ုပ်တွေ့ဆုံပေးပေအံ့။ ယနေ့၌ သင်သည် ကျင်ကို့နှင့် ပေါင်းဖော်မှီဝဲခြင်း ပြုပါလေတော့။ ဤသို့ တွေ့ဆုံပေးရခြင်းမှာ အခြားကြောင့်မဟုတ်။ နတ်ဘုံတွင် ယာယီမျှသာသော

စည်းစိမ်ကိုခံစားပြီးသည့် နောက်၌ သင်သည် ဖုန်စွန်းသော လူ့ပြည်မှ တဏှာစည်းစိမ်တို့သည်လည်း အချည်းနှီးသာဖြစ်ကြောင်းကို သင်သိစေလိုသောကြောင့် ဖြစ်ပေ၏။ ယနေ့မှစ၍ သင်သည် ထို တဏှာစည်းစိမ်တို့၏ အကျိုးမဲ့ အချည်းနှီးဖြစ်ခြင်းကို နားလည် သဘောပေါက်ပြီး သကာလ သင်၏စိတ်ဓာတ်ကို ပြင်လေလော့။ ကွန်ပြူစီနှင့် မုန်စီတို့၏ အဆုံးအမကို နာယူကာ လောကကြီး၏ ကောင်းကျိုးကို ဆောင်ပါလေ”

ထိုသို့ပြောဆိုပြီးနောက် မာယာဒေဝီသည် ပေါက်ယု အား ကာမဘာဝ၏ လျှို့ဝှက်အပ်ရာတို့ကို သင်ကြားပေးလေ၏။ မာယာဒေဝီနတ်သမီးသည် နတ်မိမယ်ရှိရာ စက်ခန်းဆောင်သို့ သူ့ကို တွန်းပို့ကာ ခန်းဆောင်တံခါးကိုပိတ်၍ ထွက်သွားလေ၏။

ပေါက်ယုသည် ထို နတ် သ မီး စေသည့် အ တိုင်း ပြုလေ၏။ ပေါက်ယု၏ ကာမသုတ္တရ သင်ခန်းစာတို့ကိုမူ ကျော်လွှားချန်လှပ်ခဲ့ပေအံ့။

နောက်တစ်နေ့မှစ၍ ပေါက်ယုနှင့် ကျင်ကို့ခေါ် ကျင်မေ့တို့သည် မခွဲနိုင်မခွာနိုင်ဖြစ်လျက် ရှိကြပြီး တစ်ယောက်ကို တစ်ယောက် သံယောဇဉ် တွယ်မိကြလေ၏။ သူတို့နှစ်ယောက်သည် လက်ချင်းတွဲကာ နတ်ပန်းဥယျာဉ်ထဲတွင် လမ်းလျှောက်ကြလေ၏။

သို့လျှောက်သွားစဉ် ဝံပုလွေများ၊ ကျားများဖြင့် ပြည့်နှက်လျက်ရှိသည့် ဆူးချုံတစ်ခုနားသို့ ရောက်သွားကြလေ၏။ သူတို့ရှေ့တွင် မည်းနက်သော ချောင်းကြီးတစ်ချောင်း ကန့်လန့်ဖြတ် ဏာဆီးလျက်ရှိပြီး ကူးဖြတ်စရာ ဘာမျှမရှိသည်ကို တွေ့ရလေ၏။ မည်သို့လုပ်ရမည်မသိ ဖြစ်နေစဉ် မာယာဒေဝီ ရောက်လာကာ “မကူးနှင့်၊ မကူးနှင့်၊ ပြန်လှည့်”ဟု အော်သံကို ကြားရ၏။ ပေါက်ယုသည် ကြောက်လန့်ကာ “မည်သည့်နေရာနည်း”ဟု မေး၏။

“ဤနေရာကား ရာဂညွန်အိုင် ဖြစ်သတည်း။ ပေတစ်သောင်းနက်၍ လီပေါင်းတစ်သောင်း အကျယ်ရှိ၏။ ထိုညွန်အိုင်၌ ကူးဖြတ်စရာ ကူးတို့လှေ မရှိ၊ လောင်စာတည်းဟူသော လှေသူကြီးနှင့် ပြာမှုန့်





တည်းဟူသော လှေထိုးသားတို့သာ ဦးစီးသည့် ဖောင်တစ်ခုသာ ရှိ၏။ သူတို့သည် ကူးတို့ခကို ရွှေဖြင့်လည်းမယူ၊ ငွေဖြင့်လည်းမယူဘဲ ဟိုမှာ ဘက်ကမ်းသို့ အရောက်သာ လိုက်ပို့တတ်ကြ၏။ သင်တို့သည် ဤနေရာသို့ မတော်တဆ ရောက်လာကြခြင်းသာ ဖြစ်သည်။ ဤညွန်ဗွက်အိုင်ကြီး ၌ ဆင်းခဲ့လျှင် ကျွန်ုပ်ပေးခဲ့သမျှ အကြံဉာဏ်တို့သည် အချည်းနှီးသာ ဖြစ်ပေတော့အံ့”

ထိုသို့ပြောနေစဉ် မိုးကြိုးကစ်ချုန်းသကဲ့သို့သော အသံကြီးကို ကြားလိုက်ရပြီးနောက် ညွန်အိုင်ကြီးထဲမှ ဘီလူး သ ဘက် များ နှင့် ဖုတ် ပြိတ္တာတို့သည် ပေါက်ယုကိုဆွဲနှစ်ရန် ပြေးလာကြ၏။ ပေါက်ယု၏ တစ်ကိုယ်လုံးတွင် ချွေးစေးကြီးတွေ ပြန်လျက်ရှိပေ၏။ ပေါက်ယုသည် ကြောက်ကြောက်ဖြင့် “ကျင်ကို့၊ ကျင်ကို့ ကျွန်တော့်ကို ကယ်ပါဦး” ဟု အော်၏။

ပေါက်ယု၏ အော်သံကိုကြားသဖြင့် မာလာနှင့် ကျွန်အထိန်းတော်များသည် ပြေးလာကြကာ ပေါက်ယုကို ချော့မော့ကြလေ၏။

“သခင်လေး၊ ဘာဖြစ်သလဲဟင်။ မကြောက်ပါနဲ့။ ကျွန်မတို့ ရှိပါတယ်”

ထိုအချိန်၌ ကျင်ကို့သည် အပြင်ဘက်စင်္ကြံတွင်ရပ်ကာ အစေတော်များအား ကြောင်ကလေးများ၊ ခွေးကလေးများ ပျော်ပါးမြူးတူးနေသည်ကို စောင့်ကြည့်ရန် ပြောလျက်ရှိလေ၏။ ထိုသို့ ပြောနေစဉ် သူ့အမည်ကို ယောင်ယမ်းခေါ်နေသော ပေါက်ယု၏အသံကို ကြားရ၏။

“အလို ငါ့ငယ်နာမည်ကို ဒီမှာ ဘယ်သူမှမသိဘဲ ပေါက်ယုက ခေါ်တာ တယ်လို့လဲ ထူးဆန်းလှပါကလား။ ဘာဖြစ်လို့များ ငါ့နာမည်ကို အိပ်မက်ထဲမှာ ယောင်ပြီး ခေါ်နေရတာပါလိမ့်” ဟု ကျင်ကို့ တွေးလျက်ရှိလေ၏။

မှန်ပေ၏။

လျှို့ဝှက်သော အိပ်မက်ထဲတွင် ထူးဆန်းသော တွေ့ဆုံမှုတို့သည် ပေါ်ပေါက်တတ်ကြ၏။

သူသည် ခေတ်အဆက်ဆက်တွင် ချစ်ရမှက် အပြင်းထန်ဆုံးသူ ဖြစ်ပေ၏။

●





PDF CREATOR - NYEYADHAMMA@GMAIL.COM

## အခန်း ၆

## ပေါက်ယုသည် အချစ်၏အရသာကို ပထမဆုံးတွေ့ရှိခြင်း။ အဘွားလူသည် ယွန်းစံအိမ်ကြီးသို့ ပထမဆုံး ရောက်ရှိခြင်း။

တစ်နေ့ခါတွင်၊ စည်းစိမ်ရှင်၏
အိမ်ဝင်ဝင်းဝ၊ တံခါးမကို
ခဏဝင်ရောက်၊ သူလာပေါက်၏။
ထိုအခါ့တွင်၊ စည်းစိမ်ရှင်လည်း
သူ့တွင်ပင်လျှင်၊ ဇည်းစိမ်ဆန္ဒ
မပြည့်ဝဟု၊ ညည်းခြင်းပြု၏။
သူတို့လက်ဆောင်၊ ရွှေစင်ထောင်ထုပ်
မဟုတ်သော်ငြား၊ လွန်မများလည်း
သူ့သွေးသူ့သား၊ ပေးနိုင်အားဆက်
များပြားလျက်တည့်။ ။

ပေါက်ယု အိပ်မက်မ.က်ရင်း သူ့အမည်ကို ယောင်ယမ်းခေါ်သံကို ကျင်ကိုကြားလိုက်၏။ သို့ရာတွင် အကျိုးအကြောင်းကိုမမေးလိုက်ရချေ။ ပေါက်ယုမှာလည်း စိတ် ဖောက်ပြန်သွားသကဲ့သို့ နဝေတိမ်တောင်ဖြစ်လျက်ရှိ၏။ အစေတော်များသည် ကြက်မေ့ဇက်သီးရည်ဖြင့်

စပ်သည့် ဆေးတစ်ခွက်ကို ယူလာ၍တိုက်၏။ ပေါက်ယုသည် အနည်း ငယ်သောက်ပြီးနောက် ဖရိုဖရဲဖြစ်နေသည့် အဝတ်အစားများကို သ ရပ်အောင်ပြင်နေလေ၏။

မာလာက ပေါက်ယု၏ခါးဝတ်ကို ပြင်ဝတ်ပေးမည်ပြုစဉ် သူ ါင်ကိုလက်ဖြင့်ကိုင်မိသည်၌ အေးစက်စေးကပ်နေသည်ကိုတွေ့ရလေ လာသာ အလန့်တကြားဖြင့် လက်ကိုရုပ်လိုက်ပြီးနောက် အကျ င်းကိုမေး၏။ ပေါက်ယုသည် မျက်နှာတွင် ရှက်သွေးဖြာလျက် ၃မှ မာလာ၏လက်ကို အသာဖျစ်ညှစ်ကိုင်လိုက်၏။

မာလာမှာ အကင်းပါးသည့် မိန်းကလေး တစ်ယောက်ဖြစ်ပြီး ပေါက်ယုထက်လည်း အသက် အနည်းငယ် ကြီးသည့်အတွက် အချ အရာကို ရိပ်မိလိုက်လေပြီ။ ပေါက်ယု၏ အခြေအနေကိုကြည့်လိုက်ခြ ဖြင့် မည်သို့သော အိပ်မက်မျိုးကိုမက်ကြောင်း သိလိုက်သည့် အတွ မာလာကိုယ်တိုင်မှာလည်း ရှက်သွေးဖြာသွားကာ မျက်နှာတွေထူပူသွ လေ၏။ မာလာသည် နောက်ထပ် ဘာမျှ မေးမြန်းခြင်း မပြုတော့ဘဲ အဝတ်အစားများကို ပြင်ဝတ်ပေးလျက်ရှိ၏။

ပေါက်ယုနှင့် အစေတော်များသည် မယ်မယ်တို့ရှိရာသို့ပြန်လာ ခဲ့ကြ၍ စားသောက်ဖွယ်ကိုစားသောက်ပြီးနောက် မိမိတို့ ခန်းဆော အသီးသီးသို့ပြန်လာခဲ့ကြ၏။ အခြားအစေတော်များနှင့် အထိန်းတော် များမရှိသည့်အခါ၌ မာလာသည် ပေါက်ယုကို အဝတ်အစားလဲပေး၏။

"မာလာ၊ ဒီအကြောင်းကို ဘယ်သူ့မှ ပြန်မပြောနဲ့နော်" ဟု ပေါက်ယုက ရှက်ရှက်ဖြင့်ပြော၏။ မာလာက ရှက်ပြုံးဖြင့်

"ဒီလောက်တောင် ညစ်ပတ်ပေရေကုန်အောင် ဘယ်လိုအိပ်မက် တွေများမက်လို့လဲ သခင်လေးရဲ့"

"အိပ်မက်ကတော့ အရှည်ကြီးပဲ" ဟုဆိုကာ ပေါက်ယုသည် မြ မက်ခဲ့သမျှ ကိုပြောပြကာ မာယာဒေဝီ၏ကောင်းမှုဖြင့် 'တိမ်တိုက်နှင့် မိ စက်ကြားတွင်ကစားခြင်း' အကြောင်းပါမကျန် အားလုံးကိုပြောပြလေ ၏။ သူ့စကားကြောင့် မာလာသည် မျက်နှာကို လက်ဖြင့် ကွယ်ကာ တခစ်ခစ်ရယ်လျက်ရှိ၏။





မာလာ၏ အယုအယနှင့် ရိသဲ့သဲ့ အမူအရာတို့ကြောင့် ပေါက်ယု သည် မာလာကို စိတ်ဝင်စားနေခဲ့သည်မှာ ကြာခဲ့လေပြီ။ ထို့ကြောင့် ပေါက်ယုသည် မာလာအား မိမိနှင့်အတူ ယှဉ်ပါးရန် ပြောလေ၏။ မယ်မယ်သည် ပေါက်ယုကို မိမိအားပုံအပ်ထားသည့်အလျောက် ဤသို့ ယှဉ်ပါးခြင်းသည် အခွင့်ကောင်းယူရာမကျဟု မာလာယူဆ၏။ သို့ဖြင့် သူတို့နှစ်ယောက်သည် အခွင့်သင့်တိုင်း ယှဉ်ပါးကြ၏။ ကံကောင်း ထောက်မသဖြင့် သူတို့နှစ်ယောက်အကြောင်းကို မည်သူမျှမသိကြချေ။ ထိုအချိန်မှစ၍ ပေါက်ယုသည် မာလာ့အား အထူးအခွင့်အရေးပေးပြီး မာလာကလည်း ပေါက်ယုကို ယခင်ကထက်ပို၍ သစ္စာ စောင့်သိခြင်း ပြုလေ၏။

ယွန်းစံအိမ်ကြီးသည် အလွန်ကြီးသည့်အိမ်ကြီးတစ်ဆောင်မဟုတ် သည့်တိုင် သခင်များနှင့် အစေတော်များပါပေါင်းလျှင် ထိုစံအိမ်ကြီး တွင် လူသုံးလေးရာခန့်ရှိ၏။ လုပ်ငန်းဆောင်တာ များစွာမရှိသည့်တိုင် နေ့စဉ်လုပ်ဆောင်ရသည့် ကိစ္စများမှာမနည်းလှချေ။ ရှုပ်ထွေးနေသော လျှော်ထွေးကို ပြန်၍ရေတွက်ရသည်ထက် ရှင်းရသည်ကလွယ်သေးသည် ဆိုသည့်စကားကဲ့သို့ မည်သည့်ဇာတ်ကောင်ကို စ၍ရေးရမှန်း မသိဘဲဖြစ် နေစဉ် လီဘစ်ထောင်ခန့်ဝေးသည့် အရပ်ဒေသမှ မုန်ညင်းစေ့တစ်စေ့ ပမာ မထင်မရှား အညတရမျှသာဖြစ်ပြီး ယွန်းစံအိမ်မိသားစုနှင့်ဆွေမျိုး အဖျားအနားတော်သည့် ညော့သည်တစ်ယောက်သည် ထိုနေ့၌ ယွန်း စံအိမ်ကြီးသို့ ရောက်လာလေ၏။ ထို့ကြောင့် ထိုမိသားစုအကြောင်းကို စ၍ပြောပါအံ့။

ထိုမိသားစု၏အမည်နှင့်တကွ ထိုလူတို့ယွန်းစံအိမ်ကြီးနှင့် မည်သို့ မည်ပုံ ပတ်သက်ကြောင်းကို အဆွေစာဖတ်သူ သိဦးမည် မဟုတ်ချေ။ အဆွေစာဖတ်သူ ထိုအကြောင်းကို မသိလိုဟုဆိုပါက ဤစာအုပ်ကိုချ၍ အခြားကြိုက်ရာ စာအုပ် တစ်အုပ်ကို ကောက်ဖတ်ပါလေ။ သို့ရာတွင် အပ်ပွာယ်မရှိသည့် ဤဝတ္ထုသည် သင့် အားလပ်ချိန်ကို ဖြုန်းရာတွင်

အထောက်အကူဖြစ်သည်ဆိုငြားအံ့။ ညံ့ဖျင်းမိုက်မဲသော ကျောက်တုံး ဖြစ်သည့် ကျွန်ုပ်စာရေးသူသည် ထိုအကြောင်းကို အသေးစိတ် ပြောပြပေအံ့။

အထက်တွင် ကျွန်ုပ်ပြောပြခဲ့သောမိသားစု၏ ဘုံနာမည်မှာ ဝပ်ဟူ၍ဖြစ်၏။ ထိုမိသားစုသည် တောနယ်တစ်နယ်မှဖြစ်ပြီး သူတို့၏အဘိုး ဖြစ်သူ ရွှေမြို့တော်ကြီးတွင် အရာရှိငယ်တစ်ဦးအဖြစ် အမှုထမ်းနေစဉ် သခင်မဝမ်၏ဖခင်၊ နတ်ငှက်မယ်၏အဘိုးဖြစ်သူနှင့် အသိအကျွမ်းဖြစ်ခဲ့ကြခြင်းဖြစ်၏။ သခင်မဝမ်တို့၏အမျိုးသည် တန်ခိုးသြဇာကြီး သည့် ဆွေမျိုးကြီးဖြစ်သည့်အတွက် ထိုမိသားစုသည် သခင်မဝမ်တို့၏ ဝမ်မျိုးနှင့်ဆွေမျိုးစပ်ကာ သူ့ကိုယ်သူဝမ်၏တူဟုပြောဆိုခြင်းပြု၏။ ထိုအချိန်က သခင်မဝမ်နှင့် သူ့အစ်ကိုကြီးဖြစ်သည့် (နတ်ငှက်မယ်၏ဖခင်)သည် သူတို့၏ဖခင်ကြီးနှင့်အတူ ရွှေမြို့တော်သို့ လိုက်နေခဲ့ကြသဖြင့် သူတို့မောင်နှမနှစ်ယောက်သာလျှင် ထိုဆွေမျိုးစပ်ကိုသိရှိပြီး ကျန်မောင်နှမသားချင်းတို့မှာ ထိုအကြောင်းကို ဘာမျှမသိကြချေ။

ထိုပုဂ္ဂိုလ် ကွယ်လွန်သည့်အခါတွင် ဝမ်ချင်းဟူသော သား တစ်ယောက်ကျန်ရစ်ခဲ့၏။ ထိုစဉ်က သူတို့မှာ ဆင်းရဲနွမ်းပါးသည့်အလျောက် ရွှေမြို့တော်တွင်မနေနိုင်ဘဲ ကျေးလက်ဇနပုဒ်တစ်ခုတွင် နေထိုင်ရ၏။ မကြာမီ ဝမ်ချင်းလည်းမကျန်းမမာဖြစ်၍ကွယ်လွန်ခဲ့ကာ ကိုအဲဆိုသော သားတစ်ယောက်ကျန်ခဲ့လေ၏။ ကိုအဲသည် လူမိသားစုမှ မိန်းကလေး တစ်ယောက်နှင့်ရကာ ပန်အဲဆိုသော သားတစ်ယောက်နှင့် ကျင်အဲ ဆိုသောသမီးတစ်ယောက်ထွန်းကားခဲ့၏။ အိမ်ထောင်စုသားလေးယောက်တို့သည် လယ်ယာစိုက်ပျိုး၍ အသက်မွေးကြ၏။

ကိုအဲသည် တစ်နေ့လုံး လယ်ယာကိစ္စတို့ဖြင့် အလုပ်များလျက် ရှိပြီး မယားဖြစ်သူမှာလည်း အိမ်မှုကိစ္စများဖြင့် မအားသည့်အလျောက် ကလေးငယ်များကို ထိန်းကျောင်းပေးမည့်သူ မရှိသဖြင့် ယောက္ခမဖြစ်သူ အဘွားလူကို ခေါ်ထားရ၏။ အဘွားလူမှာ လောကဓံကို ကြုံခဲ့ရပြီ ဖြစ်သည့် မုဆိုးမတစ်ဦးဖြစ်လျက် အညံ့စား မြေကွက်ကလေးနှစ်ကွက်





ကို ကိုယ့်ဘာသာ လုပ်ကိုင်စားသောက်နေရသူတစ်ဦး ဖြစ်၏။ သား မထောက် သားခံမရှိသည့်အတွက် အညံ့စားမြေကွက်ကလေး နှစ်ကွက်ကို မိမိဘာသာ လုပ်ကိုင်စားသောက်နေရသူ တစ်ဦး ဖြစ်သည့်အလျောက် သမက်က ခေါ်၍ကျွေးမွေးထားသည့် အခါတွင် များစွာဝမ်းသာ၏။ အဘွားလူသည် သမက်နှင့်သမီးတို့၏အိမ်တွင် လူပိုမဖြစ်အောင် တတ်နိုင် သမျှ ကြိုးစား၍ အလုပ်လုပ်လေ၏။

နွေနှောင်းရာသီကုန်ဆုံး၍ ဆောင်းတွင်းသို့ ရောက်လာသည့်တိုင် သူတို့တွင် ဝမ်းစာ စုပြီးဆောင်းပြီး မရှိသည့်အတွက် ကိုအဲသည် စိတ်ညစ်ညစ်ဖြင့် အရက်ကိုချည်း ဖိသောက်ကာ အိမ်သူအိမ်သားများအား အမြဲရန်ရှာလျက် ရှိ၏။ ဇနီးဖြစ်သူမှာ ကြောက်သဖြင့် ဘာမျှပြန်မပြော ရဲသည့်တိုင် အဘွားလူကမူ ငုံ့ခံခြင်း မပြုချေ။

“မင်းကို ဆရာလုပ်တယ်လို့တော့ မအောက်မေ့ပါနဲ့ကွယ်၊ ပြောတော့ ပြောရဦးမယ်။ တို့ တောသူတောင်သူဆိုတာ ခပ်ရိုးရိုးရယ်။ အိုးတန် ဆန်စတ်ဆိုသလို ကိုယ့်ရှိတာကလေးနဲ့ကိုယ် တိုင်းထွာပြီး စားကြတာပါ။ ခု မင်းမှာ ငယ်ငယ်က အဖေ့ကအလိုလိုက်ခဲ့လေတော့ ကြီးလာတော့ ကိုယ့်လယ်ကိစ္စယာကိစ္စကို ကောင်းကောင်း မခန့်ခွဲတတ်ဘူးပေါ့။ အဲ ရှိလို့ မင်းမှာ ပိုက်ဆံလေးရှိယင် ရှေ့ရေးကို ဘာမှမကြည့်တော့ဘူး။ သုံးဖြုန်း ကုန်ပြီဆိုတော့ ဟိုလူရန်ရှာ ဒီလူရန်ရှာနဲ့။ အသက်တွေလဲကြီး လာတော့ ဒီလိုလုပ်ဖို့ မကောင်းတော့ပါဘူးကွယ်။ တို့များဟာ ကျေးလက် ဇနပုဒ်မှာ နေရပေမယ့် ဘုန်းတော်ကြီးသောဘုရားရဲ့ စက်ရိပ်မှာ ခိုလှုံနေကြရတာပဲ မဟုတ်လား။ ‘ရွှေနန်းတော် လမ်းမတန်းမှာ ပိုက်ဆံတွေ တောင်လိုပုံနေတယ်’တဲ့။ ရှေးစကားရှိတယ်။ လုပ်တတ်ကိုင်တတ်ယင် ငွေကြေးဆိုတာ မရှားပါဘူး။ ဒီတော့ ငါပြောချင်တာက မင်းအနေနဲ့ အိမ်မှာ ဘာလို့ တဆူဆူ တပူပူလုပ်နေမလဲ။ အကြံလေး ဘာလေး ထုတ်ကြည့်ပါလား”

"ခုတင်မီးဖိုကြီးပေါ်မှာ ဇိမ်နဲ့ထိုင်ပြီး ပြောရတာကတော့ လွယ်တာပေါ့ဗျ။ ခင်ဗျားပြောတဲ့အတိုင်းဆိုယင် ကျွန်တော်က ဘာလုပ်ရမှာလဲ။ ထွက်ပြီး ခိုးရမှာလား၊ ဒမြတိုက်ရမှာလား" ဟု ကိုအဲက ပြန်ပြော၏။

"ငါကလဲ ဒမြထွက်တိုက်ရမယ်လို့ မပြောပါဘူးကွယ်။ တို့များအချင်းချင်း တိုင်ပင်ဖို့ ပြောနေတာပါ။ ငွေစဆိုတာ သူ့အလိုလိုလိမ့်ပြီး အိတ်ထဲရောက်လာတာမှ မဟုတ်တာ"

"နည်းလမ်းရှာမတွေ့လို့ ဒီလိုနေတာပေါ့ဗျ။ ကြံတတ်ဖန်တတ်ယင် ဘယ် ဒီလိုနေပါတော့မလဲ။ ကျွန်တော့်မှာ ငွေတိုးချေးစားတဲ့ ဆွေမျိုးလဲ မရှိ၊ ရာထူးရာခံကြီးကြီးထဲကလဲ ဆွေမျိုးမရှိတော့လို့ ဒီလိုငုတ်တုတ်စင်းခံနေရတာပေါ့။ ဘာတတ်နိုင်မှာလဲ။ ဆွေမျိုးဆိုတာ ကိုယ့်မှာ ပိုက်ဆံမရှိယင် အလကားပါပဲ။ တွေ့ယင်တောင် မမြင်ချင်ယောင်ဆောင်နေမှာပါ"

"ဒီလိုလဲ အားမလျှော့ပါနဲ့ဦးကွယ်။ လူမတန်ပေမယ့် ကံကရှိပါသေးတယ်။ ဒီတော့ မင်းအနေနဲ့ အကြံအစည်တစ်ခုကို စိတ်ကူးပါ။ ရတနာသုံးပါးကို ကိုင်းရှိုင်းပါ။ ဘာပဲဖြစ်ဖြစ် အကျိုးမယုတ်ပါဘူး။ ငါ့အနေနဲ့ စိတ်ကူးထားတာ တစ်ခုတော့ရှိတယ်။ မင်းမိဘဘိုးဘွားများ လက်ထက်တုန်းက မင်းတို့မျိုးက ချင်လင်းမြို့က ဝမ်မိသားဆွေမျိုးစုနဲ့ အဆက်အစပ်ရှိခဲ့ကြတယ်။ တခြားမကြည့်နဲ့လေ။ လွန်ခဲ့တဲ့အနှစ်နှစ်ဆယ် လောက်တုန်းကတောင် မင်းကို သူတို့ ကူညီထောက်ပံ့ခဲ့ကြသေးတာပဲ။ မင်းကသာ မှာနကြီးပြီး သူတို့နဲ့ အဆက်အသွယ်မလုပ်လို့ အနေဝေးသွားကြတာ။

"တစ်ခါတုန်းက ငါ့သမီးနဲ့သွားခဲ့ဖူးသေးတယ်လေ။ အဲဒီတုန်းက သခင်မဝမ် ဆိုတာ အင်မတန်လဲ သဘောကောင်းတယ်။ ဟန်ကြီးပန်ကြီးလဲ မရှိဘူး။ အပေးအကမ်းကလဲ ရက်ရောပါဘိသနဲ့။ သခင်မဝမ်က ယွဲ့န်းစံအိမ်ကြီးက ကျီချိန်ဆိုတာနဲ့ရတယ်။ ခုဆိုယင် ဟိုတုန်းကထက်တောင် အပေးအကမ်း၊ အလှူအတန်း ရက်ရောသေးသတဲ့။ ရဟန်းတော်တွေ သီလရှင်တွေကို လှူဖို့ ဆန်တို့၊ ငွေစတို့ကို အမြဲတမ်းအံ့ဆွင်



PDF CREATOR - NYEYADHAMMA@GMAIL.COM



ထားတယ်တဲ့။ ခုဆိုယင် သူ့အစ်ကိုကြီးကလဲ နယ်ခြားမှာ စစ်ဗိုလ်ချုပ်ကြီးအဖြစ် ပြောင်းသွားရပြီတဲ့။ သခင်မဝမ်သိကို တို့များသွားယင်တော့ တို့ကိုမှတ်မိလိမ့်မယ်ထင်တာပဲ။ ဒီတော့ အဲဒီသခင်မဝမ်ဆီကို သွားကြည့်စမ်းပါလား။ ဟိုတုန်းက သားချင်း ဆွေမျိုး မိတ်ဆွေအပေါင်းအသင်းကို ငြင်းပယ်တန်မထင်ပါဘူး။ သူတို့အဖို့ ဒီလောက် ကူညီပေးဖို့ ရတာဟာ ဘာဖြစ်လောက်တာမှတ်လို့။ ကူညီတယ်ဆိုယင် လှူပေးတဲ့ ဆံပင်မွေးတစ်ချောင်းဟာ တို့ခါးထက်တောင် တုတ်ပါသေးတယ်ကွယ်"

ဤတွင် သမီးဖြစ်သူကလည်း

"ဟုတ်သားပဲ။ အမေပြောတာကောင်းတယ်။ ဒါပေမယ့် အမေရယ် ကျွန်မတို့လို ဆင်းရဲသားက သူတို့ဝင်းတံခါးတွေနား ဘယ်မှာသိရပါမလဲ။ သူတို့ဝင်းမှူးတွေကလဲ ကျွန်မတို့ကို ဘယ်မှာဝင်ခွင့်ပြုပါ့မလဲ။ အနားသွား ရစ်သီရစ်သီလုပ်နေယင် အရိုက်ခံရလို့ ဟုတ်ပေ့ ရှိနေပါမယ်"

သို့ရာတွင် သမက်ဖြစ်သူ ကိုအဲသည် အခွင့်ကောင်းကိုရလိုက်လေပြီ။ ယောက္ခမ၏ အကြံကို ကြားသည့်အခါတွင် သဘောကျသွားသာ ဇနီးဖြစ်သူ၏ ဆန့်ကွက်ချက်ကို ကြားသည့်အခါတွင် ရယ်လိုက်လျက်

"ဒီအကြံက အမေ့အကြံပဲ။ ပြီးတော့ အမေက အဲဒီသခင်မဝမ်ဆိုတာကိုလဲ အယင်တုန်းက တွေ့ဖူးပြီးသား။ ဒီတော့ မနက်ဖြန်လောက်ကျယင် အမေကိုယ်တိုင်သွားပြီး အခြေအနေ အကဲခတ်ကြည့်ချည်ပါလား"

"ကြွားသားမိုးကြိုးတော် ကျုပ်တော့ မသွားပါရစေနဲ့။ မှူးကြီးမတ်ရာ အိမ်တံခါးပေါက်ဆိုတာ ပင်လုံယ်ထက်တောင် နက်တယ်တဲ့။ ကျုပ်က အညတရ။ အစေတော်တွေ ဘာတွေကလဲ ကျုပ်ကိုသိမှာ မဟုတ်ဘူး။ ကျုပ်သွားလို့ ဘာထူးမှာလဲ"

"ကိစ္စမရှိပါဘူးလေ၊ ကျွန်တော်ပြောပြပါ့မယ်။ အမေတစ်ယောက်တည်း မသွားချင်ယင် ကျွန်တော့်သား ပန်အဲကိုခေါ်သွား၊ ဟိုရောက်ယင် ဝင်းမှူးချူယွီကို မေး။ ချူယွီကို တွေ့တယ်ဆိုယင် ကျွန်တော်တို့ ဟန်ကျပြီ။ ချူယွီက အဖေနဲ့ အဆက်အသွယ် ရှိခဲ့ဖူးတယ်။ ဝင်လဲဝင်တယ်"

"ချူယွီကိုတော့ ငါလဲသိပါတယ်ကွယ်။ ဒါပေမယ့်ဒီလောက်တောင် အကြာကြီးကွဲကွာပြီးမှပြန်တွေ့တော့ သူတို့က ဘယ်လိုများသဘောထားမလဲမသိဘူး။ တကယ်တော့ ယောကျ်ားလုပ်တဲ့မင်းတော် ဒီလောက်ရှိနေယင် ဒီပြင်လူ ဘယ်လိုနေမလဲဆိုတာ မင်းပဲစဉ်းစားကြည့်တော့ပေါ့၊ ငါ့သမီးကလဲငယ်သေးတော့ လူတောသူတောကိုတိုးရဲမှာ မဟုတ်သေးဘူး။ တို့များကတော့အဘွားကြီးဆိုတော့ အရေးမကြီးပါဘူး။ သူတို့စော်ကားလဲခံရုံပေါ့။ ဟန်ကျလာတယ်ဆိုယင်လဲ အားလုံးချောင်လည်တာပေါ့။ သူတို့ဆီက ငွေစကလေးဘာလေးမရတော့ဘဲ သွားတာကတော့ အကျိုးမယုတ်ပါဘူး။ အနည်းဆုံး သူတို့အထက်တန်းစားတွေ ဘယ်လိုနေတယ်ထိုင်တယ်ဆိုတာကို မြင်ဖူးတာပေါ့"

ထိုစကားကြောင့် အားလုံးရယ်လိုက်ကြ၏။ ညနေပိုင်းသို့ရောက်သည့်အခါတွင် ထိုပြဿနာမှာ ပြေလည်သွား၏။

နောက်တစ်နေ့၌ အဘွားလူသည် အရုဏ်မတက်မီ ကတည်းကအိပ်ရာမှထကာ ရေမိုးချိုးပြီးနောက် ဆံပင်တို့ကိုရှင်းလင်း၍ဖြီး၏။ မြေးငယ်ဖြစ်သူပန်အဲအား စံအိမ်သို့ရောက်လျှင် မည်သို့ပြောဆိုနေထိုင်ရမည်တို့ကိုသင်ကြား၏။ ပန်အဲမှာ ငါးနှစ်ခြောက်နှစ်သားခန့်ရှိသည့်လူမမည်ဖြစ်သည့်အလျောက် မြို့တော်သို့သွားရမည် ဆိုသည့်အခါတွင် ဝမ်းမြောက်ဝမ်းသာဖြစ်လျက်ရှိကာ ခိုင်းသမျှကိုမညည်းမညူလုပ်၏။

မြို့တော်သို့ရောက်သည့်အခါတွင် မြေးအဘွားနှစ်ယောက်သည် နိန်ယွန်းလမ်းကို မေးမြန်းလာခဲ့ကြ၏။ သို့ရာတွင် အဘွားလူမှာ ဝေါများ၊ မြင်းများနှင့်ရှုပ်ယှက်ခတ်လျက်ရှိသည့်အတွက် လန့်ဖျပ်ကာ ယွန်းစံအိမ်ကြီး၏ တံခါးဝတစ်ဖက်တစ်ချက်တွင်ရှိသည့် ခြင်္သေ့ရုပ်ကြီးများအနီးသို့ မကပ်ရဲအောင်ဖြစ်လျက်ရှိ၏။ အဘွားလူသည် အကြိုတွင်တစ်





နေသည့် ဖုန်မှုန့်များကိုခါပြီးနောက် မြေးဖြစ်သူပန်အဲကိုလည်း နောက်ဆုံးညွှန်ကြားချက်များပေးကာ ထိုဝင်းကြီး၏ဘေးမလွယ်ပေါက်တစ်ခုအနီးသို့ မရဲတရဲဖြင့်ကပ်လာခဲ့၏။ ထိုနေရာတစ်ဝိုက်၌ကား ဆောင့်ကြွားကြွားဖြစ်နေကြသော အစေတော်တစ်သိုက်သည် ခုံတန်းရှည်များပေါ်တွင် နေဆာလှုံလျက်ရှိရင်းက ဆူညံစွာစကားပြောလျက်ရှိကြ၏။

အဘွားလူက အရဲစွန့်၍ ရှေ့သို့တိုးလာကာ

"ငါ့မြေးကြီးများကို မေးချင်လို့ပါကွယ်"ဟု ပြောလေ၏။

အစေတော်တစ်သိုက်သည် အဘွားလူကို ခြေဆုံး ခေါင်းဆုံးကြည့်လိုက်ပြီးနောက် အကျိုးအကြောင်းကို မမေးချင်မေးချင်ဖြင့် မေးမြန်းခြင်းပြု၏။

"သခင်မဝမ် လက်ထက်တုန်းကပါလာခဲ့တဲ့ စာရင်းကိုင်မှူးချူယွီနဲ့ တွေ့ချင်လို့ပါကွယ်၊ ငါ့မြေးကြီးများ တဆိတ်သူ့ကိုခေါ်ပေးပါလား" ဟု အဘွားလူက ပြုံး၍ပြော၏။

အစေတော်များသည် အဘွားလူ၏ စကားကို မကြားသည့်နှယ်ဘာမျှမပြောဘဲ သူတို့ဘာသာ သူတို့ ဆက်၍ စကားပြောနေကြ၏။ နောက်ဆုံးတွင်မှ သူတို့အထဲမှတစ်ယောက်က

"အဘွားကြီး ဟောဟို တံတိုင်းထောင့်မှာ သွားထိုင်စောင့်ချည်။ ခဏနေတော့ သူတို့အိမ်က တစ်ယောက်ယောက် ထွက်လာလိမ့်မယ်"

ဤတွင် အသက်ကြီးကြီး အစေတော်တစ်ယောက်က

"ကွာ၊ အဘွားကြီးကို ဘာဖြစ်လို့ နှိပ်စက်နေမလဲ။ အချိန်ကုန်ပါတယ်။ ဒီမှာ အမေကြီး၊ ချူယွီ မရှိဘူးဗျ။ တောင်ပိုင်းကို ခရီးထွက်သွားတယ်။ သူ့မိန်းမတော့ ရှိတယ်။ ချူယွီရဲ့အိမ်က ဝင်းနောက်ဖေးမှာ။ အဲဒီတံတိုင်းကို ကွေ့ပြီး နောက်ဖေးဘက်ကို သွား၊ အဲဒီကျတော့မှ ချူယွီမိန်းမကို မေးကြည့်"

အဘွားလူသည် ထိုလူကို ကျေးဇူးတင်စကား ပြောပြီးလျှင် ပန်အဲကို လက်ဆွဲ၍ ဝင်းကြီး၏ နောက်ဖေးဘက်သို့ လာခဲ့လေ၏။ နောက်ဖေး မလွယ်ပေါက်တစ်ခုအနီးတွင်မူ အထမ်းသည်များသည်

အထမ်းများကိုချလျက် ဈေးရောင်းနေကြပြီး အစေတော်သူ … နှစ်ဒါဇင်လောက်သည် အထမ်းသည်များထံမှ သွားရည်စာများ … ဝယ်စားရင်း ဆူညံစွာ စကားပြောလျက်ရှိကြ၏။

အဘွားလူသည် လူငယ်ကလေးတစ်ယောက်၏လက်ကို လှမ်း … ဆွဲလိုက်လျက်

“ချူယွ်ိရဲ့အိမ်က ဘယ်နားမှာလဲကွယ်”

“ဘယ်ချူယွ်ိလဲဗျ။ ကျွန်တော်တို့ဆီမှာ ချူ သုံးယော … ရှိတယ်။ အဘွားအရွယ် ချူယွ်ိက နှစ်ယောက်ရှိတယ်။ အဘွား … ပြောတဲ့ ချူယွ်ိက ဘာလုပ်တာလဲ”

“သခင်မဝမ်နဲ့ပါလာတဲ့ ချူယွ်ိရဲ့မိန်းမကို ပြောတာပါကွယ်”

“ဒါဖြင့် လွယ်တယ်။ လာ ကျွန်တော်နဲ့ လိုက်ခဲ့”

အစေတော်သည် သူတို့မြေးအဘွားကိုခေါ်ကာ ရှေ့မှ နေ … ဝင်းထဲသို့ ဝင်သွား၏။ ဝင်းကြီးထဲသို့ရောက်လျှင် ဝင်းငယ်ကလေး … တစ်ခုကို လက်ညှိုးထိုးပြကာ “အဲဒါ သူတို့နေတဲ့ဝင်းပဲ။ အဒေါ်ရေ … ဟောဒီမှာဗျို၊ ခင်ဗျားကိုတွေ့ချင်လို့တဲ့၊ ဧည့်သည်လာတယ်”ဟု အော် … ခေါ်၏။ ချူယွ်ိ၏မိန်းမသည် ခပ်သုတ်သုတ် ထွက်လာခဲ့သည်တွင် … အဘွားလူက “ငါ့တူမကြီး၊ နေကောင်းတယ်နော်”ဟု အော်ဟစ် … နှုတ်ဆက်လေ၏။

ချူယွ်ိ၏ဇနီးသည် အဘွားလူကို ကောင်းစွာ မမှတ်မိချေ။ … အတန်ကြာမှ ပြုံးလာကာ

“ဟောတော်၊ လက်စသတ်တော့ အဘွားလူပါလား၊ ကျွန်မ … မှာ ဘယ်သူများလဲလို့၊ ကွဲသွားတာ ကြာတော့လဲ ဘယ်မှတ်မိတော့ … မလဲ။ လာ လာ ထိုင်”

အဘွားလူက အိမ်ထဲသို့လိုက်လာရင်း ပြုံးလျက်

“အေးလေ၊ ရာထူးကြီးလေ မှတ်ဉာဏ်ကနည်းသွားလေတဲ့အေ … စကားပုံရှိတယ်။ ဘယ်မှတ်မိနိုင်ပါတော့မလဲ”





အိမ်ထဲသို့ရောက်သည့်အခါတွင် ချူယွ်ိ၏မိန်းမသည် အိမ်စေ … တစ်ယောက်အား လက်ဖက်ရည်ယူလာရန် ပြော၏။ ထို့နောက် ပန်အဲ … ကို သေချာစွာကြည့်လိုက်ကာ “အမယ်လေး၊ နည်းတဲ့ကောင်ကြီး မဟုတ်ပါလား၊ ကြည့်စမ်း၊ ထွားလာလိုက်တာ”ဟု ပြော၏။ … မာကြောင်းသာကြောင်း ပြောဆိုပြီးနောက် ချူယွ်ိ၏ဇနီးက လမ်း … ကြုံ၍ လာခြင်းဖြစ်သလော၊ သို့မဟုတ် အကြောင်းကိစ္စတစ်စုံတစ်ရာ … ရှိသလောဟု မေးမြန်းလေ၏။

“ညည်းကိုလဲ တွေ့ရအောင်၊ ပြီးတော့ သခင်မ ဝမ်ရဲ့ ကျန်းမာ … ရေးလဲ ဘယ်လိုနေသလဲဆိုတာ သိရအောင် လာခဲ့တာ ဆိုပါတော့အေ။ … သခင်မ ဝမ်နဲ့ တွေ့ရအောင် လုပ်ပေးနိုင်ယင်တော့ ဟန်ကျတာပဲ။ … တွေ့ခွင့် မရနိုင်ဘူးဆိုယင်လဲ ကိစ္စမရှိပါဘူး။ မာကြောင်းသာကြောင်း … လာမေးတယ်လို့သာ ပြောလိုက်ပါ”

ဤမျှလောက် ပြောရုံဖြင့် ချူယွ်ိ၏ ဇနီးသည် အဘွားလူ … အလည်လာသည့် အကြောင်းကို ရိပ်မိလိုက်လေပြီ။ ကိုအဲသည် သူတို့ … လယ်မြေကလေး ဝယ်စဉ်က အများကြီး ထောက်ပံ့ ကူညီခဲ့ဖူးရာ ယခု … အဘွားလူက သခင်မဝမ်ကို တွေ့ချင်သည် ဆိုသည့်အခါတွင်လည်း … ငြင်းရက်အောင် ဖြစ်လျက် ရှိ၏။ ထို့ပြင် မိမိသည် ဤစံအိမ်ကြီးတွင် … အရေးကြီးသည့် လူတစ်ယောက် ဖြစ်သည် ဆိုခြင်းကိုလည်း အဘွားလူ … သိအောင်ပြချင်စိတ် ပေါ်လျက်ရှိ၏။ ချူယွ်ိ၏ မိန်းမကပြုံးလိုက်လျက်

“တွေ့ရပါတယ် အဘွားရယ်၊ ဒီလောက်လဲ စိတ်ပူမနေစမ်း … ပါနဲ့။ အဘွားကတောင် တွေ့ချင်လွန်းလို့ အဝေးကြီးက လာခဲ့ပြီပဲ။ … ကျွန်မအနေနဲ့ ကူရမှာပေါ့။ အမှန်ပြောရယင်တော့ ဧည့်သည်တွေ … တာတွေကို သွင်းဖို့ ကျွန်မ တာဝန် မဟုတ်ဘူး။ ဒီမှာက ကိုယ့်တာဝန်နဲ့ … ကိုယ် အဘွားရဲ့။ ဥပမာ— ကျွန်မ်ယောကျ်ားဆိုယင် နွေဦးနဲ့ နွေနှောင်း … မှာ သီးစားတွေကို လိုက်ကောက်ရတယ်။ သခင်လေးတွေ ခရီးထွက် … ယင် လိုက်ရတယ်။ ကျွန်မကတော့ သခင်မကလေးတွေ အပြင်ထွက်ယင်

လိုက်ရတယ်။ ဒါပေမယ့် အဘွားကတော့ သခင်မ ဝမ်နဲ့လဲ အမျိုးတော်ပြန်၊ ကျွန်မဆီကိုလဲ အကူအညီ လာတောင်းပြန်ဆိုတော့ အဘွားကိစ္စကိုတော့ ခြွင်းချက် အနေနဲ့ စဉ်းစားရမှာပေါ့။

"ဒါပေမယ့် အဘွားသိအောင် တစ်ခုတော့ ပြောလိုက်ရဦးမယ်။ လွန်ခဲ့တဲ့ ငါးနှစ်လောက်အတွင်း စံအိမ်ကြီးမှာလဲ တော်တော်ပြောင်းသွားတယ် အဘွားရဲ့။ သခင်မဝမ်က အိမ်အုပ်ချုပ်ရေး ကိစ္စတွေကို သူကိုယ်တိုင် မကိုင်တော့ဘူး အဘွားရဲ့။ ကျီလျံရဲ့ မိန်းမ နတ်ငှက်မယ်ကို လွှဲထားတယ်။ နတ်ငှက်မယ်ဆိုတာကလဲ သူ့တူမအရင်း ခေါက်ခေါက်ကြီး မဟုတ်လား။ သူ့အစ်ကို အကြီးဆုံးရဲ့ သမီးလေ"

"ဟုတ်လား၊ နတ်ငှက်မယ် ငယ်ငယ်တုန်းက အဘွားက ပေါင်ပေါင်ဟောခဲ့ဖူးတယ်လေ။ကြီးပွားလိမ့်မယ်လို့ဟောခဲ့တာ။ ဒီလိုဆိုအတော်ပဲ။ ဒီနေ့ တွေ့ရမှာပေါ့"

"ဟုတ်တာပေါ့။ ခုဆိုယင် သခင်မဝမ်က ဧည့်သည်တွေ ဘာတွေကို သိပ်လက်ခံ မတွေ့တော့ဘူး။ အလုပ်ကိစ္စတွေကို သိပ်ခေါင်းထဲမထည့်တော့ဘူး။ ဖြစ်နိုင်ယင် သူ့တူမ နတ်ငှက်မယ်ကိုပဲ ဧည့်သည်တွေကို တွေ့ဖို့ရော ဘာရော ကိစ္စမှန်သမျှကို အကုန် လွှဲထားတယ်။ ဒီတော့ သခင်မဝမ်ကို မတွေ့ရသည့်တိုင် နတ်ငှက်မယ် သခင်မလေးကို တွေ့သွားပေါ့။ နို့မို့ယင် အဘွားလာရတာ အလကား ဖြစ်မှာပေါ့"

"အင်း၊ မယ်မင်းကြီးမ ကူညီပေလို့ အဆင်ပြေတာပေါ့တော်။ မယ်မင်းကြီးမ ဘုန်းကြီးပါစေ၊ သက်ရှည်ပါစေ"

"ဒီလိုလဲ မဟုတ်ပါဘူး အဘွားရယ်၊ သူ့အကျိုးဆောင် ကိုယ့်အကျိုးအောင်ဆိုတဲ့ စကားလဲ ရှိသားပဲ။ ကျွန်မမှာ ဘာအပန်းကြီးတာ မှတ်လို့" ဟု ဆိုပြီးနောက် ချူယွီ၏ မိန်းမသည် မယ်မယ် ထမင်းစားပြီး မပြီး သိရန် အိမ်စေမကလေး တစ်ယောက်ကို လွှတ်လိုက်၏။ ၎င်းတို့နှစ်ယောက် ဆက်လက် စကားပြောဆိုနေကြစဉ် အဘွားလူက

"နတ်ငှက်မယ်သခင်မကလေးက အလွန်ဆုံးရှိမှ နှစ်ဆယ်လောက်ပဲ ရှိဦးမယ်နော်၊ ကြည့်စမ်း၊ ဒီအသက်အရွယ်ကလေးနဲ့ အိမ်ထောင်ကြီး တစ်ခုလုံးကို စီမံအုပ်ချုပ်နိုင်တာကတော့ အံ့သြစရာပဲနော်"





"အမယ်လေး၊ မှပြောနဲ့တော့ အဘွားရေ၊ အဘွားပြောတာဇာ အရည်အချင်းတစ်ဝက်တောင် မရှိသေးဘူး။ နတ်ငှက်မယ်သခင်မ က ငယ်သာ ငယ်တယ် အိမ်ထောင်မှုကိစ္စ စီမံတတ်လိုက်တာကလဲ ပြောနဲ့တော့။ ပြီးတော့ ချောလိုက်လှလိုက်တာကလဲ ကျွန်မဖြင့် ဒါ မြင်ဖူးပါဘူးတော်။ လိမ္မာလိုက်ပုံကလဲ ဆိုစရာမရှိ။ လိမ္မာတယ်ဆိုတဲ့ လုံးနဲ့တောင် မကိုက်သေးပါဘူးလေ။ ဘယ်လိုပြောရမှန်းတောင် တော့ဘူး။ စကားပြောတာကလဲ ယဉ်ကျေးပါဘိသနဲ့။ ချက်ကျ ကျပြောပြီဆိုယင် ဘော်ကော့ ယောကျ်ားဆယ်ယောက် သူ့ကို ပြိုင်နိုင်လိမ့်မတုန်း။ အဘွားကိုယ်တိုင်သာကြည့်ပြီး အကဲခတ်ပေ တော့။ သူ့မှာ ပြောစရာဆိုလို့ အောက်လက်ငယ်သားတွေအပေါ်မှာ ကြမ်းကြီးတာတစ်ခုပဲ ရှိတယ်"

ထိုအချိန်တွင် လွှတ်လိုက်သည့် အိမ်စေသူငယ်မကလေး ပြန် ရောက်လာကာ

"မယ်မယ်လဲ ထမင်းစားလို့ပြီးတော့မှာပါ၊ နတ်ငှက်မယ်သခင်မ ကလေးလဲ သခင်မဝမ်အနားမှာ ရှိတယ်ရှင့်" ဟု ပြောလေ၏။

ချူယွီ၏ဇနီးက အဘွားလူအား ခပ်သုတ်သုတ်လာရန်ပြောပြီး

"ကဲ ကဲ လာ အဘွား၊ ကျွန်မတို့မှာ သခင်မဝမ် စားသောက်နေ တုန်းဆိုယင် စောင့်ရတာ။ သွားပြီး စောင့်ချည်ကြရအောင်။ ကြာကြာ ယင် လူစုကွဲသွားလို့ အကုန်မတွေ့လိုက်ရဘဲ နေလိမ့်ဦးမယ်။ နေ့လယ် အိပ်ချိန်ရောက်ယင်တော့ တွေ့ရမယ်လို့ မမျှော်လင့်နဲ့တော့"

သူတို့နှစ်ယောက်သည် ခုတင်မီးဖိုကြီးပေါ်မှ ဆင်းကာ အဝတ် အစားများကို သပ်ရပ်အောင် ပြင်ဆင်၏။ အဘွားလူလည်း မြေးငယ် ပန်အဲကို နောက်ဆုံး ညွှန်ကြားချက်ပေးပြီးလျှင် ကွေ့ကောက်နေသော လမ်းကြားကလေးများအတိုင်း ချူယွီနောက်မှနေ၍ ကျီလျံနှင့် နတ် ငှက်မယ်တို့ဇနီးမောင်နှံ နေထိုင်ရာ ခန်းဆောင်သို့ လိုက်လာခဲ့ကြ၏။ ရောက်လျှင် အမိုးမိုးထားသည့် စင်္ကြံကလေးတစ်ခုထဲတွင် စောင့်ကျန် ရစ်ခဲ့ကြ၏။ ချူယွီ၏ ဇနီးသည် နတ်ငှက်မယ်၏ ခန်းဆောင်ထဲသို့ ဝင်ရောက်သွားလျှင် အဘွားလူဆိုသည်မှာ မည်သူဖြစ်ကြောင်းကို နတ်

ငှက်မယ်၏အစေတော် ပင်အဲအား ရှင်းလင်းပြောပြလျက်ရှိလေ၏။ ပင်အဲမှာ ကျိုလျံနှင့် နတ်ငှက်မယ်တို့ လက်ထပ်စဉ်က ခန်းဝင်ပစ္စည်းအဖြစ် ပါလာသော ကျွန်ယုံတစ်ယောက်ဖြစ်ပြီးလျှင် ယခုအချိန်၌ ကျိုလျံ၏ အမြှောင်မယားဖြစ်လျက် ရှိလေပြီ။

''အဘွားလူက သခင်မကြီးဝမ်ကို တွေ့ချင်လို့ လာတာပါ။ တုန်းကဆိုယင် နှစ်တိုင်း လာလာပြီး တွေ့နေကျ။ သခင်မ ဝမ်က လက်ခံတွေ့နေကျပါ။ ဒါကြောင့် ကျွန်မကလဲ ခေါ်လာရဲတာပေါ့။ နတ်ငှက်မယ်သခင်မကလေးလာယင် ကျွန်မပြောပြမယ်လေ။ ဒီလို စွန့်ခေါ်လာလို့ ကျွန်မကို စိတ်ဆိုးမှာ မဟုတ်ဘူး။ စိတ်မဆိုးဘူးထင် လဲ ခေါ်လာမိတာပဲလေ''

ပင်အဲသည် သူတို့ကို အထဲသို့ခေါ်ရန် သဘောတူလိုက်သ အတွက် ချူယွီ၏ဇနီးလည်း အဘွားလူတို့ မြေးအဘွားကိုခေါ် အပြင်သို့ ထွက်သွား၏။ သူတို့သုံးယောက် ဧည့်ခန်းဆောင်သို့တက်သ လှေကားထိပ်သို့ ရောက်သည့်အခါ၌ အစေတော်တစ်ယောက်သ အနီရောင် သိုးမွေးခန်းဆီးကြီးကို မပေးလိုက်သည်တွင် ရေမွှေး သင်းထုံလျက်ရှိသည်ကို သတိထားလိုက်မိ၏။ တစ်ခန်းလုံးမှာ ရေမွှေး ဖြင့် သင်းပျံ့လျက် ရှိ၏။ အဘွားလူကား ထိုအနံ့သည် မည်သည့်အ ဖြစ်သည်ကို မသိသော်လည်း လေထဲတွင် လျှောက်နေရသကဲ့သို့ ရှိ လျက် ရှိလေပြီ။ ထို့ပြင် အခန်းထဲတွင်ရှိသည့် ပစ္စည်းတို့ကိုကြည့် တအံ့တသြဖြစ်လျက်ရှိကာ ခေါင်းထဲတွင် ယစ်မူး၍လာ၏။ အဘွားလူ သည် ခေါင်းကိုညိတ်ကာ နှုတ်ခမ်းကို တပျတ်ပျတ်လျက်ရင်း ''ဘုရား ဘုရား၊ တယ်လှလဲ ခမ်းနားကြီးကျယ်ပါကလား'' ဟု ရေရွတ်ဆိုလာ ၏။

ပင်အဲမှာ ကျိုလျံ၏ သမီးငယ်၏ အိမ်ခန်းဖြစ်သော အမှော ခုတင်မီးဖိုကြီးအနီးတွင် ရပ်လျက်ရှိ၏။ ပင်အဲသည် အဘွားလူကို တ ချက် နှစ်ချက်မျှလှမ်းကြည့်လိုက်ပြီးလျှင် သံပြတ်ဖြင့် နှုတ်ဆက်၍ ဝာစ် ရာတွင် အထိုင်ခိုင်းလေ၏။





ပိုးအင်္ကျီ ဝတ်စုံကြောင့် လည်းကောင်း၊ ဝတ်ဆင်ထားသည့် ရွှေငွေ လက်ဝတ်တန်ဆာများကြောင့် လည်းကောင်း၊ ပန်းပွင့်တစ်ပွင့် ကဲ့သို့ လှပသော မျက်နှာကြောင့် လည်းကောင်း အဘွားလူသည် ပင် အဲကို နတ်ငှက်မယ်သခင်မကလေးဟု ထင်မှတ်လျက်ရှိ၏။ သို့ရာတွင် အဘွားလူက 'သခင်မကလေး' ဟု နှုတ်ဆက်မည်အပြု ထိုသူငယ်မနှင့် ချူယွီ၏ ဇနီးတို့သည် တန်းတူပမာ စကားပြောဆိုလျက် ရှိသည်ကို ကြားလိုက်ရသည့်အတွက် ထိုမိန်းမပျိုမှာ မျက်နှာသာပေးခံရသည့် အစေတော်တစ်ဦးသာဖြစ်ကြောင်းကို သိလိုက်၏။

အဘွားလူတို့မြေးအဘွားကို ခုတင်မီးဖိုကြီးပေါ်တွင် အထိုင် ခိုင်းပြီးနောက် ချူယွီ၏မိန်းမနှင့် ပင်အဲတို့သည် အစွန်းတွင် မျက်နှာ ချင်းဆိုင်ထိုင်လျက် ရှိကြ၏။ အစေတော်များက လက်ဖက်ရည် ယူလာ သည့်အတွက် အဘွားလူသည် လက်ဖက်ရည်ကို သောက်နေစဉ် ဂျုံ ကြိတ်စက် မြည်သံကဲ့သို့ တဒေါက်ဒေါက်မြည်သံတစ်ခုကို ကြားရ၏။ အဘွားလူသည် အနီးပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်သည့် အခါတွင် အခန်းဆောင်ထဲရှိ တိုင်တစ်တိုင်ကို ပူးတွဲထားသည့် သေတ္တာလို ပစ္စည်း တစ်ခုကို မြင်လိုက်ရပြီး ထိုအရာအောက်တွင်လည်း အလေးများ ဆွဲ ထား၏။ ထိုအလေးများသည် ထိုမှ၍မှ လှုပ်ယမ်းကာ တဒေါက် ဒေါက်မြည်လျက်ရှိ၏။

'ဘာခုကြီးများပါလိမ့်၊ ဘာလုပ်တာ များပါလိမ့်' ဟု အဘွားလူ စဉ်းစားလျက်ရှိ၏။

ခဏကြာလျှင် ထိုသေတ္တာကြီးဆီမှ ကြေးခေါင်းလောင်းကြီးကို တီးလိုက်သည်နှယ် ဒေါင်ဟူသော အသံတစ်ချက် ပေါ်လာပြီးလျှင် ထို အတိုင်း ရှစ်ချက်ကိုးချက်ခန့် ပေါ်လာ၏။ ထိုပစ္စည်းကြီးအကြောင်းကို ကောင်းစွာမသိရသေးမီ 'နတ်ငှက်မယ်သခင်မလေးလာနေပြီ'' ဟု အော် ၍ ပြေးလာကြသော အစေတော်တစ်သိုက်ကို မြင်ရ၏။

ပင်အဲနှင့် ချူယွီ၏ မိန်းမတို့သည် ချက်ချင်းမတ်တတ်ရပ်လိုက် ကြပြီးလျှင် အဘွားလူကိုလည်း လာမခေါ်မချင်း မတ်တတ်ရပ်နေရန်

ပြော၏။ မကြာမီ သူတို့နှစ်ယောက် ထွက်သွားသည့် အခါ၌ အဘွားလူသည်နားကိုစွင့်ကာအသက်မျှကောင်းကောင်းမရှူနိုင်ဘဲတိုတ်ဆိတ်စွာ စောင့်ဆိုင်းလျက် ရှိ၏။

အဝေးမှရယ်သံများကို ကြားရ၏။ ဆယ်ယောက်နှင့် အယောက်နှစ်ဆယ်ခန့် ကြား၌ရှိ အစေခံမျှားသည် အပြင်ဘက် ခန်းဆောင်မှ အတွင်းဆောင်များဆီသို့ ပြေးဝင်သွားကြ၍ ယွန်းသေတ္တာများကို ကိုင်ထားသည့် အစေတော် နှစ်ယောက် သုံးယောက်တို့မှာမူ အဘွားလူတို့ အနီးတွင် လာ၍ ရပ်စောင့်နေကြ၏။ ထမင်းပွဲများ လာချရန် အမိန့်ပေးလိုက်သည့်အခါ၌ ပန်းကန်နှင့် ခွက်ယောက်များကို ချရန် အစေတော် အနည်းငယ်မှအပ အခြားအစေတော်များ မရှိတော့ချေ။ အတန်ကြာ တိတ်ဆိတ်လျက် ရှိပြီး ဖေကြာလျှင် အစေတော် မိန်းမနှစ်ယောက်သည် လက်ဖြင့်ပင် တို့ရသေးဟန် မတူသော အသားဟင်းခွက်များနှင့် ငါးဟင်းခွက်များကို တင်ထားသည့် စားပွဲခုံနိမ့်ကလေး တစ်လုံးကို မ လာပြီးနောက် ခုတင်မီးဖိုပေါ်သို့ တင်လိုက်၏။ ပန်အဲမှာ ထိုဟင်းခွက်များကို မြင်ရုံမျှဖြင့် စားချင်လွန်းသဖြင့် သွားရည်ကျလျက် ရှိလေပြီ။ အဘွားလူက ပန်အဲ၏ ပေါင်ကို ဆွဲလိမ်ကာ သတိပေး၏။

ထိုနောက်တွင် ချူယွီ၏ မိန်းမသည် ခပ်ပြုံးပြုံးဖြင့် ထွက်လာကာ အဘွားလူကို လက်ယပ်ခေါ်၏။ အဘွားလူသည် မြေးငယ် ပန်အဲကို ခုတင် မီးဖိုကြီးပေါ်မှ ပွေ့ချကာ မြေးအဘွား နှစ်ယောက်တို့သည် ခန်းဆောင်ထဲသို့ ဝင်ခဲ့ကြ၏။ ချူယွီ၏ ဇနီးက မည်သို့မည်ပုံ နေထိုင်ရမည်ကို ပြောဆို၏။ အဘွားလူသည် သူ ပြောဆိုသည်ကို နားထောင်ပြီးလျှင် နတ်ငှက်မယ်၏ ခန်းဆောင်ထဲသို့ နောက်မှ ဖြည်းညင်းစွာ လိုက်ပါလာခဲ့၏။

ခန်းဆောင်အဝင် တံခါးရှိ ကြေးဝါချိတ်ကြီးများတွင် ကြက်သွေးရောင် ဖျော့ဖျော့ ပန်းပြောက် ခန်းဆီးကြီးတစ်ခုရှိပြီး တောင်ဘက် လေသာပြတင်း အနီးရှိ ခုတင်မီးဖိုကြီးပေါ်တွင်လည်း ကြက်သွေးရောင် မွေးပွ ကော်ဇောကြီး တစ်ချပ် ခင်းထားလေ၏။ ထိုခုတင်မီးဖို၏အရှေ့ဘက်စွန်းရှိ သစ်သားနံရံအနီးတွင်မူ မှီအုံးနှင့် နန်းကြိုးလိမ်များ ပုံဖော်





ထားသည့် ဖဲစွပ် စွပ်ထားသော ဖဲခွအုံးကြီးတစ်လုံးရှိလျက် ထိုခွအုံးအနီးတွင်လည်း အလယ်တွင် ရွှေပန်းပွင့် ရေးခြယ်ထားသည့် ဖိတ်ဖိတ်တောက်နေသော ဖဲမွေ့ရာကြီး တစ်ခု ခင်းထားလေ၏။ ထိုမွေ့ရာ အနီးတွင် ငွေထွေးခံ တစ်လုံး ချထား၏။

နတ်ငှက်မယ်သည် အိမ်တွင် ဝတ်နေကျ ဖြစ်သည့် ပုလဲကြိုးသီ အနက်ရောင် မြေပါမွေးခေါင်းစွပ်ကလေး ဆောင်းထား၏။ အင်္ကျီမှာ မက်မုံပွင့်အနီရောင် ပန်းပြောက်အင်္ကျီဖြစ်လျက် မီးခိုးရောင် ရှဉ့်မွေးကပ် မိမ်းပြာနုရောင် လည်စည်းပတ်ထားပြီး လုံချည်မှာ ကြောင်ဥကျည့်မွေး အဖြူကွပ်သည့် မရမ်းရောင် နိုင်ငံခြား ကတ္တီပါလုံချည် ဖြစ်၏။ နတ်ငှက်မယ်သည် မျက်နှာကို နံ့သာလိမ်းခြယ်ကာ နှုတ်ခမ်းနှင့် ပါးနှစ်ဖက်ကို နီရဲနေအောင် ဒန်းနီဆိုးထားပြီး ကိုယ်ကို မတ်မတ်ထား၍ ထိုင်ရင်း လက်ဆွဲမီးဖိုကလေးထဲမှ ပြာများကို ကြေးနီညှပ်ဖြင့်ဆွလျက် ရှိ၏။ ပင်အဲသည် အဖုံးအုပ်ထားသည့် ခွက်ကလေးတစ်ခွက် ထည့်ထားသော ဗန်းတစ်ခုကိုကိုင်လျက် ခုတင်မီးဖိုအနီးတွင် ရပ်လျက်ရှိသည့်တိုင် နတ်ငှက်မယ်ကမူ လက်ဖက်ရည်ခွက်ကို ဂရုမထားနိုင်သေးဘဲ ခေါင်းငုံ့ကာ မီးဆွလျက်ရှိ၏။

"ဘာဖြစ်လို့ ခုချက်ချင်းခေါ်မလာတာလဲ" ဟု နတ်ငှက်မယ်က မေး၏။

ထိုနောက် လက်ဖက်ရည်ခွက်ကိုသောက်ရန် ခေါင်းကိုမော့လိုက်စဉ် အဘွားလူတို့ မြေးအဘွားနှစ်ယောက်ကို ခေါ်လာသည့် ချူယွီ၏ မိန်းမကို မြင်လိုက်၏။ နတ်ငှက်မယ်သည် ကိုယ်ကိုအနည်းငယ်ကြွ၍ ပြုံးရွှင်စွာနှုတ်ဆက်လိုက်ပြီးလျှင် စောစောက ကြိုတင်မပြောရကောင်းလောဟု ချူယွီ၏ မိန်းမကို အပြစ်တင်လျက်ရှိ၏။

အဘွားလူက နတ်ငှက်မယ်ကို အကြိမ်ကြိမ် ဦးညွတ်နှုတ်ဆက်သည့်အခါ၌ နတ်ငှက်မယ်က ကပျာကယာဖြင့်

"ချူရေ၊ အဘွားက ကျွန်မကို ဒီလောက်ရှိသေနေဖို့ မလိုပါဘူး။ နေရာထိုင်ခင်းများ ချပေးလိုက်ပါ။ ကျွန်မက ငယ်သေးတော့ အဘွားနဲ့ ဘယ်လိုတော်စပ်မှန်း မသိဘူး၊ ဒါကြောင့် ဘယ်လိုခေါ်ရမှန်းလဲ မသိဘူး"

"ကျွန်မပြောပြောနေတဲ့ အဘွားလူလေ သခင်မလေးရဲ့"

နတ်ငှက်မယ်က ခေါင်းညိတ်လိုက်၏။

ယခုအချိန်၌ အဘွားလူမှာ ခုတင်မီးဖိုကြီးခြေရင်းတွင်ထိုင်လျက်ရှိ၍ ပန်အဲမှာလည်း သူ့အဘွားနောက်တွင် ကုပ်ကုပ်ကလေးထိုင်လျက်ရှိ၏။ ရှေ့သို့တိုးထိုင်ရန် ပြောသော်လည်း ပန်အဲမှာ အဘွားနောက်တွင်သာ ကုပ်လျက်ရှိလေ၏။

နတ်ငှက်မယ်က ပြုံးလိုက်ရင်း

"အင်း၊ ဆွေမျိုးဆိုတာ အဆက်အဆံ၊ အသွားအလာမရှိတော့လဲ ဝေးသွားကြတာပေါ့လေ။ ကျွန်မတို့အကြောင်းကို မသိတဲ့လူများကတော့ ကျွန်မတို့ကို စိမ်းတယ်လို့ ပြောကြမှာပဲ၊ တချို့ စိတ်ထားသေးသိမ်တဲ့ လူများကတော့လဲ ကျွန်မတို့ဟာ လူတိုင်းကို အပေါ်စီးကြည့်တယ်၊ အထင်သေးတယ်လို့ ပြောကြမှာပဲ"

"ဒီလိုမအောက်မေ့ပါဘူး သခင်မလေးရယ်၊ အဘွားတို့မှာ နေ့ဖို့ညစာ ရှာစားနေရတာဆိုတော့ ဒါတွေကိုလဲ မစဉ်းစားမိပါဘူး၊ အဘွားတို့လာလို့ သခင်မလေးတို့က ရိုက်နှက်မလွှတ်ပေမယ့် တပည့်တပန်းတွေ၊ အစေတော်တွေကတော့ အဘွားတို့ကို သူတောင်းစားတွေ၊ လူလေလူလွင့်တွေလို့ အောက်မေ့ကြမှာပဲ"

နတ်ငှက်မယ်က ရယ်လိုက်ကာ

"ဒီလိုလဲ မပြောပါနဲ့ အဘွားရယ်။ ကျွန်မတို့ကလဲ ဒီလောက်ချမ်းသာလှတာ မဟုတ်ပါဘူး၊ ကျွန်မတို့အဘိုးရဲ့ ဂုဏ်သိက္ခာနဲ့ ကိုက်ညီအောင် လိုက်နေနေရတာပါ။ အမှန်ကတော့ ကျွန်မတို့စံအိမ်ကလဲ ရှေ့ဆံကျွတ် ဆိုသလို အခွံသာသာလောက်ပဲ ရှိပါတော့တယ်။ 'ဘုရင်မှာ





...ခင် ဆင်းရဲတဲ့ ဆွေမျိုးသားချင်း ရှိတယ်' ဆိုတဲ့ စကားပုံလဲ ရှိသား ...၊ ဘုရင်မှာတောင် ဆင်းရဲတဲ့ ဆွေမျိုးသားချင်း ရှိသေးတာ၊ ကျွန်မ ...တော့ ဘာပြောစရာ လိုတော့သလဲ"

နတ်ငှက်မယ်က ဒေါ်လေးဝမ်ထံ သွား၍ အကြောင်းပြီးခြင်း ...မျှ ချူယွှီ၏ဇနီးကို မေးလိုက်၏။

"မပြောရသေးပါဘူး။ သခင်မလေးရဲ့ အမိန့်ကို စောင့်နေ ...ပါ"

"ဒါဖြင့် အားရှဲလား သွားကြည့်စမ်း။ ဧည့်သည်တွေ ဘာတွေ ...ပင် နေပေ့စေတော့။ ဧည့်သည်ရှင်းယင်တော့ အကျိုးအကြောင်း ...ပြခဲ့။ သူ ဘာပြောသလဲဆိုတာလဲ နားထောင်ခဲ့"

ချူယွှီ၏မိန်းမ ထွက်သွားသည့်အခါ၌ နတ်ငှက်မယ်က ပန်အဲ ...ကို သကြားလုံးများပေးရန် အစေတော်များကို ခိုင်းလိုက်၏။ နတ် ...ငှက်မယ်က အဘွားလူအား မေးခွန်းများ မေးလျက်ရှိစဉ် ခိုင်းထား ...သော အစေတော်များ ပြန်ရောက်လာကြပြီ ဖြစ်ကြောင်း၊ အကျိုး ...အကြောင်းကိုပြောရန် အပြင်တွင် စောင့်ဆိုင်းနေကြကြောင်း အစေ ...တော် ပင်အဲက လာရောက်ပြောလေ၏။

"ငါ့မှာ ဧည့်သည်တစ်ယောက် ရောက်နေတယ်။ ညနေကျမှ ...အကျိုးအကြောင်း လာပြောလှည့်လို့ ပြောလိုက်။ အရေးတကြီးပြော ...ရမှာ ရှိယင်တော့ ဝင်ခဲ့လို့"

ပင်အဲသည် ထွက်သွားပြီး မကြာမီ ပြန်ဝင်လာကာ

"အရေးတကြီးတော့ ဘာမှမရှိဘူးလို့ ပြောပါတယ် သခင်မ ...လေး။ ဒါ့ကြောင့် သူတို့ကို ပြန်လွှတ်လိုက်ပါတယ်"

နတ်ငှက်မယ်က ခေါင်းညိတ်ပြလိုက်၏။ ချူယွှီ၏ မိန်းမသည် ပြန်ရောက်လာ၏။

"သခင်မဝမ် ဒီနေ့မအားဘူး သခင်မလေး။ သခင်မလေးပဲ ကြည့်ညှိခံပြီး ခုလိုလာတဲ့အတွက်လဲ ကျေးဇူးတင်ကြောင်းပြောလိုက် ပါတဲ့။ ကြုံလို့ ဝင်လာစယင်လဲ ကောင်းတာပေါ့တဲ့။ တကယ်လို့ ကိစ္စ ...ရှိယင်တော့ သခင်မလေးကို ပြောခဲ့ပါတဲ့"

"အထူးအထွေကော့ ကိစ္စမရှိပါဘူး။ မတွေ့ရတာကြာလို့ တွေ့တာပါ။ ဘယ်လိုများ တော်စပ်ကြသလဲဆိုတာလဲ သိချင်လို့ပါ"

ချူယွ၏ မိန်းမက

"ဟုတ်ပြီလေ။ ဘာမှကိစ္စမရှိဘူးဆိုယင်လဲ ပြီးရောပေါ့။ ကိစ္စ ရှိတယ်ဆိုယင်လဲ ဟောဒီက နတ်ငှက်မယ်သခင်မလေးကို သွားပြော လဲ ပြီးပါတယ်။ သူ့ကိုပြောတာဟာ သခင်မဝမ်ကို ပြောတာနဲ့အတူတူ ပါပဲ"

ချူယွ၏မိန်းမက အဘွားလူကို မျက်စိတစ်ဖက်မှိတ်၍ ပြလိုက် သည်တွင် အဘွားလူကလည်း ချက်ဆိုလျှင် နားခွက်က မီးတောက်ပြီ ဖြစ်၏။ အဘွားလူသည် ရှက်သဖြင့် မျက်နှာတွေ ထူပူနေသည့်ကြား မာနကိုဘေးချိတ်ကာ လာရသည့်အကြောင်းကို ပြောပြ၏။

"ရောက်ရောက်ချင်း ဆောက်နဲ့ထွင်းဆိုသလို ရှေ့မျက်နှာ နောက်ထားပြီး ပြောရတော့မှာပဲ။ လာရတဲ့အကြောင်းက တခြား တော့ မဟုတ်ပါဘူး။ အကူအညီတစ်ခု တောင်းချင်လို့ပါ။ အမှု ကတော့"

စကားမဆုံးခင်မှာပင် သူငယ်တော်အချို့သည် အရှေ့တံခါးမှ ဝင်လာကာ "အချစ်အိမ်က ကျိယုန်သခင်ကလေး လာပါတယ်" ဟု ပြော၏။

နတ်ငှက်မယ်က စကားဖြတ်ကာ

"ဘယ်မှာလဲ" ဟု မေး၏။

ယိုစဉ် ဖိနပ်သံများကြားရကာ အသက်ဆယ့်ခုနစ်နှစ် ဆယ့်ရှစ် နှစ်ခန့်ရှိ ချောမောခန့်ညားသည့် လုလင်ပျိုတစ်ယောက် ဝင်လာ၏။ လုလင်မှာ အရပ်မြင့်မြင့်၊ ကိုယ်လုံးကိုယ်ပေါက်ခပ်သွယ်သွယ်ဖြစ်လျက် သားမွေးအင်္ကျီခပ်ပါးပါးကိုဝတ်ထားပြီး ခါးတွင် စိန်ခါးပတ်ကို ပတ် ထား၏။ အဝတ်အစားများမှာလည်း သစ်လွင်တောက်ပကာ လှပသော ဦးရစ်ကိုဆောင်းထား၏။ အဘွားလူမှာ ထရမည်လော၊ ထိုင်ရမည် လော၊ တစ်နေရာသို့ ပြေး၍ပုန်းရမည်လောဟု ဝေခွဲမရဖြစ်လျက်ရှိ လေ၏။





"ထိုင်ပါ၊ ထိုင်ပါ၊ ကိစ္စမရှိပါဘူး။ ဒါက ကျွန်မရဲ့တူ တော် တာပေါ့" ဟု နတ်ငှက်မယ်က ပြော၏။

အဘွားလူသည် ခုတင်မီးဖိုခြေရင်းတွင် ထိုင်နေ၏။

ကျိယုန် (ကျင်ကို၏ယောကျ်ား)က ရှင်လန်းစွာဖြင့်

"ဖေဖျားက ဒေါ်လေးဆီကိုလွှတ်လိုက်လို့။ မနက်ဖြန်မှာအရေး ကြီးတဲ့ ဧည့်သည်တစ်ယောက်ကို ဖိတ်ထားလို့တဲ့။ ဘွားလေးဝမ် ပေး ထားတဲ့ မှန်လိုက်ကာ ခေတ္တငှားလိုက်ပါတဲ့။ ချက်ချင်း ပြန်ပို့ပါမယ်တဲ့"

"ဟောတော်၊ မင်းလာတာနောက်ကျသွားပြီ။ မနေ့ကပဲ တစ် ယောက်ကိုငှားလိုက်ပြီ"

ကျိယုန်သည် ခုတင်မီးဖိုဘေးတွင် ဒူးထောက်ထိုင်လျက် ပြီး နောက်

"ဒေါ်လေးမှ မငှားလိုက်ယင်တော့ ကျွန်တော့်ကို အထောင်း ခံရတော့မှာပဲခင်ဗျ။ ကျွန်တော့်ကို မသနားတော့ဘူးလား ဒေါ်လေး ရယ်" ဟု ရယ်သွမ်းသွေးလျက်ပြော၏။

"ငါတို့က ဒေါ်လေးတို့အိမ်ကပစ္စည်းဆိုယင် အကောင်းစားလို ချည်း မှတ်ထားတာကိုးကွယ့်။ မင်းတို့အိမ်မှာလဲ အကောင်းစားတွေ ရှိရဲ့သားနဲ့"

"အမယ်လေး၊ ဒီယောက် မကောင်းနိုင်ပါဘူး ခင်ဗျာ။ ကဲ လုပ်ပါ ဒေါ်လေးရယ်၊ ကျွန်တော့်ကိုသနားသဖြင့် ငှားလိုက်စမ်းပါ"

"ကဲ၊ ကဲ....ဒီလိုဆိုလဲယူသွား၊ ကွဲရှတော့ မလာပေ့စေနဲ့နော်၊ ကွဲလာယင်တော့ ကျောစပ်ဖို့သာပြင်ပေတော့"

နတ်ငှက်မယ်သည် ပင်အဲအား သော့ယူ၍ အပေါ်ထပ်အခန်းကို ဖွင့်ပြီး မှန်လိုက်ကာကို စိတ်ချရသည့်လူများအား အပို့ခိုင်းလိုက်ရန် ညွှန်ကြားလျက်ရှိ၏။

ကျိယုန်၏မျက်နှာမှာ ဝင်းထိန်သွားကာ

"ကျွန်တော့်မှာ သယ်ဖို့လူတွေ ပါလာပါတယ် ဒေါ်လေးရဲ့။ ကျွန်တော်ကိုယ်တိုင် စောင့်ယူသွားမှာပါ"

ကျိယုန်၏မျက်လုံးများမှာ တဖျတ်ဖျတ်တောက်ပလျက် ရှိ၏။

ကျိယုန်က ပြန်ထွက်တော့မည်အပြုတွင် နတ်ငှက်မယ်သည် လှမ်းခေါ်လိုက်၏။ အပြင်ဘက်မှ အစေတော်များက "သခင်လေးကျိယုန်ပြန်လိုက်ခဲ့ရမယ်လို့ မှာလိုက်တယ်ခင်ဗျ" ဟု အော်ခေါ်လျက်ရှိလေ၏။

ကျိယုန်သည် ခပ်သုတ်သုတ်ပြန်ဝင်လာကာ သူ့ဒေါ်လေး နတ်ငှက်မယ်ပြောမည့် စကားများကို နားထောင်လျက်ရှိ၏။ နတ်ငှက်မယ်သည် လက်ဖက်ရည် သောက်လျက်ရှိရာမှ အတန်ကြာ စဉ်းစားနေပြီးနောက် တစ်ချက်ရယ်လိုက်လျက်

"ဒီလိုဆိုလဲနေတော့လေ။ ညစာ စားပြီးယင်တော့ လျှောက်ခဲ့ဦး။ ခုတော့ လူတွေရှိနေသေးလို့ မပြောတော့ဘူး။ နောက်ကျမှ ပြောမယ်"

ကျိယုန်သည် ပြန်ထွက်သွားလေ၏။

အဘွားလူမှာ ထိုအခါကျမှ လိုရင်းကိစ္စကို ပြောနိုင်လေတော့သည်။

"ဟောဒီမြေးလေးကို ဒီနေ့ ဒီကိုခေါ်လာရတဲ့ အကြောင်းကတော့ ဒီလိုပါသခင်မလေး၊ သူ့မိဘများမှာ စားရမဲ့ သောက်ရမဲ့ဖြစ်နေကြပါတယ်။ ဆောင်းကလဲကပ်နေပြီး သူတို့မှာ ဝမ်းစာစပါးတောင်မရှိတော့ အခြေအနေ တော်တော်လေးဆိုးနေပါတယ်။ ဒီတော့ သခင်မလေးရဲ့တူကလေးကို တတ်နိုင်သမျှအကူအညီပေးဖို့ ခေါ်လာတာပါ" ဟုဆိုကာ ပန်းအဲကို တံတောင်ဆစ်ဖြင့်တွက်လိုက်ရင်း

"ဟဲ့ နင့်အဖေကမှာတာကို ပြောလိုက်လေ။ နင့်ကို ဘာကိစ္စလွှတ်လိုက်တာလဲ။ သကြားလုံးထိုင်စားဖို့ လွှတ်လိုက်တာများ အောက်မေ့နေသလားဟင်"

နတ်ငှက်မယ်သည် တိုက်ရိုက်ကြီး ပြောလိုက်သည့် အဘွားလူ၏ စကားကိုကြားရသဖြင့် ပြုံးလိုက်ကာ

"ဟုတ်ပါပြီလေ။ ဒီလောက်ဆိုယင် ငှက်မယ် နားလည်ပါပြီ။ သူတို့ကော စားသောက်ပြီးကြပြီလား" ဟု ချူယွ၏မိန်းမကို လှမ်းမေးလိုက်၏။





"ဒီကိုတန်းလာခဲ့တာနဲ့ ဘာမှမစားခဲ့ရသေးပါဘူး" ဟု အဘွားလူက ပြောလေ၏။

နတ်ငှက်မယ်သည် ဧည့်သည်များကို ထမင်းကျွေးရန် အမိန့်ပေးလိုက်၏။ ချူယွ၏ဇနီးက အစေတော်မများကို လှမ်းပြောလိုက်သဖြင့် အရှေ့ဘက်ခန်းတွင် သူတို့အတွက် ထမင်းပွဲပြင်ပေး၏။

"ကဲ ချူကပဲ သူတို့ကို ကြည့်ပြီးကျွေးလိုက်ပါ။ လိုတာကို ပေးလိုက်ပါ"

သူတို့တစ်သိုက် အရှေ့ဘက်ခန်းသို့ ကူးလာသည့်အခါတွင် နတ်ငှက်မယ်က ချူယွ၏ဇနီးကိုခေါ်၍ ဒေါ်လေးဝမ်က မည်သို့ပြောလိုက်သနည်းဟု တိုးတိုးတိတ်တိတ်မေး၏။

"သခင်မဝမ်က ပြောလိုက်တော့ သူတို့က ဘာမှဆွေမျိုးမတော်ဘူးတဲ့။ သူတို့အဘိုးနဲ့ သခင်မလေးတို့အဘိုးက အတူတူ အမှုထမ်းဖူးတယ်တဲ့။ ဆွေမျိုးစုနာမည်ချင်းတော့ တူတယ်တဲ့။ ဒါကြောင့် သူတို့က အတင်း ဆွေမျိုးစပ်နေတာတဲ့။ သူတို့နဲ့ မတွေ့တာလဲ တော်တော်ကြာပြီတဲ့။ ဒါပေမယ့် သူတို့လာလို့ရှိယင်တော့ နည်းနည်းပါးပါး ပေးလိုက်ပါတယ်တဲ့။ သူတို့က စေတနာနဲ့ တရိုတသေ တလေးတစားလာတော့ ဒီအတိုင်းပြန်လွှတ်လို့ မကောင်းဘူးတဲ့။ သူတို့ အကူအညီလိုယင်လဲ သခင်မလေး တော်သလို ကြည့်ပေးလိုက်ပါတဲ့"

"တကယ်လို့သာ ဆွေမျိုးတော်ရိုး မှန်ယင်တော့ သူတို့အကြောင်းကို ငှက်မယ် ဘာမှမသိတာ တော်တော်ရယ်စရာ ကောင်းတာပဲ။ သိသင့်တာပေါ့"

ထိုသို့ပြောနေစဉ် အဘွားလူသည် စားသောက်ပြီးသဖြင့် မြေးယ် ပန်အဲနှင့်အတူ ခန်းဆောင်ထဲသို့ ပြန်ဝင်လာကာ ကျေးဇူးတင်ကြောင်း ပြောဆိုလျက် ရှိလေ၏။

နတ်ငှက်မယ်က ကြည်သာစွာဖြင့်

"ကဲ အဘွား ဒီမှာထိုင်ပါဦး။ ကျွန်မပြောတာ နားထောင်ပါဦး။ အဘွားပြောတာကိုလဲ ကျွန်မရိပ်မိပါတယ်။ ကျွန်မတို့ဟာ ဆွေမျိုးသားချင်းဆိုယင် အင်မတန် ခင်တတ်ပါတယ်။ ခုလို လှခမ္မ

မဟုတ်ပါဘူး။ အဝေးကလဲ တတ်နိုင်သလောက် ထောက်ပံ့ပါတယ်။ ဒါပေမယ့် ခုလောလောဆယ်မှာတော့ ကျွန်မတို့မှာ လုပ်ငန်းကိုင်ငန်းတွေကလဲ သိပ်မကောင်း၊ ဒီအထဲမှာ ဒေါ်လေးဝမ်ကလဲ အသက်ကြီးလာတော့ သတိသိပ်မကောင်းချင်ဘူး။ ပြီးတော့ ကျွန်မကလဲ အိမ်မှုကိစ္စတွေကို စီမံသာ်နေရတယ်။ ဆွေမျိုးအဆက်အသွယ်တွေကို ကောင်းကောင်း သိတာ မဟုတ်ဘူး။ ဒါတွင်မကဘူး၊ ကျွန်မတို့ကို ရုတ်တရက် ကြည့်လိုက်ယင်တော့ သိပ်ချမ်းသာတယ်လို့ ထင်ကြလိမ့်မယ်။ ဒါပေမယ့် အိမ်ထောင်ကြီးဆိုတာ သူ့အထွာနဲ့သူ အခက်အခဲတွေရှိတာပဲ။ တချို့ဏတော့ ယုံချင်မှယုံကြမယ်ပေါ့။ အဘွားဟာ ကျွန်မလက်ထက်မှာ ပထမဆုံးအကြိမ် လာပြီးအကူအညီတောင်းတာ ဖြစ်လေတော့ လက်ချည်းသက်သက် မပြန်စေချင်ဘူး။ အဘွား ကံကောင်းတယ်လို့ဆိုရမှာပဲ။ အစေတော်တွေအတွက် အဝတ်အစားတွေချုပ်ပေးဖို့ မနေ့ကတွင် ဒေါ်လေးဝမ်က ကျွန်မကို ငွေစင်နှစ်ဆယ်ကျပ်သား ပေးထားတယ်။ ခု ဘာမှ မသုံးရသေးဘူး။ ကဲ ဒီတော့ နည်းတယ် များတယ်လို့လဲ မအောက်မေ့နဲ့။ ငွေစင်နှစ်ဆယ်ကျပ်သား ပေးလိုက်မယ် ဟုတ်လား''

စီးပွားရေးကျပ်တည်းကြောင်း၊ အခက်အခဲရှိကြောင်း ပြောဆိုနေသည့်အတွက် အဘွားလူမှာ အကြီးအကျယ် စိတ်ပျက်သွားခဲ့လေပြီ။ သို့ရာတွင် ငွေနှစ်ဆယ်ကျပ်သား ပေးမည်ဟု သိလိုက်ရသည့်အခါတွင် အဘွားလူမှာ ဝမ်းသာမဆုံးဖြစ်လျက် ရှိ၏။

''ဟုတ်ပါတယ် သခင်မလေးရယ်။ အခက်အခဲတွေရှိတယ်ဆိုတာ အဘွားနားလည်ပါတယ်။ ဒါပေမယ့် တော်တဲ့ ကုလားအုတ် မြင်းထက်တော့ ကြီးသေးတယ်ဆိုတဲ့ စကားလို သခင်မလေးတို့အဖို့ကတော့ သူများတွေထက် အများကြီးသာပါတယ်။ ဘယ်လိုပဲဖြစ်ဖြစ် သခင်မဏလေးတို့ 'ခေါင်းက ဆံပင်တစ်ချောင်းဟာ အဘွားတို့ခါးထက်တော့ ထုတ်ပါသေးတယ်' ''

ချူယွီ၏ မိန်းမက ထိုသို့ တဲ့တိုးမပြောရန် အရိပ်အမြွက်ပြသည့်တိုင် မရတော့ပြီ။ နတ်ငှက်မယ်ကား ရယ်လျက်ရှိ၏။ နတ်ငှက်မယ်သည်





ပင်အဲ့ကို ငွေထုပ်နှင့် ပိုက်ဆံများ အယူခိုင်းလိုက်ပြီး အဘွားလူကို ပေး၏။

''ရော့၊ ကလေး ဆောင်းတွင်းဝတ်ဖို့ အဝတ်အစားချုပ်ရအောင် ငွေသားနှစ်ဆယ်။ မငြင်းနဲ့နော်။ ငြင်းယင်တော့ စိတ်ဆိုးလို့ မယူတာပဲလို့ ယူဆရလိမ့်မယ်။ ဟောဒီပိုက်ဆံဏတော့ လှည်း ခ။ နောက်ကြုံတဲ့အခါလဲ ဆွေမျိုးလို သဘောထားပြီး ဝင်ပါ။ ကဲ အချိန်လဲ အတော်နှောင်းသွားပြီ။ အဘွားတို့လဲ ပြန်ချင်လှရော့မယ်။ အိမ်မှာရှိတဲ့ လူတွေကိုလဲ နှုတ်ဆက်လိုက်ကြောင်း ပြောပြလိုက်ပါနော်''

နတ်ငှက်မယ်က ထိုင်ရာမှ ထလိုက်၏။ အဘွားလူသည် ငွေထုပ်နှင့် ပိုက်ဆံကိုယူကာ ချူယွီဇနီးနောက်မှနေ၍ အစေတော်များနေသည့် တန်းလျားဆီသို့ ပြန်လာခဲ့လေ၏။

ချူယွီ၏ မိန်းမက

''ဖြစ်မှ ဖြစ်ရလေ အဘွားရယ်။ သခင်မလေးနဲ့ တွေ့တုန်းကဘာဖြစ်လို့ ပန်အဲကို သခင်မလေးရဲ့တူလို့ ပြောနေရတာလဲ။ တကယ်ပဲ တော်ပါဦး၊ မပြောရဘူး အဘွားရဲ့။ သခင်မလေးရဲ့တူက ခုတင်က လာသွားတဲ့ သခင်လေး ကျိယုန်လိုဟာမျိုးမှ။ သူတို့က ဒါမျိုးမှ တူတော်ချင်တာ။ ပန်အဲလိုကောင်လေးကို ဘယ်မှာ တူတော်ချင်ပါ့မလဲ''

''သိပါဘူးအေ၊ သခင်မလေးကိုမြင်တော့ လှလွန်းလို့ ဘာတွေပြောမိမှန်းတောင် မသိတော့ပါဘူး''ဟု အဘွားလူက ပြုံး၍ပြော၏။

စကားတပြောပြောဖြင့် သူတို့သုံးဦးသားသည် ချူယွီ၏အိမ်သို့ ရောက်လာခဲ့ကြပြီး ထိုင်နေကြ၏။ အဘွားလူက ချူယွီ၏ကလေးများကို မုန့်ဖိုး ငွေစကလေး နည်းနည်းပါးပါး ပေးချင်သည်။ သို့ရာတွင် ထိုငွေစသည် သူတို့အဖို့ ဘာမျှ ပြောပလောက်သည် မဟုတ်ရကား ချူယွီဇနီးက လက်မခံချေ။ ထိုနောက်တွင်မူ အဘွားလူသည် ကျေးဇူးစကားဆိုကာ နောက်ဖေးပေါက်မှ ထွက်လာခဲ့လေ၏။

မည်သို့ဖြစ်ပျက်သည်ကိုမူ နောက်တစ်ခန်းတွင် ကြည့်ပါလေ။

မှန်ပေ၏။

ချမ်းသာကြွယ်ဝစဉ်၌ အလှူရေစက် လက်နှင့်မကွာ ပြုနိုင်ကြ ပေ၏။

ကျေးဇူးသိတတ်သူသည် သားချင်းဆွေမျိုးနှင့် မိတ်ဆွေတို့ထက် ဆောင်းပေ၏။

၀







## အခန်း ၇

မမယုက နတ်ငှက်မယ်တစ်ဦးတည်းကိုသာ ဖိတ်ကြားခြင်း

နှစ်ဘိပ် စားသောက်ပွဲတွင် ပေါက်ယုသည် ကျင်ချန်းနှင့် တွေ့ခြင်း။

ပန်းသို့နုနယ်၊ လှမျိုးကြွယ်သည့်
နတ်မယ်ဆယ့်နှစ်ယောက်၊ ချစ်သူရောက်လိမ့်
ထိုချစ်သူလျှင်၊ ဘယ်သူပင်ဟု
သင်သိလိုမူ၊ ထိုသူမှာလျှင်
ချင်ဟုမည်ရှိ၊ ဇာတိချက်ကြွေ
မွေးရပ်မြေသည်၊ ယန်ဇီမြစ်ဘေး
ရွာကလေးတည့်။ ။

ဧကွားလူကို လိုက်ပို့နှုတ်ဆက်ပြီးနောက် ချူယွီ၏ ဇနီးသည် အကျိုးအကြောင်းပြောပြရန် သခင်မဝမ်ထံသို့ လာခဲ့၏။ သခင်မဝမ် သည် ချင်လင်းမြို့မှ ရောက်လာသည့် ဆွေပန်တို့အမေ သူ့ညီမ ဒေါ် လေးဆွေ့နှင့်စကားပြောရန် ထွက်သွားသည်ဟု အစေတော်များထံမှ သိရသည့်အခါ၌ ချူယွီ၏ ဇနီးသည် အရှေ့ဝင်းပေါက်မှ အရှေ့ ဘက်တလင်းကိုဖြတ်ကာ သစ်တော်မွေးဆောင်သို့ လာခဲ့၏။ သို့ရာ တွင် သခင်မဝမ်၏ အစေတော် ချင်ချွန်းသည် အုပ်လုံးသိမ်းစ သူငယ်မ လေးတစ်ယောက်နှင့် ကစားနေသည်ကို တွေ့ရ၏။ ကိစ္စရှိ၍လာ ကြောင်းကို သိသည့်အခါတွင် ချင်ချွန်းသည် တံခါးပေါက်ဆီသို့ မေး ငေါ့၍ ပြ၏။

ချူယွဲ့၏ ဇနီးသည် ခန်းဆီးကိုဖွင့်၍ အဆောင်ထဲသို့ အခေ အယာ ဝင်လာခဲ့၏။ သခင်မဝမ်နှင့် ဒေါ်လေးဆွေ့တို့ ညီအစ်မ နှစ် ယောက်သည် အိမ်တွင်းရေးများကို ပြောဆိုလျက် ရှိကြ၏။ ချူသည် သူတို့ကို အနှောင့်အယှက်မပေးလိုသည့်အတွက် ပေါက်ကြည်ရှိနေသည့် အတွင်းဆောင်ဘက်သို့ ဝင်လာခဲ့၏။ ပေါက်ကြည်မှာ အိမ်တွင်ဝတ် သည့် အဝတ်အစားကို ဝတ်ထား၏။ ဆံပင်ကို လျော့ရိလျော့ရဲ ထုံး ထားကာ ခုတင်မီးဖိုကြီးပေါ်ရှိ စားပွဲနိမ့်ကလေးတွင်ထိုင်ကာ အစေတော် ယင်အဲနှင့်အတူ ဇာပန်းပုံစံတစ်ခုကို ကူးလျက်ရှိ၏။ ချူကို မြင်လျှင် လက်ထဲတွင်ကိုင်ထားသည့် စုတ်တံကို ချလိုက်ပြီးနောက် ပြုံး လျက် နေရာထိုင်ခင်းပေး၏။ ချူက ခုတင်မီးဖိုခြေရင်းတွင် ထိုင်လိုက်ရင်း

"သခင်မလေး နေကောင်းတယ်နော်။ ကျွန်မတို့စံအိမ်ဘက်ကို ကူးမလာတာ တော်တော်ကြာသွားပြီ။ သခင်လေးပေါက်ယု နောက် လွှန်းပြောင်လွန်းလို့ ထင်တယ်"

"မဟုတ်ပါဘူး ချူရယ်။ သိပ် နေလို့ထိုင်လို့ မကောင်းချင်တာနဲ့ အပြင်မထွက်ဘဲ အိမ်ထဲမှာ အောင်းနေတာပါ"

"ဘာများဖြစ်လို့လဲ သခင်မလေးရယ်။ နေထိုင်မကောင်းယင် သမားတော်များကို မပင့်ဘူးလား။ ဆေးလေးဘာလေး သောက်မှ ပေါ့။ နည်းနည်းပါးပါးသောက်လိုက်ယင် ပျောက်သွားမယ် ထင်ပါ တယ်။ ဒီအရွယ်ကလေးမှာ လူမမာကြီးဖြစ်နေလို့ ဘယ်ဖြစ်ပါ့မလဲ"

ပေါက်ကြည်က ရယ်လိုက်လျက်

"အမယ်လေး၊ ပေါက်ကြည်ကို ဆေးအကြောင်း မပြောစပ်ပါနဲ့။ ပေါက်ကျည်ရဲ့ ရောဂါကိုကုဖို့ သမားတော်တွေကိုပင့်၊ ဆေး တွေကို ဝယ်ရတာကလဲ ငွေတွေကုန်တာ များလှပါပြီ။ အကောင်း ဆုံးဆိုတဲ့ သမားတော်တွေကိုပင့်၊ အစွမ်းဆုံးဆိုတဲ့ ဆေးတွေကိုစားတာ လဲ ဘာမှ မထူးလှပါဘူး။ နောက်ဆုံးတော့ ကံအားလျော်စွာ ရောဂါ ဆန်းတွေကို ပျောက်အောင် ကုနိုင်တဲ့ ကိုရင်ကြီး တစ်ပါးနဲ့ တွေ့လို့ သူ့ကိုပင့်ပြီး ပြခဲ့တယ်။ ကိုရင်ကြီးက ပေါက်ကြည်ရဲ့ ရောဂါဟာ သည်းခြေဓာတ် ပျက်တဲ့ရောဂါတဲ့။ ဒါပေမယ့် ပေါက်ကြည်က ကျန်း





မာသန်စွမ်းလေတော့ သိပ်တော့ အရေးမကြီးပါဘူးတဲ့။ ပေါက်ကြည် စားခဲ့တဲ့ ဆေးတွေ များလှပြီ။ ဘယ်ဆေးနဲ့မှ မသက်သာဘူး။ အဲဒီ ကိုရင်ကြီးပေးတဲ့ ဆေးနဲ့မှပဲ သက်သာတော့တယ်။ သူ့ဆေးကလဲ ... ရတာ တယ်ခက်ဆိုပဲ့။ ဆေးအမည်တွေက ဒီမှာမရဘဲ တိုင်းတစ်ပါး မှာမှ ရတယ်တဲ့။ ပြီးတော့ သောက်လို့ကောင်းအောင် သိပ်မွှေးတဲ့ ဆေးမှုန့် တစ်မျိုးနဲ့ ရောသောက်ရတယ်။ ကိုရင်ကြီးတော့ ဒီလိုရှားရှား ပါးပါး ဆေးကို ဘယ်ကများ ရှာရတယ် မသိပါဘူး။ တစ်ခါ နေ မကောင်းယင် တစ်လုံးသောက်ရတယ်။ စွမ်းလိုက်တဲ့ဆေး မပြောပါ နဲ့တော့။ ပေါက်ကြည်ဖြင့် ဒီဆေးနဲ့ သက်သာနေတာပဲ"

"ဘယ်လို ဆေးမျိုးများလဲ သခင်မလေးရယ်။ ကျွန်မတို့ကို ပြော စမ်းပါဦး။ နောက်မှာ ဒီလိုရောဂါသည်များတွေ့ယင် ညွှန်းရတာပေါ့။ ကုသိုလ်ရပါတယ်"

ပေါက်ကျည်က ရယ်လိုက်ရင်း

"အမယ်လေး၊ မေးမနေနဲ့ ချူရေ။ သိယင် စိတ်ရှုပ်သွားမယ်။ ဆေးအမည်တွေကတော့ အများကြီးပဲ။ ရှာရတာကလဲ သိပ်မခက်လှ ပါဘူး။ လွယ်ပါတယ်။ ဒါပေမယ့် ဆေးအမည်ကို သူ့အချိန်နဲ့သူ အချိန်ကိုက် သောက်ရတယ်။ နွေဦးမှာ ပွင့်တဲ့ ပဒုမ္မာ ဝတ်ဆံမှုန့်က ဆယ့်နှစ်ကျပ်သား၊ နွေမှာပွင့်တဲ့ ကြာဖြူဝတ်ဆံက ဆယ့်နှစ်ကျပ် သား၊ နွေနှောင်းမှာ ပွင့်တဲ့ ခေါင်ရန်းပွင့် ဝတ်ဆံက ဆယ့်နှစ်ကျပ် သား၊ ဆောင်းမှာပွင့်တဲ့ ဆီးတော်ဖြူပွင့် ဝတ်ဆံက ဆယ့်နှစ်ကျပ် သား၊ အဲဒီဝတ်ဆံတွေကို နေအနွေးဓာတ်ထိမှာ ကျတဲ့နေ့မှာ အခြောက် လှန်းပြီး ကြိတ်ပြီးတော့ ဆေးမှုန့်နဲ့ရော၊ ပြီးတော့ ဝသန္တရာသီဝင် တဲ့ နေ့မှာ ရွာတဲ့မိုးရေနဲ့...."

"ဟင်၊ သခင်မလေးဟာကလဲ ခု ဆေးမည်တွေကို စုမိအောင် ကိုက သုံးနှစ်သုံးမိုးတောင် စောင့်ရမှာပါလား၊ ပြီးတော့ ဝသန္တရာသီ ဝင်တဲ့နေ့မှာ မိုးမရွာယင် ဘယ့်နှယ်လုပ်မလဲ"

"ဒါကြောင့် ခက်ကယ်လို့ပြောတာပေါ့။ အဲဒီနေ့မှာ မ္ဗ နောက်တစ်နှစ် စောင့်ပေတော့ပေါ့။ ဒါတင်မကသေးဘူးရှင့်၊ နှစ် ကျတဲ့နေ့(စက်တင်ဘာလဆယ်ရက်ခန့်)မှာကျတဲ့နှင်းရည်ကဆယ့်နှစ်ကျ သား၊ နှင်းခါးစကျတဲ့နေ့ (အောက်တိုဘာလ ၂၃ ရက်ခန့်) နေ့မှ ကျတဲ့နှင်းခါးက ဆယ့်နှစ်ကျပ်သား၊ နှင်းပွင့်စကျတဲ့နေ့က (နိုဝင်ဘာ လ ၂၂ ရက်နေ့ခန့်) နှင်းပွင့်ရည်က ဆယ့်နှစ်ကျပ်သား၊ အဲဒါတွေ ခုပြောခဲ့တဲ့အမှုန့်တွေနဲ့ဖျော်။ ပြီးတော့ ပျားရည် ဆယ့်နှစ်ကျပ်သား သကြားရည် ဆယ့်နှစ်ကျပ်သားနဲ့ရောပြီး ဆီးဖြူသီးလောက် ဆေးလုံး ကလေးတွေလုပ်။ ပြီးတော့ အဲဒါကို ကြွေအိုးထဲမှာ လုံအောင်ပိတ် ပန်းပင်မြစ်နားမှာမြှုပ်ထား။ နေထိုင်မကောင်းတဲ့အခါမှာ အဲဒီထဲက ဆေးလုံးတစ်လုံးကိုယူပြီး...."

"အလိုလေး။ သခင်မလေးရဲ့ ဆေးဟာ တယ်ပြီး လက်ဝင်ပါ ကလား။ ဒါတွေအားလုံး စုံစုံလင်လင်ဖော်နိုင်အောင်ဆိုယင် ဆေးဖော် ဖို့ကို ဆယ်နှစ်လောက်ကြာလိမ့်မယ်ထင်တယ်"

"အင်း၊ ပေါက်ကြည်တို့မှာတော့ ကံကောင်းတယ်လို့ ဆိုရမှာပဲ။ ကိုရင်ကြီး ပြောသွားပြီး နှစ်နှစ်လောက် အတွင်းမှာပဲ ဒီဆေး အမည်တွေအားလုံးစုံသွားတယ်။ တောင်ပိုင်းကဖော်လာခဲ့တာ၊ ခုတော့ သစ်တော်ပင်အောက်မှာ ကြွေအိုးနဲ့မြှုပ်ထားရတယ်"

"ဆေးနာမည်က ဘာဆေးတဲ့လဲ သခင်မလေး"

"အဲဒီ ခေါင်းမှာ ဒက်တွေနဲ့ ကိုရင်ကြီး ပြောသွားတာကတော့ သီတဂန္ဓ ဆေးလုံးလို့ခေါ်တာပဲ"

"နို့ ခနစမ်းပါဦး သခင်မလေးရယ်။ မသိလို့မေးစမ်းပရစေဦး ရောဂါလက္ခဏာကကော ဘယ်လိုများပြသလဲ"

"ထူးထူးထွေထွေတော့မပြောပါဘူး၊ ချောင်းနည်းနည်းဆိုးတယ်၊ အသက်ရှူနည်းနည်းကျပ်တယ်။ ဆေးတစ်လုံးလောက် သောက်လိုက် ယင်ပျောက်သွားတာပဲ"





ထိုသို့ စကားပြောဆိုနေကြစဉ် အတွင်းဆောင်ထဲတွင် မည်သူ ရောက်နေသနည်းဟု သခင်မဝမ်က မေး၏။ ဤတွင် ချူသည် အကွက်ကောင်းရသွားကာ အပြင်ဘက်သို့ ထွက်လာခဲ့ပြီး အဘွားလူ ရောက်လာသည့်အကြောင်းကိုပြောပြ၏။ သခင်မဝမ်က မည်သို့မျှမပြော တော့သဖြင့် ချူသည် အပြင်သို့ထွက်၍ ပြန်တော့မည်ပြုစဉ် ဒေါ်လေး ဆွေ့က ပြုံးလိုက်လျက်

"ကြော်၊ ခဏနေဦး၊ ပေးလိုက်စရာရှိလို့"ဟုဆိုကာ မိမိတို့နှင့်ပါ လာသည့်အစေတော် ယင်လင်းကို ခေါ်လိုက်သည်တွင် ချင်ချွန်းနှင့် စကားနေသည့် အုပ်လုံးသိမ်းစ သူငယ်မကလေးရောက်လာ၏။

"ခေါ်သလား မမ"

"တို့ယူလာတဲ့ပန်းသေတ္တာ သွားယူလှည့်စမ်း"

ယင်လင်းသည် ဖဲဖြင့်ချုပ်ထားသည့် သေတ္တာတစ်လုံးကို ယူလာ ၏။ ဒေါ်လေးဆွေ့က

"ဟောဒါက ရွှေနန်းတော်ကြီးက အပျိုတော်တွေလုပ်တဲ့ ဖဲပန်း အားလုံးဆယ့်နှစ်ခိုင်ရှိတယ်။ မနေ့ကမှ အမှတ်ရလို့ ထုတ်ထားတာ။ မိန်းကလေးတွေ ပန်ချင်ကြမှာပေါ့။ မနေ့ကတည်းက ပို့မလို့ဟာ၊ နင့် ကိုမြင်မှပဲ အမှတ်ရတော့တယ်။ ရော့၊ ယွန်းစံအိမ်က သူငယ်မကလေး သုံးယောက်ကိုပေးလိုက်။ တစ်ယောက်ကို နှစ်ခိုင်စီပေးလိုက်နော်။ ကျန် တဲ့ခြောက်ခိုင်ကိုတော့ ထိုက်ယုကို နှစ်ခိုင်၊ ပြီးတော့ နတ်ငှက်မယ်ကို လေးခိုင်"

သခင်မဝမ်က

"ကောင်းတော့ကောင်းပါရဲ့အေ။ ဒါပေမယ့် ပေါက်ကြည် ကြီးလာယင် ပန်ရအောင် သိမ်းမထားဘဲကိုး"

"မမက မမှတ်မိအကြောင်းမသိဘဲကိုး။ ပေါက်ကြည်က ပန်းတို့ ဘာတို့ကိုလဲ မပန်ချင်ဘူးမမရဲ့။ နို့ သာတို့ဘာတို့လူးယင်လဲမကြိုက်ဘူး"

ပန်းသေတ္တာကိုကိုင်၍ ထွက်လာသည့်အခါ၌ အပြင်တွင် နေ
လှုံလျက်ရှိသည့် ချင်ချွန်းကိုတွေ့ရသဖြင့် ချူကာ

"ချင်ချွန်းရယ် မသိလို့ ငါမေးစမ်းပါရစေ။ အုပ်လုံးသိမ်း
ယင်လင်းဆိုတဲ့ ကောင်မလေးဟာ ညည်းတို့ပြောပြောနေတဲ့ ကော
လေးလား။ ရွှေမြို့တော်ကြီးကိုမလာခင် ဝယ်လာခဲ့တယ်ဆိုတဲ့ ကော
လေးမဟုတ်လား။ လူသတ်မှုဖြစ်ခဲ့ရတာ သူ့ကြောင့်ဆို"

"ဟုတ်တယ်" ဟု ချင်ချွန်းကဖြေ၏။

ထိုအခိုက်တွင် ယင်လင်းသည် ပြုံး၍ ထွက်လာ၏။ ချူသ
ယင်လင်း၏လက်ကိုကိုင်ကာ အတန်ကြာမျှကြည့်နေပြီးနောက် ချင်ချွ
ဘက်သို့ လှည့်လိုက်လျက်

"တော်တော်ချောတယ်နော်။ တို့အရှေ့ဘက် ယွန်းစံအိမ်ကြ
က သခင်လေးကျိယုန့်ရဲ့မိန်းမ ကျင်ကို့နဲ့ တူသလိုလိုပဲ"

"ကျွန်မလဲ အဲဒါကိုပဲ ပြောနေတာပေါ့" ဟု ချင်ချွန်
ပြော၏။

ချူကာ ကျွန်အဖြစ် အရောင်းခံရစဉ် အသက်ဘယ်လောက်ရှိ
ဖြစ်ကြောင်း၊ မိဘများ ဘယ်ဒေသတွင် နေထိုင်လျက် ရှိကြော
မည်သည့်ဇာတိဖြစ်ကြောင်း၊ ယခုအသက်ဘယ်လောက်ရှိကြောင်း စသ
တို့ကို ယင်လင်းအား မေးမြန်းလျက် ရှိ၏။ ဤတွင် ယင်လင်းက ေ
ယမ်းကာ သူဘာကိုမျှ မမှတ်မိတော့ကြောင်း ပြောသဖြင့် သူတို့နှ
ယောက်မှာ စိတ်မကောင်းဖြစ်နေကြ၏။

ထိုနောက် ချူသည် ပန်းသေတ္တာကို သခင်မဝမ်၏ ခန်းဆေ
ကြီးထဲသို့ ယူလာခဲ့၏။ မယ်မယ်သည် သူ့ဇင်းထဲတွင် မြေးမများ အာ
လုံးကို ထားရသည်မှာ နားငြီးလှသဖြင့် ယင်ချွန်း၊ တန်ချွန်း၊ ဆိချွ
တို့ကို ဒေါ်လေးဝမ်၏ ခန်းဆောင်နောက်ရှိ ခန်းဆောင်ငယ်ကလေ
များသို့ ပို့လိုက်ပြီး သူ့ဝင်းထဲတွင်မူ သူ့အချစ်ဆုံးမြေးဖြစ်သ
ပေါက်ယုနှင့် မြေးမ ထိုက်ယုတို့ကိုသာ ထားတော့သည်။ ထို့ကြော
ချူသည် ထိုနေရာတွင် ခဏရပ်စဉ် အလို့ရှိက အသင့်ဖြစ်ရန် စောင့်နေ
ကြသည့် အစေတော်များကို တွေ့ရ၏။





ထိုအခိုက်တွင် ယင်ချွန်း၏ အစေတော် စုရှိနှင့် တန်ချွန်း၏အစေ
တော် ထိုက်ရှုတို့သည် ခန်းဆီးကိုမကာ လက်တွင် ပန်းကန်နှင့် ပန်းထန်
ပြားကို ကိုင်လျက် ထွက်လာကြ၏။ ကြည့်ရသည်မှာ သူ့သခင်မတလေး
များ အားလုံး အထဲတွင် ရှိနေကြသည်ဆိုသည့် သဘောဖြစ်သဖြင့်
ချူသည် အခန်းထဲသို့ဝင်လာခဲ့ရာ ယင်ချွန်းနှင့် တန်ချွန်းတို့ ညီအစ်မ
နှစ်ယောက်သည် ပဆစ်ပစ်နေကြသည်ကို တွေ့ရ၏။ ချူက သူတို့နှစ်
ယောက်အား အကျိုးအကြောင်းကို ပြောပြကာ ပန်းခိုင်များကိုပေး၏။
မိန်းမပျိုနှစ်ယောက်က ကျေးဇူးတင်စကား ပြော၍ ပန်းခိုင်များကို
အသိမ်းခိုင်းလိုက်၏။

"နောက်ရောက်တဲ့ သခင်မကလေးထိုက်ယုတော့ မရှိဘူးနော်။
မယ်မယ်ဆီမှာ ထင်ပါရဲ့"

"တစ်ဖက်ခန်းထဲမှာ ရှိတယ်ထင်တယ်" ဟု အစေတော်များက
ပြောလာ၏။

နောက်တစ်ခန်းထဲသို့ ကူးလာသည့်အခါတွင် ဆိချွန်းသည် သိတ
စန္ဒီ သီလရှင်ကျောင်းတိုက်မှ သီလရှင်ကလေး တစ်ပါးနှင့် စကားပြော
နေသည်ကို တွေ့ရ၏။ ဆိချွန်းက အကြောင်းကိစ္စကို မေးသည့်အခါတွင်
ချူသည် ဖဲသေတ္တာကိုဖွင့်၍ ပန်းခိုင်များကို ပြ၏။

ဆိချွန်းက ပြုံးလိုက်လျက်

"ခုတင် ဆိချွန်း သီလရှင်ဝတ်မယ့်အကြောင်းကို ယောဒိကဆရာ
လေး ရှိနှင်ကို ပြောနေတာ။ ဒီတုန်းမှာ ပန်းခိုင်တွေ လာပေးတယ်
ပေါ့ ဟုတ်လား။ ဆိချွန်းက ခေါင်းတုံးတုံးတော့မှာဆိုတော့ ဒီပန်းခိုင်
တွေကို ဘယ်မှာပန်နိုင်ပါတော့မလဲ ချူရဲ့"

ထိုသို့ ညည်းညူပြောဆိုပြီးနောက် ဆိချွန်းသည် ထိုပန်းလက်
ဆောင်များကို ယူ၍သိမ်းထားလိုက်ရန် သူ့အစေတော် ယုဟွာကို
ပြော၏။ ချူက သီလရှင် ဆရာလေးဘက်သို့ လှည့်လိုက်၍

"ဩော် ဆရာလေးလဲ ရောက်နေသကိုး။ ဆရာလေး ဘယ်တုန်း
က ရောက်နေတာလဲ။ ဆရာလေးတို့ ကျောင်းက သီလရှင် ဆရာကြီး
ကော"

''ကျောင်းတာ ဒီကိုထွက်လာတာပဲချူရေ။ ဆရာကြီးကတော့ သခင်မဝမ်ကို နှုတ်ဆက်ပြီး မမယုတ့်စံအိမ်ဘက်ကို ထွက်သွားလေ ကျွန်မကို ဒီမှာစောင့်ပါဆိုလို့ နေရစ်ခဲ့တာ''

''လပြည့်နေ့တိုင်း လှူနေကျဖြစ်တဲ့ ဆန်ဖိုးအလှူငွေများနဲ့ အမျှ တိုင်ဖိုး အလှူငွေများကို ရပါပြီလား ဆရာလေး''

ဆရာလေး ရှိနင်က ခေါင်းယမ်းလိုက်ကာ

''အဲဒါတော့ ကျွန်မလဲ မသိဘူးရှင့်''

ဘုန်းကြီးကျောင်းများနှင့် သီလရှင်ကျောင်းများသို့ အလှူ များပို့ရန် မည်သူ့တာဝန်ပေးထားသနည်းဟု ဆီချွန်းက ချူကို မေး လေ၏။

''ယုဆင့်ကို တာဝန်ပေးထားပါတယ်''

ဆီချွန်းက ရယ်လိုက်ကာ

''ဪ ဟုတ်လား၊ ဆရာကြီး ရောက်လာတုန်းက ယု မိန်းမရယ် ပျာယာပျာယာနဲ့ထွက်လာပြီး ဆရာကြီးကို တိုးတိုးပြော တာ ဒီကိစ္စထင်ပါရဲ့''

ချူသည် သီလရှင်ဆရာလေးနှင့် စကားအနည်းငယ် ပြောပြီး နောက် နတ်ငှက်မယ်၏ အဆောင်သို့ လာခဲ့၏။ ချူသည် လိ အဆောင် နောက်ဖေးမှဖြတ်ကာ ကြိုလမ်းကလေးအတိုင်း လာခဲ့ အနောက်ဘက်တံတိုင်းတစ်လျှောက် ကပ်ကာ အနောက်ဘက် တံခါး နတ်ငှက်မယ်၏ ဝင်းထဲသို့ ဝင်လာခဲ့၏။ စက်ခန်းဆောင် အပြင်ဘ အလယ်ခန်းဆောင်မကြီးထဲတွင်ထိုင်နေသည့် ဖုန်အဲသည် ချူကိုမြင်သည် အရှေ့ဘက် ခန်းဆောင်ဘက်သို့ မေးငေါ့၍ပြ၏။ ချူသည် ထိုအဆော ဘက်သို့ ခြေဖျားထောက်၍ လာခဲ့ရာ နတ်ငှက်မယ်၏ သမီးကလေး ချော့၍သိပ်နေသည့် အထိန်းတော်တစ်ယောက်ကို တွေ့ရ၏။

''နတ်ငှက်မယ် သခင်မလေး ရှိသလား၊ အိပ်နေသလား၊ ဒီလောက်ဆို နိုးလောက်ရောပေါ့''ဟု ခပ်တိုးတိုး လေသံကလေးဖြ မေး၏။





အထိန်းတော်က ခေါင်းယမ်းပြလိုက်စဉ် ခန်းဆောင်ထဲ၌ တ်ငှက်မယ်၏ခန်းဆောင်ဆီမှ ရယ်သံနှင့် (ခင်ပွန်းဖြစ်သူ) ကျိလျံ၏ ယ်သံကို ကြားရ၏။ ထိုစဉ်၌ တံခါးသည်ပွင့်လာကာ ပင်အဲသည် ကြေးဇလုံကြီး တစ်ခုကိုကိုင်၍ ထွက်လာပြီးလျှင် ရှေ့တွင်ထိုင်နေသည့် န်အဲကို ရေထည့်၍ယူလာရန် ပြောနေ၏။ ချူကိုမြင်သည့်အခါတွင် ပ်အဲက ''ဒေါ်လေး ဘာကိစ္စလဲ''ဟု မေးလိုက်၏။

ချူက လာရသည့်အကြောင်းကို ပြောပြကာ ပန်းခိုင်ထည့် ထားသည့် ဖဲသေတ္တာကို လှမ်းပေးလိုက်၏။ ပင်အဲသည် ဖဲသေတ္တာ ထဲမှ ပန်းခိုင်လေးခိုင်ကိုယူ၍ အခန်းထဲသို့ဝင်သွားပြီးနောက် ခဏကြာ လျှင် ပြန်ထွက်လာ၍ နှစ်ခိုင်ကို နိန်စံအိမ်ရှိ ကျိယုန်၏ဇနီး ကျင်ကိုကို ပေးရန် အစေတော် ဆိုင်မင်းအား ခိုင်းနေသံကို ကြားရ၏။ နောက် နတ်ငှက်မယ် သခင်မလေးက ကျေးဇူးတင် ကြောင်း ဒေါ်လေးဆွေ့ကိုပြောရန် မှာလိုက်သည်ဟု ပြောဆိုနေပြန်၏။

ထိုနောက် ချူသည် မယ်မယ်၏အဆောင်ဝင်းထဲသို့ လာခဲ့၏။ ခန်းဆောင်အဝင်ဝတွင် ဝတ်ကောင်းစားလှတို့ကို ဝတ်ဆင်ထားကာ ယောက္ခမအိမ်မှ ပြန်လာသည့် သမီးကို တွေ့ရ၏။

''ဟဲ့ နင် ဒီမှာဘာလာလုပ်နေတာလဲ''ဟု ချူက သူ့သမီးကို မေးလေ၏။ သမီးဖြစ်သူက ပြုံးလိုက်လျက်

''အမေ တော်တော်အလုပ်များနေတယ် ထင်တယ်။ အိမ်မှာ စောင့်နေတာ ကြာလှပြီ။ မလာနိုင်လွန်းလို့ လိုက်လာတာ။ ဘာတွေ များ ဒီလောက် အလုပ်များနေတာလဲ အမေရဲ့။ စောင့်လိုက်ရတာ ပျင်းလှပြီ။ မယ်မယ်ကို လာတာန်တော့တာ။ ကန်တော့ရင်း သခင်မ ဝမ်ဆီလဲ ဝင်သွားမလို့။ အမေ့အလုပ်က မပြီးသေးဘူးလား။ လက် ထဲက ဘာတွေလဲ''

"မပြောပါနဲ့တော့ အေ။ အဘွားလူရောက်လာလို့ သူ့ကို ပို့ လိုက်ပို့ ဒီအိမ်လိုက်ပို့ လုပ်နေရတာပေါ့။ တစ်နေ့လုံး ဖတ်ဖတ်ကို မော နေတာပဲ။ လိုက်ပို့ရင်း ဒေါ်လေးဆွေ့တို့ဆီရောက်တော့ ဒီပန်းပိုင် တွေကို သခင်မလေးတွေဆီ လိုက်ပို့ချည်စမ်းပါဆိုလို့ လိုက်ပို့နေရတယ်။ ခု ပို့လို့မပြီးသေးဘူး။ အမေနဲ့ ပြောစရာရှိလို့လား"

"ဟုတ်တယ် အမေရဲ့။ အမေ့သမက်လေ။ ကိစ္စပေါ်ပြန်ပြီ။ မနေ့က အရက်တွေမူးလာပြီး ရိုက်ကြလို့။ ဘယ်က ဘယ်လို သတင်း ထွက်လာမှန်းတော့ မသိဘူး။ အမေ့သမက်က လူကောင်းမဟုတ်ဘူးတဲ့။ နာမည်ပျက် ရှိတယ်တဲ့။ ဒါနဲ့ ခုတော့ သူ့ကို ကျောင်းစောင့် မသက်ဆိုပြီး ရဲကိုတိုင်ထားလို့ နေပြည်တော်ရဲက သူ့ကို အရပ်ကိုပြန်ပြီးနေ ခြေချုပ်နဲ့လွှတ်နေတယ်။ အဲဒီကိစ္စအတွက် အမေ့ဆီလာတာ။ ဘယ်သူ့ ဆီကို သွားပြီး အကူအညီတောင်းရမလဲမသိဘူး အမေရယ်။ ကျွန်မဖြင့် စိတ်ညစ်လှပြီ"

"အမယ်လေး၊ အလကားပါအေ။ ဒီလောက်ဂရုစိုက်မနေစမ်း ပါနဲ့။ အိမ်ကိုပြန်နှင့်။ ငါ ဒီပန်းခိုင်တွေသွားပို့ပြီး ပြန်ခဲ့မယ်။ သခင်မ လေး ထိုက်ယုဆီကိုပို့ပြီးယင် ပြီးပါပြီ။ သခင်မဝမ်နဲ့ နတ်ငှက်မယ် သခင်မလေးတို့လဲ မအားကြဘူး။ အိမ်ကိုပြန်ပြီး စောင့်နေ။ အမေ ခုပဲ ပြန်လာခဲ့မယ်။ ဒီလောက်လဲ စိုးရိမ်မနေစမ်းပါနဲ့"

"အမေ မြန်မြန်ပြန်လာခဲ့နော်"ဟု ဆိုကာ ချူ၏ သမီးသည် အိမ်သို့ပြန်သွား၏။

"အေးပါဟယ်။ ညည်းတို့ ကလေးတွေဟာ ဘာအတွေ့အကြုံ မှလဲ မရှိဘူး။ ညည်းတို့မှာ ဒါ့ကြောင့် ဒုက္ခရောက်နေကြတာ"

ထိုက်ယုကို ခန်းဆောင်ထဲတွင် မတွေ့ရချေ။ ပေါက်ယု၏ ခန်းဆောင်ဘက်တွင် ရောက်နေကာ သူနှင့်အတူ လက်စွပ် ကိုး ကွင်း ပဟေဠိကစားနည်းကို ကစားလျက်ရှိလေ၏။ ချူသည် ခန်းဆောင် ထဲသို့ ရောက်လျှင် ပြုံး၍နှုတ်ဆက်လိုက်ကာ

"ဒေါ်လေးဆွေ့က ပန်းအပို့ခိုင်းလိုက်ပါတယ်"

"မှန်း၊ ဘာပန်းတွေလဲ"





ပေါက်ယုက သေတ္တာကိုယူ၍ ဖွင့်ကြည့်လိုက်သည့် အခါတွင် ပန်းနှစ်ခိုင်ကို တွေ့ရ၏။ ထိုက်ယုက ပေါက်ယုလက်ထဲတွင် ရှိသည့် ပန်းများကို တစ်ချက်မျှ လှမ်းကြည့်လိုက်ရာမှ

"ထိုက်ယုတစ်ယောက်တည်းကို ပေးလိုက်တာလား။ ဒါမှမဟုတ် တခြားအစ်မတော်တွေကိုကော ပေးလိုက်သေးသလား"

"အားလုံးကို ပေးလိုက်တာပါ။ ဒီနှစ်ခိုင်ကတော့ ထိုက်ယု သခင်မလေးကို ပေးတာပါ။ ကျန်တာတွေကိုတော့ ပို့ခဲ့ပြီးပါပြီ"

ထိုက်ယုက ခပ်မဲ့မဲ့ ပြုံးလိုက်လျက်

"ထိုက်ယုသိပါတယ်။ သူများတွေမလိုချင်လို့ ကျန်နေခဲ့တဲ့ အကျတွေကို လာပေးတာ မဟုတ်လား"

ချူက ဘာမျှမပြောဘဲ တိတ်ဆိတ်လျက်ရှိ၏။ သို့ရာတွင် ပေါက် ယုက

"ချူက အဲဒီကို ဘာသွားလုပ်တာလဲ"

"သခင်မဝမ်ဆီကို သွားတာပါ။ ဒါပေမယ့် ဟိုရောက်တော့ ဒေါ်လေးဆွေ့တို့ဘက် ရောက်နေတယ်ဆိုတာနဲ့ လိုက်သွားတော့ ဒီပန်း ခိုင်တွေကို အပို့ခိုင်းလိုက်တာပါပဲ"

"ပေါက်ကြည်ကိုကော တွေ့ခဲ့ရဲ့လား။ ခုတလောမှာ ပေါက် ကြည် ကျွန်တော်တို့စံအိမ်ဘက်ကို ဘာဖြစ်လို့များ မလာသလဲ မသိဘူး"

"ကောင်းကောင်း နေမကောင်းပါဘူး"

ပေါက်ယုက သူ့အစေတော်များဘက်သို့လှည့်ကာ

"ပေါက်ကြည်ဆီကို တစ်ယောက်သွားကြည့်ချည်စမ်း။ ထိုက် ယုနဲ့ ပေါက်ယုက သူတို့အဒေါ်နဲ့အစ်မလေး ဘယ်လိုနေသလဲဆိုတာ အကြည့်ခိုင်းလို့လို့ပြော။ ပြီးတော့ ဘာရောဂါလဲ။ ဘယ်လိုဆေးဝါး တွေကို မှီဝဲနေသလဲဆိုတာ စုံစမ်းခဲ့။ အစတုန်းကတော့ ပေါက်ယုကိုယ် တိုင်လာမလို့ပဲလို့။ ဒါပေမယ့် ကျောင်းကပြန်လာပြီး အအေးမိနေလို့ မလာတော့ဘူးလို့ ပြောလိုက်။ နောက်မှလာကြည့်မယ်လို့"

အစေတော် ချိန်စွေ့ သွားမည်ပြုစဉ် ချူလည်း အိမ်သို့ ပြန်လာခဲ့ ၏။

အရက်မူး၍ ရန်ဖြစ်သည်ဆိုသည့် ချူ၏သမက်ဆိုသည်မှာ အ မဟုတ်။ ယုဆုန်၏မိတ်ဆွေဟောင်းဖြစ်သော ဆုစိန်ဖြစ်၏။ ဆုစိန် ရှေးဟောင်းပစ္စည်းများကို ရောင်းရာမှ တရားစွဲခံရသည့်အတွက် အညီတောင်းရန် သူ့ဇနီးသည်ကို လွှတ်လိုက်ခြင်းဖြစ်၏။ ချူမှာ သခင်များသည် အလွန် တန်ခိုးကြီးဩဇာရှိသည့် ပုဂ္ဂိုလ်များဖြစ် အလျောက် ဤမျှလောက်သောအမှုကို ဖော်ဖွဲ့လောက်သည် မထင်မိ ထိုနေ့ညနေ၌ အမေချူသည် နတ်ငှက်မယ် သခင်မလေးထံ သွားရော တိုင်တန်းခြင်းဖြင့် ထိုပြဿနာကို ဖြေရှင်းလိုက်၏။

ညမီးထွန်း ချိန် ရောက်သည့် အခါ၌ နတ်ငှက်မယ်သည် အဝ အစားလဲပြီးနောက် အနေဒေါ်ကြီးဖြစ်သူ သခင်မဝမ်ထံသို့ လာခဲ့၏။

"ဒီနေ့ကာဝန်တွေအားလုံးလောက်ကတော့ ပြီးသလောက် သွားပါပြီ ဒေါ်ကြီး။ ချန်တို့ပို့လိုက်တဲ့ ပစ္စည်းတွေကိုလဲ ကြ စစ်ဆေးပြီးပါပြီ။ ပြီးတော့ သူတို့ကိုပေးဖို့ လက်ဆောင်များကို လေ့များနဲ့ ပို့လိုက်ပါပြီ။ နှစ်သစ်ကူးအတွက် ပစ္စည်းတွေလာဝယ် သူတို့လှေတွေ ရောက်နေတုန်းမှာ သူတို့လှေတွေနဲ့ ပြန်တင်ပေးလိုက် တယ်"

သခင်မဝမ်က ခေါင်းညိတ်နေ၏။

"ပြီးတော့ လီနန်မြို့စားရဲ့ မယ်တော်ကြီးအတွက် ငှက်မ ပေးမယ့် မွေးနေ့လက်ဆောင်များကိုလဲ ဝယ်ခြမ်းထုပ်ပိုးပြင်ဆင် ပြီးပါပြီ ဒေါ်ကြီး။ ဘယ်သူ့ကို အပို့ခိုင်းရပါ့မလဲ ဒေါ်ကြီး"

"အားတဲ့ အစေတော် လေးယောက်လောက်ကို အပို့ခိုင်းလို ပေါ့အေ။ နေရာတကာ ဒေါ်ကြီးကိုပြောနေဖို့ မလိုပါဘူး"

နတ်ငှက်မယ်က ပြုံးလိုက်ရင်း

"မနက်ဖြန်မှာ သူတို့အိမ်ကို အလည်လာဖို့ (ကျိချန်ရဲ့မိန်းမ) မမယုက ဒီနေ့ပဲဖိတ်သွားပါတယ်။ မနက်ဖြန်မှာ ငှက်မယ်အဖို့ ထူးထူးထွေထွေလုပ်စရာ မရှိဘူး ထင်ပါတယ်"

"အလုပ်ရှိယင်လဲ ကိစ္စမရှိပါဘူးကွယ်။ ခါတိုင်း ဖိတ်တုန်း တော့ တစ်အိမ်လုံး ဖိတ်လေ့ရှိတာပဲ။ လူတွေများတော့ ငါ့တူမ





ပျော်ရဘူးပေါ့။ ဒီတစ်ခါကတော့ ငါ့တူမတစ်ယောက်တည်းဖိတ်တာ ဖြစ်လေတော့ ငါ့တူမတစ်ယောက်တည်းကို ပျော်ပျော်ပါးပါး ဧည့်ခံ ချင်လို့ ဖြစ်မှာပေါ့။ ဒီတော့ သူစိတ်မကောင်းဖြစ်နေပါ့မယ်။ သွား ဖြစ်အောင် သွားလိုက်ပါ။ အိမ်မှာ အလုပ်ကိစ္စရှိလဲ သွားဖြစ်အောင် သွားလိုက်ပါ"

ထိုသို့ ပြောဆိုနေကြစဉ် လီဝမ်၊ ယင်ချွန်း၊ တန်ချွန်းနှင့် အခြား မိန်းကလေးများသည် ဒေါ်ကြီးဝမ်ကို လာရောက်နှုတ်ဆက်ကာ အိပ် ရာသို့ အသီးသီးဝင်သွားကြ၏။

နောက်တစ်နေ့တွင် နတ်ငှက်မယ်သည် အဝတ်အစား ပြင်ဆင် လဲလှယ်ပြီးနောက် မမယုတို့အိမ်သို့ သွားမည်ဖြစ်ကြောင်းဖြင့် သခင်မ ဝမ်ကို လာရောက်ပြော၏။ ထို့နောက် မဟာမယ်ကိုလည်း သွားရောက် ပြော၏။ မမယုတို့စံအိမ်သို့ အလည်သွားမည်ဟု ပေါက်ယုကြားသည့် အခါတွင် သူလည်းလိုက်မည်ဟု ပူဆာသဖြင့် နတ်ငှက်မယ်မှာ မငြင်း သာတော့ဘဲ သူ့ကို အဝတ်အစားလဲခိုင်းရ၏။ ထို့နောက်တွင် နတ် ငှက်မယ်နှင့် ပေါက်ယုတို့သည် နိန်စံအိမ်ကြီးသို့ ရထားဖြင့် လာခဲ့ကြရ လေ၏။

ဗဟို တံခါးမကြီးနားတွင် သူတို့ကို အခြွေအရံများဖြင့် ကြိုဆို လျက်ရှိသော ကျိချန်၏ ဇနီး မမယုနှင့် သူ့ချွေးမ (ကျိယုန်၏ ဇနီး) ကျင်ကိုတို့ကို တွေ့ရ၏။ မမယုသည် သူ့ထုံးစံအတိုင်း နတ်ငှက်မယ်ကို နောက်ပြောင် နှုတ်ဆက်ပြီးနောက် ပေါက်ယုကို ဧည့်ခန်းထဲရှိ ထိုင်ဖုံ တစ်ခုဆီသို့ ခေါ်သွား၏။

ကျင်ကို့က လက်ဖက်ရည် လာချသည့်အခါတွင် နတ်ငှက်မယ်က

"နေစမ်းပါဦး။ ဒီနေ့မှ ထူးထူးဆန်းဆန်း ငှက်မယ်ကို ဘာ့ ကြောင့် ဖိတ်ကြတာလဲ။ ပေးစရာရှိယင် မြန်မြန်ပေးကြနော်။ ငှက်မယ် မှာ ကိစ္စတွေ ရှိသေးတယ်"

မမယုနှင့် ကျင်ကို့တို့က မည်သို့မျှ မပြောရသေးမီ အစေ တော်တစ်ယောက်က ကြားဖြတ်၍

"အမယ်လေး၊ ဒီလိုဆိုယင် နတ်ငှက်မယ် သခင်မလေး ဗီကိုမ
နဲ့တော့။ လာတာ အမှားကြီး မှားသွားပြီ။ ဒီစံအိမ်ကို ရောက်
ကျွန်မတို့ ပိုင်တယ်။ ပြန်ချင်တိုင်း မပြန်ရဘူး" ဟု ရယ်မော၍ ပြော

ထိုစဉ် ကျီယုန့်ဝင်လာပြီး နှုတ်ဆက်သည်တွင် ပေါက်ယုက
ကိုကြီးကျီချန် အိမ်တွင် ရှိမရှိ မေးမြန်း၏။

"မရှိဘူးကွယ့်။ ခမည်းတော်ကြီး နေမကောင်းလို့ မြို့ထဲကို
မေးလေရဲ့။ ကဲ ငါ့မောင်လဲ ဒီမှာ ထိုင်နေရတာ ပျင်းမှာပေါ့။
ဥယျာဉ်ထဲမှာ ဆင်းပြီး လမ်းလေးဘာလေး လျှောက်ပါလား"
မမယုက ပြော၏။ ကျင်ကို့က

"အဟောဲပဲ၊ ပေါက်ယုကကျင်ကို့ရဲ့ မောင်လေးကိုတွေ့ချင်တ
ဆို။ ဒီနေ့ပဲ ရွှေမြို့တော်ကို ရောက်လာတယ်။ ပိဋကတ်တိုက်နန်းတ
ရှိတယ် ထင်တယ်။ မောင်လေးနဲ့ သွားပြီး စကားစမြည် ပြောချ
လား"

သို့ရာတွင် ပေါက်ယုက ခုတင်မီးဖိုကြီးပေါ်မှ ခပ်သုတ်သု
ဆင်းလိုက်သည့်အခါ မမယုနှင့် နတ်ငှက်မယ်တို့ နှစ်ယောက် စ
"ဖြည်းဖြည်း သွားပါကွယ်။ ဘာဖြစ်လို့ ဒီလောက် ရေးကြီးသုတ်
နိုင်ရတာလဲ" ဟု ဆိုကာ အစေတော်များကို လိုက်ပို့ခိုင်းလိုက်၏။

"ဟဲ့ ကောင်မတွေ၊ ပေါက်ယုကို ကြည့်ထိန်းနော်၊ ဒီ
အိမ်မှာ သူတို့ကို စောင့်ကြည့်ဖို့ အဘွားကြီးလဲ မရှိဘူး" ဟု လှမ်းပြေ
လိုက်၏။

"ကျင်ကို့ရဲ့မောင်လေးကို ဘာဖြစ်လို့ ဒီကိုမခေါ်တာလဲ
ငှက်မယ်နဲ့လဲ တွေ့ဖူးသွားတာပေါ့။ ငှက်မယ်ကော မကြည့်ဖူး
တော့လို့လား"

အမြဲလို နောက်ပြောင်တတ်သော မမယုက





"အမယ်လေး။ မှယ်မင်းကြီးမရယ်၊ မတွေ့တာ ကောင်းပါတယ်။
ဒီအသူငယ်တွေလို ဟော့ဟော့ ရမ်းရမ်းတွေထဲက မဟုတ်ဘူးကွယ့်။
တခြားက သားယောကျ်ားလေးတွေများ တို့ဆွေမျိုးထဲက သား
ယောကျ်ားကလေးတွေနဲ့ မတူပေါင်။ ဂုဏ်ရှိလဲရှိ၊ ယဉ်လဲယဉ်ကျေးပါ
တယ်သနဲ့။ တို့ဆီကဟာတွေသာ သောင်းကျန်းနေကြတာ။ ငှက်မယ်
မတွေ့ဘူးနဲ့။ ငှက်မယ်ကို မြင်ယင် လန့်နေဦးမယ်။ အဲဒီတော့မှ ရယ်စရာ
ဖြစ်မယ်"

ငှက်မယ်က ပြုံးကာ

"အမယ်လေး မမယုရယ်။ ငှက်မယ်ကသာ သူများတွေကို
ကြည့်ပြီး ရယ်တာပါ။ ငှက်မယ်ကို ကြည့်ပြီး ဒီပြင်လူတွေက ရယ်တာ
မရှိသေးပါဘူး။ သူငယ်ကလေး တစ်ယောက်က ငှက်မယ်ကို ကြည့်ပြီး
ဘာဖြစ်လို့ ရယ်ရမှာလဲ"

ကျီယုန်က

"မမယု ပြောတာက ဒီလိုပါ ဒေါ်လေးငှက်မယ်ရဲ့။ ကျင်ကို့
ရဲ့ မောင်လေးက သိပ်ရှက်တတ်တယ်။ လူတွေသူတွေနဲ့လဲ သိပ်တွေ့ဖူး
တာ မဟုတ်ဘူး။ ဒီတော့ ဒေါ်လေးငှက်မယ်နဲ့ စကားပြောယင် ဒေါ်
လေးစိတ်ရှည်မှာ မဟုတ်ဘူး"

"ရှက်တတ် ကြောက်တတ်တော့ကော ဘာဖြစ်သလဲ၊ ကျီချွန်း
ဟာ ကြောက်စရာ ဘီလူးကြီးဆိုတော့ ငှက်မယ်ကတော့ တွေ့မှာပဲ။
ကဲ သွားကြစမ်းပါ။ စကားတွေ ရှည်မနေကြစမ်းပါနဲ့။ ကျင်ချွန်းကို
သွားခေါ်ကြ။ မခေါ်ယင်တော့ မုခေါ်ပေးတဲ့လူကို အရိုက်ပဲ"

ကျီယုန်က ရယ်လိုက်လျက်

"အမယ်လေး၊ မလုပ်ပါနဲ့ ခင်ဗျာ။ ခေါ်ပေးဆိုယင် ခေါ်
ပေးပါ့မယ်။ ရိုက်တော့ မရိုက်ပါနဲ့။ ကြောက်ပါတယ်"

ခဏကြာလျှင် ကျိယုန်သည် ပေါက်ယုထက် အရပ် အနည်းငယ် မြင့်ပြီး ပေါက်ယုထက် ချောမောသည့် သူငယ်ကလေး တစ်ယောက်ကို ခေါ်လာ၏။ ထိုသူငယ်ကလေး၏ အသားမှာ ချောမွေ့ ဖြူဝင်းလျက် ရှိပြီး နှုတ်ခမ်းများမှာ နီရဲလျက် ရှိ၏။ အမူအရာနှင့်တကွ လှုပ်ရှားဟန် တို့မှာ ကျက်သရေရှိသော်လည်း အပျိုမကလေး တစ်ယောက်လို ရှက်ရွံ့ရွံ့ဖြစ်လျက် ရှိ၏။ ထိုသူငယ်ကလေးသည် နတ်ငှက်မယ်ကို ဦးညွတ်နှုတ်ဆက်လိုက်ပြီးလျှင် ကျန်းမာရေးကို မေးမြန်းစုံစမ်းလေ၏။

နတ်ငှက်မယ်က ခပ်မြူးမြူးဖြင့်

"ကဲ ပေါက်ယု၊ မင်းတော့ နောက်တန်းကို ရောက်သွားပြီနော်"

ဟုဆိုကာ နတ်ငှက်မယ်သည် သူငယ်ကလေး၏ လက်ကို ဆွဲယူကာ သူ့ ဘေးတွင် အထိုင်ခိုင်းပြီးနောက် အသက်နှင့် မည်သည့် စာပေကျမ်းဂန် များကို ဖတ်ရှုနေသနည်းဟု မေးမြန်း၏။ သူငယ်ကလေး၏ ကျောင်း နာမည်မှာ ကျင်ချွန်းဖြစ်ကြောင်း သိရ၏။

နတ်ငှက်မယ်မှာ ကျင်ချွန်းကို ပထမဆုံးအကြိမ် တွေ့ရခြင်းဖြစ် သည့်အတွက် ထုံးစံအတိုင်း လက်ဆောင်ပေးရန် အဆင်သင့် ပါမလာ ခဲ့ချေ။ ထို့ကြောင့် အစေတော်များသည် ယွန်းစုံအိမ်သို့ ပြန်သွားကြ ကာ မည်သည့်လက်ဆောင်မျိုးကို ပေးရမည်နည်းဟု နတ်ငှက်မယ်၏ ကျွန်ယုံတော် ပင်အဲကို သွားရောက်မေးမြန်းကြ၏။ သူ့သခင်မ နတ် ငှက်မယ်သည် ကျင်ကို့နှင့်ရင်းနှီးကြောင်းကို သိသည့်အတွက် ပင်အဲ သည် အလှအပပစ္စည်းတစ်ခုကို လက်ဆောင်ပေးရန် ဆုံးဖြတ်လိုက်၏။ ထို့ကြောင့် ပိုးစရှည် တစ်စနှင့် ရွှေနန်းတော် စာတော်ပြန်ပွဲတွင် ပထမ ရပါစေဟု ကမ္ပည်းထိုးထားသည့် ရွှေပြားနှစ်ပြားကို ပေးလိုက်၏။ ထိုလက်ဆောင်ကို ယူလာသည့်အခါတွင် နတ်ငှက်မယ်က သည်လက် ဆောင်မျိုးမှာ အညံ့စားဖြစ်သည်ဟုဆိုကာ မြည်တွန်တောက်တီးခြင်း ပြု၏။ ကျင်ကို့နှင့် အခြားသူများကမူ ကျေးဇူးတင်လျက် ရှိလေပြီ။

နေ့လယ်စာ စားပြီးသည့်အခါ၌ မမယု၊ နတ်ငှက်မယ်နှင့် ကျင် ကို့တို့သည် ဖဲကစားကြလေရာ ပေါက်ယုနှင့် ကျင်ချွန်းတို့လည်း သူတို့ ဘာသာ စကားပြောလျက် ရှိကြ၏။





ကျင်ချွန်း ရောက်လာသည့်အခါတွင် ပေါက်ယုသည် မှုံမှိုင်းသည်ဟု သူ့ကိုယ်သူ ထင်မိ၏။ ပေါက်ယုသည် အတန်ကြာမျှ ငေးမောကာ တောင်ရောက် မြောက်ရောက် စဉ်းစားလျက်ရှိလေ၏။

"လောကကြီးမှာ ကျင်ချွန်းလို လူမျိုးတွေလဲ ရှိသေးတာပဲ နော်။ ကြည့်စမ်း၊ သူနဲ့ယှဉ်လိုက်တဲ့ အခါကျတော့ ငါဟာ ရွှံ့ထဲက ဖားတစ်ကောင်၊ ခွေးဝံစား တစ်ကောင်လောက်ပဲ ရှိပါကလား။ ဘာဖြစ်လို့များ ငါဟာ ဒီလို လူချမ်းသာ ကြေးရတတ် အိမ်ထောင် မှာ မွေးလာခဲ့ရပါလိမ့်။ တကယ်လို့သာ ငါဟာ ပညာတတ် တစ် ယောက်ရဲ့သား၊ ဒါမှမဟုတ် အရာရှိငယ်လေး တစ်ဦးရဲ့ သားသာ ဖြစ်ခဲ့ယင် သူ့ကို ငါ ဒီလောက် မနာလိုဝန်တိုဖြစ်မိမှာမဟုတ်ဘူး၊ သူနဲ့ တွဲပေါင်းလို့သင်းလို့ရမှာပဲ။ အဲဒီလိုဆိုယင် သိပ်ပြီးတော့လဲ ပျော် ရကောင်းမှာပဲ။ ငါဟာ ဂုဏ်ဒြပ်အားဖြင့်ရော မျိုးရိုးအားဖြင့်ရော သူ့ထက် အထက်တန်းကျပါရဲ့။ ဒါပေမယ့် ပိုးတွေဖဲတွေကို ဝတ်ထား ဆွေးနေတဲ့သစ်ငုတ်တိုကြီးတစ်ခုနဲ့ ဘာထူးသေးသလဲ။ ဆောင်းပေ့ ရဲ့ အရက်ချိုတွေ ခဲဖွယ်ဘောဇဉ်တွေထည့်ထားတဲ့ ရေပုပ်ချောင်း ကြီး၊ ညွန့်အိုင်ကြီးနဲ့ ဘာခြားသေးသလဲ။ မနတွေ ဂုဏ်အဆင့်အတန်း တွေဟာ ငါ့အဖို့ အလကားပဲ"

ကျင်ချွန်း၏အမြင်၌ ပေါက်ယု၏ ချောမောသော ရုပ်ရည်နှင့် ယဉ်ကျေးသိမ်မွေ့သည့် အပြုအမူများသည် သူ၏ တောက်ပကောင်း မွန်သော အဝတ်အစား၊ လုပသည့်အစေတော်များနှင့် ချောမောခန့် ညားသည့် သူငယ်တော်များကပ်ထားသည့် ရောင်ပြားစက္ကူနှင့်တူကာ တစ်ခုနှင့်တစ်ခု လိုက်ဖက်ပါပေသည်ဟု အောက်မေ့မိ၏။

"ပေါက်ယုကို လူတိုင်းက ချစ်ကြတာ ဘာအံ့ဩစရာ ရှိသလဲ။ ငါဟာ ဘာဖြစ်လို့များ ဆင်းရဲတဲ့မိသားစုမှာ မွေးလာခဲ့မိပါလိမ့်။ ဘာဖြစ်လို့ သူနဲ့ တန်းတူရည်တူပေါင်းနိုင်တဲ့အဆင့်မှာ မမွေးခဲ့ရတာ ပါလိမ့်။ အင်း ချမ်းသာခြင်းနဲ့ ဆင်းရဲခြင်းကြားမှာ အတားအဆီး ကြီးက တယ်လိုလဲကြီးလှပါကလား။ ဒီအတားအဆီးကြီးဟာ လူ ဘဝမှာ ကျိန်စာကြီးတစ်ခုပါပဲလား"ဟု တွေးလျက်ရှိ၏။

သို့ဖြင့် သူတို့နှစ်ယောက်သည် ကိုယ့်အတွေးနှင့်ကိုယ် ဖြစ်နေ
စဉ် ပေါက်ယုက မည်သည့် စာအုပ်များကို ဖတ်နေသနည်း
ကျင်ချွန်းကို ကောက်၍ မေးလိုက်၏။ ကျင်ချွန်းက ပွင့်ပွင့်လင်း
ဖြေလိုက်သည့်အခါ၌ သူတို့နှစ်ယောက်သည် တစ်ယောက်ကိုတစ်ယော
ပို၍ရင်းနှီးသွားကြကာ စကားလက်ဆုံကျလျက်ရှိကြ၏။ ထိုအခိုက်
လက်ဖက်ရည်နှင့် စားဖွယ်သောက်ဖွယ်များ ရောက်လာ၏။

"တို့နှစ်ယောက် အရက်ချိုတွေဘာတွေကို မသောက်ကြပါ
ကွာ။ ဟောဒီက စားစရာ တစ်ပန်းကန် နှစ်ပန်းကန်ကိုယူပြီး အတွ
ဆောင်ဘက်ကို သွားထိုင် စကားပြောချည်ရအောင်။ အဲဒီက ပိုပြီး
အေးဆေးဆေး ရှိတယ်"ဟု ပေါက်ယုကပြော၏။

သို့ဖြင့် သူတို့နှစ်ယောက်သည် အတွင်းဆောင်ဘက်သို့ ကူး
ကာ လက်ဖက်ရည် သောက်နေကြ၏။ ကျင်ကို့သည် နတ်ငှက်မယ်
အရက်ချိုများ၊ စားသောက်ဖွယ်များကို တည်ခင်း ပေးပြီးနေ
ပေါက်ယုတို့ အဆောင်ဘက်သို့ ကူးလာကာ

"ပေါက်ယုရေ၊ ပေါက်ယုရဲ့တူလေးက ငယ်ပါသေးတယ်
ပြောမှားဆိုမှားရှိယင် ခွင့်လွှတ်နော်။ ကျင်ချွန်းက လူကြည့်တော့
ရှက်တတ်ကြောက်တတ်ပေမယ့် သိဂ်ခေါင်းမာတာ၊ သူလုပ်ချင်တာ
ယင် ဇွတ်လုပ်တတ်တယ်"

"စိတ်ချပါ။ ကျွန်တော်တို့ အချင်းချင်း ပြေလည်ပါတယ်"
ပေါက်ယုက ရယ်၍ပြော၏။

ကျင်ကို့သည် သူ့မောင်ငယ် ကျင်ချွန်းအား ကောင်းစွာ
ဆိုနေထိုင်ရန် ပြောဆိုပြီးနောက် နတ်ငှက်မယ်တို့အဆောင်ဘက်သို့
ထွက်သွား၏။

ထိုစဉ် မမယုနှင့် နတ်ငှက်မယ်တို့က သူတို့အဆောင်ဘက်မှ
လိုသည့် စားသောက်ဖွယ်ရှိလျှင် အယူလွှတ်လိုက်ရန် လာရောက်
၏။ ပေါက်ယုက လိုလျှင် အယူလွှတ်လိုက်မည်ဖြစ်ကြောင်း ပြော





ထို့ရာတွင် ပေါက်ယုသည် အစားအသောက်ကို စိတ်မဝင်စားနိုင်ဘဲ
သူ့ မိတ်ဆွေသစ်ဖြစ်သည့် ကျင်ချွန်း၏ နေပုံထိုင်ပုံကို ကြည့်လို လေ့လာ
လိုစိတ်တို့သာ ပြင်းထန်လျက်ရှိ၏။

ကျင်ချွန်းက

"ကျွန်တော်တို့ကို စာသင်တဲ့ဆရာက မနှစ်ကဆုံးသွားတယ်၊
အဖေက အသက်ကလဲကြီး၊ ကောင်းကောင်းလဲ မကျန်းမာတဲ့အပြင်
အလုပ်ကလဲများတော့ နောက်ထပ်ဆရာတစ်ယောက်ကို ရှာချိန်မရသေး
ဘူး။ ခုတော့ ကျွန်တော့်မှာ သင်ခန်းစာဟောင်းတွေကို အိမ်မှာတင်
ပြန်ပြီး ကျက်နေရတယ်။ စာသင်တယ်ဆိုတာ တစ်ယောက်တည်းသင်
လို့ မကောင်းဘူးဗျ။ စိတ်ချင်း သဘောချင်း တူတဲ့ စကားပြောဖော်
ပြောဖက်ကလေး တစ်ယောက်နှစ်ယောက်တော့ ရှိမှကောင်းတာ။ ဒါမှ
စာကြောင်းဘာကြောင်းလဲ ပြောလို့ရတာပေါ့"

"ဟုတ်တယ်ကွ။ တို့ဆွေမျိုးစုထဲက ဆရာသက်သတ်မငှားနိုင်တဲ့
လူတွေအတွက် ကျောင်းတစ်ကျောင်း ဖွင့်ထားတယ်။ တို့ဆွေမျိုးသား
ချင်းတချို့လဲ အဲဒီကျောင်းမှာတက်နေကြတယ်။ ငါ့ဆရာလဲ မနှစ်က
အိမ်ပြန်သွားလို့ ခုလောလောဆယ်မှာ ဆရာမရှိဘဲဖြစ်နေတယ်။ ဖေဖျား
ကလဲ ဆရာပြန်မလာခင်မှာ အဲဒီကျောင်းကို တက်ပြီး သင်ခန်းစာ
ဟောင်းတွေပြန်ကြည့်ဖို့ ခိုင်းနေတယ်။ ဆရာက နောက်နှစ်မှ တောက
ပြန်လာမှာဆိုတော့ ဒီအတောအတွင်းမှာ အဲဒီကျောင်းကို တက်နေတဲ့။
ဆရာပြန်လာမှ အိမ်မှာပြန်သင်တဲ့။ ဒါပေမယ့် ကျောင်းမှာ တခြား
ကျောင်းသားတွေနဲ့ ရှုပ်ရှုပ်ယှက်ယှက်ဖြစ်မှာစိုးလို့ မယ်မယ်က မတက်ရ
ဘူးတဲ့။ ခုတော့ ငါကလဲ ကောင်း ကောင်း နေမကောင်း တော့
မတက်ဖြစ်တော့ဘူးပေါ့ကွာ"

"ခု မင်းပြောတဲ့အတိုင်းဆိုယင် မင်းမှာလဲ ဆရာမရှိဘူးဖြစ်နေ
တော့ ဒီနေ့အိမ်ပြန်ရောက်ယင် မင်းအဖေကိုပြောပြီး တို့ကျောင်းကို
တက်လှည့်ပါလားကွ။ မင်းတက်ယင် ငါလဲတက်ရအောင် ပူဆာမယ်
လေ။ ကျောင်းမှာအဖော်ရှိတော့ ကောင်းတာပေါ့။ မကောင်းဘူးလား"

ကျင်ချန်းက စိတ်ပါလက်ပါဖြင့်

"ကောင်းတယ် ကောင်းတယ်။ မနေ့ကတွင် အဖေပြန်လာပြီး အဲဒီကျောင်းအကြောင်းကို ပြောသေးတယ်။ ဒါကြောင့် ကျွန်တော်တို့ အဲဒီကျောင်းကိုအပ်ဖို့ ဦးကြီးကျိချန်ကို လာပြောမယ်လို့တောင် လုပ် နေသေးတယ်။ ဒါပေမယ့် ဦးကြီးကျိချန်က အလုပ်များလို့ ဒီလောက် အသေးအဖွဲ့ကိစ္စကလေးကို ပြောရမှာ အားနာတယ်တဲ့။ အစ်ကို ပေါက်ယုနဲ့ ကျွန်တော် အတူကျောင်းတက်ရယင် အစ်ကိုပေါက်ယု မင်ခဲကို ကျွန်တော် သွေးပေးမယ်လေ။ ပြီးတော့ မင်ဖျော်ကျောက်ခွက် ကိုလဲ ကျွန်တော် ဆေးပေးမယ်။ မကောင်းဘူးလား။ လုပ်ပါဗျာ။ ကျွန်တော်လဲ နေချင်တယ်။ အဲဒီလိုဆိုယင် ကျွန်တော်တို့နှစ်ယောက် စကားတွေလဲ ပြောချိန်ရမှာပဲ။ မိဘတွေလဲ စိတ်အေးရတာပေါ့။ ကျွန်တော်တို့အချင်းချင်းလဲ အတူတူနေရတာပေါ့။ မကောင်းဘူးလား ဟင်"

"ဖြစ်ပါတယ်ကွာ။ လာ ပြောနေ ကြာတယ်။ မင့် ယောက်ဖ ကျိယုန်နဲ့ မင့်အစ်မ ကျင်ကွိုကို သွားပြောမယ်။ ပြီးတော့ မမငှက်မယ် ကိုလဲ သွားပြောမယ်။ အိမ်ပြန်ရောက်ယင် မင်းက မင့်အဖေကိုပြော။ ငါက မယ်မယ်ကိုပြောမယ်။ မဖြစ်နိုင်စရာ မရှိပါဘူး"

သူတို့စကားပြောနေစဉ် မီးအိမ်များ လင်းလာခဲ့လေပြီ။ သူတို့ နှစ်ယောက်သည် အဒေါ်များ၊ အစ်မများ ဖဲကစားသည်ကို ထိုင်ကြည့် နေကြ၏။ ဝိုင်းသိမ်းသည့်အခါတွင် မမယုနှင့် ကျင်ကွိုတို့ ရှုံးကြသည် အတွက် နှစ်ရက်အကြာတွင် ထမင်းကျွေး၍ ဇာတ်ပွဲပြရန် ကတိပေးရ လေ၏။ ထိုနောက်တွင် သူတို့သည် စကားပြောနေကြ၏။

ညစာ စားပြီးသည့်အခါ၌ မှောင်စပြုနေလေပြီ။ ထို့ကြောင့် မမယုက ကျင်ချန်းအား လိုက်ပို့ရန် ခိုင်းလိုက်သဖြင့် မိန်းမအစေတော် များသည် လက်ပါးစေကိုခေါ်ရန် ထွက်သွားကြ၏။ ခဏကြာလျှင် ပြန်လာကာ ကျင်ချန်းလည်း ပြန်သွား၏။ မမယုက ကျင်ချန်းကို မည်သူလိုက်ပို့သနည်းဟု မေး၏။





"ကျောက်တာ လိုက်ပို့ပါတယ် မမယု။ မူးလိုက်တာကလဲ ခေါင်းချာစိုင်းနေတာပဲ။ ပါးစပ်ကလဲ ဆဲလိုက်ဆိုလိုက်တာမပြောပါနဲ့ တော့"

"ဟဲ့ ဒါဖြင့် သူ့ကို ဘာဖြစ်လို့ လိုက်အပို့ ခိုင်းရတာလဲ။ ငယ်ငယ်ရွယ်ရွယ် လက်ပါးစေတွေကို လိုက်အပို့ခိုင်းပါတော့လား။ ဘာဖြစ်လို့ ကျောက်တာကို ရွေးလွှတ်ရတာလဲ" ဟု မမယုနှင့်ကျင်ကို့က မေး၏။

နတ်ငှက်မယ်က

"ဒါကြောင့် လက်ပါးစေတွေ၊ အစေတော်တွေကို သိပ်အလို လိုက်လွန်းတယ်လို့ မမယုကို ပြောကြတာပေါ့။ ကြည့်စမ်းပါဦး။ လက်ပါးစေတွေက သူတို့လုပ်ချင်ရာ လုပ်နေကြတာ"

မမယုက သက်ပြင်းချလိုက်လျက်

"ကျောက်တာ အကြောင်းကို ငှက်မယ်လဲ သိသားပဲကွယ်။ ဘယ်တုန်းက ရဖူးလို့လဲ။ ငှက်မယ်တို့အစ်ကို ကျိချန် မပြောနဲ့။ သခင်ကြီး ကျိချန် ပြောတာကိုတောင် သူ ဂရုမစိုက်တဲ့ဟာပဲ။ ကျောက်တာ ငယ်ငယ်တုန်းက မမယုတို့ရဲ့အဘေး (သူ့ယောကျ်ား ကျိချန်၏အဘိုး) နိန်တူမြို့စားကြီးနဲ့ သုံးလေးကြိမ်စစ်မြေပြင်ကို လိုက်ခဲ့ ဖူးတယ်။ စစ်မြေပြင်ရောက်တော့ ကျောက်တာဟာ အလောင်းတွေ တောင်ပုံရာပုံကြားထဲမှာ သူ့သခင်ကို ကျောပိုး ကယ်လာခဲ့တယ်။ စစ် ရှုံးလို့ ပြေးကြတော့ ကျောက်တာဟာ သူကိုယ်တိုင် အငတ်ခံပြီး သူ့သခင်ကို လုယက်ကျွေးခဲ့တယ်။ နှစ်ရက်လုံးလုံး ရေငတ်ပြီး ဒုက္ခ ရောက်နေကြတော့ ကျောက်တာဟာ ရေလေးတစ်ခွက် ရလာခဲ့တယ်။ သူ မသောက်ဘူး။ သခင်ကိုပေးပြီး သူကိုယ်တိုင်ကတော့ မြင်းသေးကို သောက်ခဲ့တယ်။ ဒီလိုသစ္စာရှိရှိ အမှုထမ်းခဲ့လို့ မမယုတို့အဘိုးလက်ထက် ကတည်းက သူ့ကို အထူးအခွင့်အရေး ပေးခဲ့တယ်။ ဘယ်သူမှ သူ့ကို ဝင်မပြောရဲကြဘူး။ ဒီလိုအခွင့်အရေးရလာခဲ့သူဖြစ်လေတော့ ခုအချိန်

မှာ သူ့ကို ဘယ်သူမှ မပြောချင်ကြတော့ဘူး။ ပို ပြီး ဆိုး တာ က ကျောက်တာ အသက်ကလဲ ကြီးလာတော့ ကောင်းကောင်းမွန်မွန်လဲ မနေတော့ဘူး။ ဖြစ်သလိုနေတော့တာပဲ။ ဘာမှလဲ မလုပ်ဘူး။ အချိန် ရှိသရွေ့ အရက်ပဲ သောက်နေတာပဲ။ သောက်လာယင်လဲ မူးပြီး လူတိုင်းကို ဆဲတော့တာပဲ။ သူ့ကို ဘာမှတာဝန်မပေးနဲ့တော့၊ ဒီအတိုင်း သာ ကြည့်နေလိုက်တော့လို့ ဝင်းမူးကိုလဲ ခဏခဏပြောထားတာပဲ။ ခုတော့ ကျောက်တာကို တာဝန်ပေးလိုက်ပြန်ပြီ။ ခက်တာပဲ”

နတ်ငှက်မယ်က ခပ်လျှောင်လျှောင်ဖြင့်

“ကျောက်တာ အကြောင်းကို ငှက်မယ်လဲ သိပြီးသားပါ မမယု ရယ်။ ဒါပေမယ့် ဘာပဲဖြစ်ဖြစ် သူ့ကို မမယု ထိန်းနိုင်ရမှာပေါ့။ စံအိမ် မှာ ထားလို့မရယင် တောက လယ် ပို့ပြီး လယ်ထွန်ခိုင်းလိုက်ပေါ့ မမယုရဲ့။ အလွယ်ကလေးပါ” ဟု ပြောကာ မိမိရထား ရောက်မရောက် မေးမြန်း၏။

“ရောက်ပါပြီ သခင်မလေး” ဟု လက်ပါးစေက ပြော၏။

နတ်ငှက်မယ်သည် ထိုင်ရာမှ ထကာ ပေါက်ယုကို ခေါ်လာ၏။ မမယုနှင့် ကျန် အိမ်သားများသည် နတ်ငှက်မယ်နှင့် ပေါက်ယုကို ဗဟို ခန်းမကြီးအထိ လိုက်ပို့၏။ အစေတော်များ၊ လက်ပါးစေများသည် ဝင်းထဲတွင် အဆင်သင့် စောင့်နေကြသည်ကို မီးပုံးများမှ မီးရောင်ဖြင့် ပင် မြင်ရ၏။ ထိုအချိန်၌ (မမယု၏ ယောက်ျားဖြစ်သူ) ကျိချန်မှာ အိမ်တွင် ဘာမျှ လုပ်စရာမရှိသည့်အလျောက် အပြင်သို့ ထွက်နေသည့် အတွက် ကျောက်တာသည် ရမ်းချင်တိုင်း ရမ်းလျက် ရှိ၏။ ကျောက်တာ သည် ဝင်းမူးလိုင်အဲ လူလည်လုပ်သည်၊ ညစ်သည်ဆိုကာ လိုင်အဲ၏ မတရားမှုများကို ဖော်လျက် လူကြောက်၊ လူညစ်၊ သခင်အားရ ကျွန် ဒဏ်ဝ လုပ်သည်ဟု မူးမူးဖြင့် ဆဲရေးတိုင်းထွာလျက် ရှိ၏။

“ဟေ့ လိုင်အဲ၊ ဘာဝင်းမှူးလဲကွ။ တခြားကောင်တွေကျတော့ သက်သာတဲ့ အလုပ်ကို ခိုင်းတယ်။ ဒါပေမယ့် ည မှောင်ကြီးမည်းကြီး ထဲမှာ သေစရာရှိယင်တော့ ငါ့ကို ခိုင်းတယ်။ ဟေ့ကောင် လိပ်မသား။ သတ္တိရှိယင် ထွက်ခဲ့ကွ။ ဘာဝင်းမှူးလဲကွ။ ဟေ့ကောင် မင်း ဝင်းမှူး





...ငါ့ခြေဖဝါးအောက်မှာ ရှိတယ်ကွ။ သိရဲ့လား။ ခုမှ ငါ့သခင် ...မျိုးလို့ ငါ့ကို နှိမ်ကြတာ။ လွန်ခဲ့တဲ့ အနှစ် နှစ်ဆယ် ငါ့သခင်ကြီး ...ကဆိုယင် တစ်အိမ်လုံး ဘယ်သူ့ကိုမှ ငါ သောက်ဂရု မစိုက်ဘူး ...မင်းတို့လို အလေနတော ကောင်တွေဆိုတာတော့ စာရင်းထဲ ...မထည့်ဘူး၊ မှတ်ထား”

(ကျင်ကို့၏ ယောကျ်ား) ကျိယုန်က နတ်ငှက်မယ်ကို ရထားသို့ ...နှုတ်ဆက်နေစဉ်တွင်လည်း ကျောက်တာသည် အားရပါးရ ...တိုင်းထွာလျက် ရှိ၏။ အစေတော်များ၊ လက်ပါးစေများက ...တိတ်တိတ်နေရန် ပြောကြသော်လည်း မရချေ။ ကျိယုန်ကား ...လောက် ရမ်းကားနေခြင်းကို ခွင့်မလွှတ်နိုင်။ ထို့ကြောင့် ကျိယုန် ...ကျောက်တာကို ဆဲရေးကာ သူ့ကို ကြိုးဖြင့်တုပ်ရန် လက်ပါးစေ ...ခိုင်း၏။

“ဒီလောက် ဘာဖြစ်လို့ရမ်းနေသလဲဆိုတာ မနက်ဖြန် အမူးပြေ ...မှမေးရမယ်။ ခုမေးလို့တော့ ကောင်းကောင်းဖြေမှာမဟုတ်ဘူး”

ထုံးစံအတိုင်း ကျောက်တာသည် ကျိယုန်ကိုလည်း အထင်မကြီး ...ကျောက်တာသည် သူ့ကို ကြိုးဖြင့် တုပ်ရမည်လောဟုဆိုကာ ...ပါပွလာလျက်

“ဒီမှာ သခင်လေးကျိယုန်၊ ကျောက်တာအပေါ်မှာ လူလည် ...လို့မရဘူးဗျ။ ခင်ဗျားလိုလူမပြောနဲ့ ကျောက်တာတို့က ခင်ဗျား ...ခင်ဗျားအဘိုးကိုတောင် ဂရုစိုက်တဲ့လူစားမျိုး မဟုတ်ဘူး။ ...တောင် ကျောက်တာကို ဒါမျိုးမပြောရဲဘူးဆိုတာ ခင်ဗျား မှတ် ...လိုက်ပါ။ ကျောက်တာအသက်ပေးခဲ့လို့ ခင်ဗျားတို့ တစ်မျိုးလုံး ...ဂုဏ်တွေ၊ အရှိန်အဝါတွေနဲ့နေနိုင်တာ။ ဒီဆွေမျိုးစုကြီးကိုဒီအခြေ ...ရောက်လာအောင်၊ ဒီလို ကြီးပွားလာအောင် ဘယ်သူ လုပ်ခဲ့သလဲ။ ...များတို့အဖေ လုပ်ခဲ့တာ။ ဒီလိုလုပ်နိုင်အောင် ခင်ဗျားတို့ အဖေကို ...ဘယ်သူကယ်ခဲ့တယ် ထင်သလဲ။ သေတွင်းက ဘယ်သူဆွဲတင်ခဲ့တယ်ထင် ...လဲ။ ကျောက်တာ ကယ်ခဲ့တာဗျ ကျောက်တာ ဆွဲထုတ်ခဲ့တာ။ ...တော့ ဒီကျေးဇူးတွေကိုတောင် မထောက်ဘူး။ ကျောက်တာတို့ကို

နိုင်ထက်စီးနင်းလုပ်တယ်။ တော်တော့။ နောက်ထပ် ကျောက် အမိန့်မပေးနဲ့တော့။ နောက်ထပ် တစ်ခွန်းပြောယင် ခင်ဗျားကိုယ် ဖြူဖွေးနေတဲ့ဓား စိုက်သွင်းပြီး သွေးရဲရဲနဲ့ ပြန်နုတ်ပြမယ်သိရဲ့လား''

''ဒီလောက် ရမ်းကားနေတာကို ဘာဖြစ်လို့ ထုတ်မပစ် ဒီမှာနေလို့ ဘာမှလဲ အသုံးကျတော့တာမဟုတ်ဘူး။ ဒီလိုမှုးပြီး ရမ်း လို့ဖြစ်မလား။ တခြားလူတွေ ကြားသွားယင် စံအိမ်မှာ ဒီလေ စည်းမဲ့ကမ်းမဲ့ ဖြစ်နေတာကို ကြည့်ပြီး ရယ်ကြမှာပေါ့''ဟု နတ် မယ်က ရထားပေါ်မှနေ၍ ကျီယုန်ကို ပြောလျက်ရှိ၏။

ထိုအချက်ကို ကျီယုန်လည်း သဘောတူ၏။ ထိုသို့ပြောဆို စဉ် အစေတော်များ လက်ပါးစေများသည် ကျောက်တာကို အ ဝိုင်းချုပ်၍ ကြိုးနှင့်တုပ်ပြီးနောက် မြင်းဇောင်းထဲသို့ သွင်းသွား ၍တစ်ကြိမ်တွင်မူကား ကျောက်တာသည် ရမ်းကားလွန်း ဇောင်းထဲသို့ရောက်သည့်အခါတွင်မူ ကျောက်တာသည် မလျှော့ ကျီယုန်၏အဖေ ကျီချွန်ကိုပါ ဆဲရေးတိုင်းထွာလျက်ရှိလေပြီ။

''ဟော့ကောင်တွေ။ ငါ့ကိုလွှတ်ကြကွ။ ငါ သခင်ကြီးအုတ် သွားပြီး တိုင်တည်မယ်။ သခင်ကြီး လက်ထက်မှာတောင် ငါ အစော်ကားမခံခဲ့ရဘူးကွ။ မင်းတို့ လက်ထက်ကျမှ၊ မင်းတို့အ တွေ အလကားကောင်တွေ။ ပြာပုံထဲမှာ ဝပ်နေတဲ့ ခွေးထီးနဲ့ တွေ။ အား အား ရှိယင် ပြာပုံထဲမှာ ကုတ်ခြစ်နေတဲ့ ခွေး ခွေးမတွေ။ (ယောက္ခမနှင့် ချွေးမ မှောက်မှားကြသည်ကို ပြော ဗန်းစကားဖြစ်သည်။) မတ်မရှောင်၊ မရီးမရှောင် ဖြစ်ချင်တိုင်း နေတဲ့ ဟာတွေ၊ ငါ့ကို ဒီလို လူလည်လုပ်လို့မရဘူးကွ။ မသိချင်ယော ဆောင်နေတာကို အဟုတ်ထင်မနေကြနဲ့။ ဒီကကောင်က သူတို့လက်ပြ ကြီးကို အင်္ကျီလက်နဲ့ ဆွဲဖုံးပေးနေရတဲ့ကောင်....''

ကျောက်တာ၏ ညစ်ညမ်းစွာ ဆဲရေးတိုင်းထွာသံများ ကြားရသည့်အခါ၌ အစေတော်များမှာ အကြီးအကျယ် ထိတ်လန့် လှုပ်လျက်ရှိကြလေပြီ။ လက်ပါးစေများသည် ကျောက်တာကို အ ဝိုင်းချုပ်ကာ သူ့ပါးစပ်ကို ရွှံ့များ၊ မြင်းချေးများဖြင့် ပိတ်ဆို့ကြ





နတ်ငှက်မယ်နှင့် ကျီယုန်သည် ကျောက်တာ၏ ဆဲရေးတိုင်းထွာ များကို မကြားယောင်ပြုလျက် ရှိသော်လည်း ပေါက်ယုမှာ ထိုဆဲသံ များကို နားထောင်ကောင်းကောင်းနှင့် နားထောင်လျက်ရှိ၏။

''ဆဲနေတာတွေကို မမလေးငှက်မယ် ကြားတယ်နော်။ ပြာပုံ ထဲမှာ ခြစ်ကုတ်နေတယ်ဆိုတာ ဘာကိုပြောတာလဲဟင်''

နတ်ငှက်မယ်က မျက်နှာထားဖြင့်

''ဘာတွေ လျှောက်မေးနေတာလဲ။ ပေါက်ယုဟာ တော်တော် ပြောရခက်တယ်။ အရက်မူးမူးနဲ့ ဆဲတာတွေကို နားထောင်ရုံတင် မကဘူး၊ ငှက်မယ်ကိုလာပြီး မေးခွန်းတွေ လာမေးနေသေးတယ်။ ပြန်ရောက်မှ ပေါက်ယု မေဖျားကို တိုင်ရမယ်။ တိုင်ယင်တော့ အရိုက် ခံရတော့မယ်''

''တိုင်တော့မတိုင်ပါနဲ့ မမလေးရယ်။ နောက်တစ်ခါ ပေါက်ယု ဒီလိုမမေးတော့ပါဘူး''ဟု ပေါက်ယုက အကြောက်ကြောက် အလန့် လန့်ဖြင့် တောင်းပန်၏။

''မောင်လေးကလဲ ဒီလိုမှပေါ့။ အိမ်ပြန်ရောက်ယင် ပေါက်ယုနဲ့ ကျွစ်လျှန်းကို ကျောင်းကိုပို့ဖို့ မေဖျားကို ပြောဖြစ်အောင်ပြောနော်။ ဒါ အရေးကြီးတယ် သိရဲ့လား''

အကန်ကြာလျှင် နတ်ငှက်မယ်နှင့် ပေါက်ယုတို့သည် ယွန်းစံအိမ် ကြီးသို့ ပြန်ရောက်လာကြ၏။ မည်သို့ဖြစ်သည်ကိုသိလိုလျှင် နောက်တစ် ခန်းကို ဖတ်ပါလေ။

ဥပမိရှပ် ကောင်းခြင်းသည် အဆွေခင်ပွန်းဖြစ်ရန် လမ်းခင်း ပေး၏။

အပြန်အလှန် ခင်မင်ကြခြင်းသည် ကလေးများအား ကျောင်း ပျော်အောင် ဖန်တီးပေး၏။

## အခန်း ၈

### အထိန်းတော်ကြီး လီက အရက်မသောက်ရန် ဆုံးမခြင်း။ ပေါက်ယု စိတ်ဆိုး၍ လက်ဖက်ရည်ပန်းကန်ကို ရိုက်ခွဲခြင်း။

နတ်ငှက်မယ်နှင့် ပေါက်ယုတို့ စံအိမ်သို့ပြန်ရောက်သည့်အခါ၌ ပေါက်ယုက မိမိတို့၏ဆွေမျိုးစုကျောင်းတွင် ကျင်ချွန်း ကျောင်းတက်လိုသည့်အကြောင်း၊ ကျင်ချွန်းလို အဖော်ရှိလျှင် မိမိလည်း ထိုကျောင်းကို တက်ချင်သည့်အကြောင်းကို မယ်မယ်အား ပြောပြ၏။ ပေါက်ယုက ကျင်ချွန်း ချစ်စရာကောင်းပုံ၊ သဘောကောင်းပုံများကို အမွှမ်းတင်၍ ပြောပြ၏။

နတ်ငှက်မယ်ကလည်း ပေါက်ယုစကားကို ထောက်ခံကာ

"ဟုတ်တယ် မယ်မယ်ရဲ့၊ တစ်ရက်နှစ်ရက်လောက်ဆိုယင် ကျင်ချွန်းလဲ မယ်မယ့်ကို လာကန်တော့မယ်လို့ ပြောသွားပါသေးတယ်" ဟု ပြောလေရာ မိမိအား လာရောက်ကန်တော့မည်ဆိုသည့်သတင်းကို ကြားသည့်အခါ မယ်မယ်မှာ ဝမ်းသာလျက်ရှိ၏။ နတ်ငှက်မယ်သည် ထိုအခါအခွင့်ကိုယူကာ မယ်မယ့်အား နောင်လာမည့် တစ်ရက်နှစ်ရက်အတွင်း ဇာတ်ပွဲလိုက်ကြည့်ရန် ဖိတ်၏။





မယ်မယ်သည် အသက်ကြီးသည့်တိုင် အပျော်အပါးကို ဝါသနာပါသဲ ဖြစ်၏။ နောက်နှစ်ရက်ကြာ၍ မမယုက ဇာတ်ပွဲကြည့်ရန် လာဖိတ်သည့်အခါ၌ သခင်မဝမ်၊ ထိုက်ယု၊ ပေါက်ယုနှင့် အခြားသူများအားလုံးကိုလည်း ဇာတ်ပွဲသို့ ခေါ်သွား၏။

နေ့လယ်နေ့ခင်းဆိုလျှင် မယ်မယ်သည် တစ်ရေးတမော အိပ်လေ့ရှိ၏။ ယောက္ခမဖြစ်သူ မယ်မယ်ပြန်သွားလျှင် အေးအေးဆေးဆေး နေတတ်သည့် သခင်မဝမ်မှာလည်း အဆောင်သို့ ပြန်သွားလေ၏။ ထိုအခါ၌ကား နတ်ငှက်မယ်သည် လူကြီးနေရာကိုဝင်ယူကာ ညနေမိုးချုပ်အထိ လူငယ်များနှင့် ဇာတ်ပွဲကြည့်လျက် ရှိလေ၏။

ပေါက်ယုသည် မယ်မယ်အား အိပ်ခန်းဆောင်သို့ လိုက်ပို့ပြီးလျှင် ပွဲကြည့်ဆောင်သို့ ပြန်လာရန်ဖြစ်သော်လည်း ကျင်ကိုနှင့်တကွ အခြားသူများကို အနှောင့်အယှက် မပေးလိုတော့သည့်အတွက် မသွားတော့ချေ။ ပေါက်ကြည်မှာ မကြာခင်က နေထိုင်မကောင်းဖြစ်ခဲ့ရာ လူကိုယ်တိုင် သွားရောက်မေးမြန်းခြင်း မပြုရသေးသည်ကို သတိရသည်နှင့် ပေါက်ယုသည် ဒေါ်လေးဆွေ့နေထိုင်ရာ နှိန်စံအိမ်ဘက်သို့ လာခဲ့၏။ ခန်းဆောင်ကြီးမှဖြတ်သွားလျှင် မိမိအား ဆွဲထားကြမည်ကို စိုးရိမ်သည့်အတွက်ကြောင့် တစ်ကြောင်း၊ ထို့ထက် မိမိဖခင်ဖြစ်သူ ကျီချိန်နှင့် ပက်ပင်းတိုးနေမည်ကို စိုးရိမ်သည့်အတွက်ကြောင့် တစ်ကြောင်း ပေါက်ယုသည် ခါတိုင်းသွားနေကျလမ်းမှ မသွားဘဲ အဆောင်ကို ကွေ့ပတ်ကာ ဝင်းထဲမှ ဖြတ်လာခဲ့၏။

မိမိ၏ ခန်းဆောင်ထဲတွင်မူ အစေတော်များနှင့် လက်ပါးစေများသည် ပွဲတက်အဝတ်အစားများကို ချွတ်ပေးရန် စောင့်ဆိုင်းလျက်ရှိကြ၏။ သို့ရာတွင် ပေါက်ယုသည် အဝတ်အစားကိုမျှ မလဲတော့ချေ။ အစေတော်များသည် စံအိမ်ဘက်သို့ ပြန်မည်အထင်ဖြင့် ဒုတိယတံခါးအထိ လိုက်လာခဲ့သေးသော်လည်း ပေါက်ယုသည် အနောက်မြောက်ဘက်သို့ ချိုးကာ ခန်းဆောင်နောက်သို့ ကွေ့ဝင်ပျောက်ကွယ်သွား၏။

အကွေ့လိုက်တွင် ဖခင် ကျိချိန်၏ အချစ်တော် လက်ပါး နှစ်ဦးဖြစ်သည့် ချန်ကွမ်းနှင့်ရှန်ပိန်ရင်းတို့ကို တွေ့ရ၏။ သူတို့နှစ်ယော သည် ပေါက်ယုကိုမြင်လျှင် ပြေးလာကြကာ တစ်ယောက်ကပွေ့ဖက် အခြားတစ်ယောက်က လက်ကိုဆွဲထား၏။

"အမယ်လေး၊ သခင်လေးတို့များ မတွေ့ရတာကြာလှပြီ ကြည့်စမ်း၊ ခုမှပဲ တွေ့ရတော့တယ်"

လက်ပါးစေနှစ်ယောက်သည် ပေါက်ယုကိုနှုတ်ဆက်ကာ ကျ မာရေးကို မေးမြန်းစုံစမ်းပြီးလျှင် စကားစမြည် ပြောဆိုနေကြ ပေါက်ယု၏ အထိန်းတော်က သူတို့သခင်ကြီးရှိမရှိ မေးမြန်းခြင်းပြု

လက်ပါးစေက ခေါင်းညိတ်ပြလိုက်လျက်

"ရှိတယ်ဗျ။ သခင်ကြီးက မိန့်ပို ခန်းဆောင်ထဲမှာ အိပ်နေ တယ်" ဟု ပြော၏။

ဖခင်ကြီး အိပ်ပျော်နေကြောင်းကို သိသည့်အခါတွင် ပေါက် သည် ကျေနပ်သွားကာ ကိုယ့်အတွေးဖြင့်ကိုယ် သဘောကျ၍ ရယ်လိုက မိ၏။ ထိုနောက် ပေါက်ယုသည် မြောက်ဘက်သို့ကွေ့ကာ ဒေါ်လေး ဆွေ့တို့နေထိုင်ရာ သစ်မွှေးဆောင်ဘက်ဆီသို့ လာခဲ့၏။ ထိုအချိ စံအိမ်ဘဏ္ဍာစိုးကြီးဖြစ်သည့် ဝူစင့်တုန်နှင့် စပါးကျီတိုက်မှူး ထိုက တို့သည် စာရင်းဒိုင် လေးငါးယောက်ဖြင့် စပါးကျီအနီးရှိ ဂရို့ချိုး သည့်ရုံထဲမှ ထွက်လာကြ၏။ ပေါက်ယုကိုမြင်လိုက်သည့်အခါတွင် သူ အားလုံးသည် အရိုအသေ ပြုသည့်ဟန်ဖြင့် ရပ်လိုက်ကြပြီးနောက် နှု ဆက်ကြ၏။ ထိုအထဲမှ တစ်ယောက်ဖြစ်သည့် ချင်းဟွာမှာ ပေါက်ယု ကို အတန်ကြာမျှ မတွေ့ခဲ့ရသည့်အတွက် ရှေ့သို့တက်လာကာ ဒူး တစ် ဖက်ကိုထောက်၍ အရိုအသေပေး၏။ ပေါက်ယုကပြုံးကာ သူ့လက်ကို ဆွဲ၍ အသခိုင်းလိုက်၏။ အခြားအမှုထမ်းများကမူ

"တစ်နေ့က သခင်လေးပေါက်ယု ရေးထားတဲ့ စာတမ်းတွေကို ကျုပ်တို့တွေ့ခဲ့တယ်ဗျ။ သခင်လေး စုတ်ချက်လက်ရေးတွေက အယ





ထက် အများကြီး တိုးတက်နေတာပဲ။ ကျွန်တော်တို့ စပါးကျီတွေနဲ့ ဂရို့ချိုးရုံအတွက်လဲ စာတမ်းလေး ဘာလေး ရေးပေးပါဦး သခင် လေးရဲ့"

"ဘယ်မှာတွေ့ခဲ့လို့လဲဗျ"

"အမယ်လေး နေ့လို့ပါဗျာ။ ဒါကြောင့် သခင်လေးရဲ့ လက်ရေး စာတမ်းတွေကို လိုချင်လှချည်ရဲ့လို့ လူတွေက ကျုပ်တို့ကို လာ လာပြီး ပူဆာနေတယ်"

"ဒီလောက် မကောင်းပါဘူးဗျာ။ ဒါပေမယ့် လိုချင်ယင်တော့ သူငယ်တော်ကလေးတွေဆီမှာ ရေးပြီးသားရှိတယ်။ တောင်းယူကြ" ဟု ပေါက်ယုက ရယ်၍ပြော၏။

အမှုထမ်းတစ်သိုက်သည် ပေါက်ယုထွက်သွားတော့မှသူတို့လိုရာ သို့ အသီးသီး ထွက်သွားကြ၏။ သို့ရာတွင် ကလောင်ဘေးဖဲ့ထွက် သွားသည်ကို ရပ်ကြည့်ဦးစို့။

သစ်မွှေးဆောင်သို့ ရောက်သည့်အခါတွင် ပေါက်ယုသည် ဒေါ် လေးဆွေ့ကို ပထမဆုံး သွား၍ နှုတ်ဆက်၏။ ဒေါ်လေးဆွေ့သည် ကစေတော်များအား အပ်ချုပ်ရန် အပ်ထည်များကို ဝေငှပေးလျက် ရှိရာမှ ပေါက်ယုကိုမြင်လျှင် ဝမ်းသာအားရ ပွေ့ဖက်နှုတ်ဆက်၏။

"အမယ်လေး ငါ့တူလေးရယ်၊ ဒီယောက်အေးရချမ်းရတဲ့နေ့မှာ အလကားသက်သက် ဒုက္ခရှာပြီးလာတယ်။ ကဲကဲ လာ၊ ဒီကအေးတယ်။ ခုတင်မီးဖိုပေါ်ကို လာထိုင်လှဲ့" ဟု ပြော၏။ ပေါက်ယုအတွက် လက် ဖက်ရည် ပူပူများကိုလည်း ယူလာခဲ့ရန် မှာလိုက်၏။

"အစ်ကိုကြီးဆွေ့ပန်ကော၊ မမြင်မိပါလား ဒေါ်လေးဆွေ့ရဲ့"

ဒေါ်လေးဆွေ့သည် သက်ပြင်းချလိုက်လျက်

"အမယ်လေး၊ မင့်အစ်ကိုကြီးကတော့ ပြောမနေနဲ့။ လှန်ကြိုး ကာ လွှတ်လိုက်တဲ့ မြင်းများလိုပဲ။ အိမ်ကပ်တယ်လို့ကို မရှိဘူး။ အားအား ရှိ အပြင်ထွက်နေတာပဲ"

"ပေါက်ကြည်ကော တော်တော်နေကောင်းသွားပြီလား"

"အေးကွယ်။ တော်တော်လေးတော့ သက်သာသွားပါပြီ။ တစ်နေ့ကတောင် နေမကောင်းတာ လူကြုံနဲ့ လှမ်းမေးလိုက်လို့ မင့်မမလေး ပေါက်ကြည်က ဝမ်းသာနေတယ်။ သူ့အဆောင်ထဲမှာ ရှိလေရဲ့။ ဝင်မေးလိုက်ပါလားကွယ့်။ အထဲဆိုတော့ နွေးလဲနွေးတာပေါ့။ မင့်မမလေးနဲ့ စကားပြောနှင့်။ ဒေါ်လေး ဒီကိစ္စကလေးပြီးယင် လိုက်ခဲ့မယ်"

ပေါက်ယုသည် ခုတင်မီးဖိုကြီးပေါ်မှ လျှောဆင်း လိုက်ပြီးနောက် ပေါက်ကြည်၏ ခန်းဆောင်ဆီသို့ လာခဲ့၏။ ပေါက်ကြည်၏ အဆောင်မှာ ခပ်နွမ်းနွမ်း ပိုးကတ္တီပါ ခန်းဆီးကြီး တပ်ထား၏။ ပေါက်ယုသည် ခန်းဆီးကို ဖယ်လိုက်၏။

ပေါက်ကြည်သည် ခုတင်မီးဖိုကြီးပေါ်တွင် ထိုင်၍ တက်တင်ထိုးလျက်ရှိ၏။ တောက်ပနက်မှောင်သော ဆံပင်ကို နဖူးပေါ်တွင်စုစည်းထုံးထား၏။ အောက်တွင် ပျားရည်ရောင် ဂွမ်းကပ် အင်္ကျီခံထားပြီးအပေါ်တွင် အညိုနှင့် အဖြူကျား ကြောင်ဥကျည်မွေးကွပ်သည့် ပန်းနုရောင် လက်ပြတ်ကို ထပ်ဝတ်ထားကာ ခါးတွင် အဝါရောင်လုံချည်ကို ဝတ်ထား၏။ ပေါက်ကြည်၏ အဝတ်အစားမှာ တောက်တောက်ပပ မဟုတ်လှသည့်ပြင် ခပ်နွမ်းနွမ်းမျှသာ ဖြစ်၏။ နှုတ်ခမ်းတွင် ဒန်းနီဆိုးထားခြင်း၊ နက်မှောင်သော မျက်ခုံးမွေးများကို ဆွဲထားခြင်းလည်း မရှိချေ။ ပေါက်ကြည်၏ မျက်နှာသည် ဘော်သားခွာ ငွေပြားပမာ ဖြူဖွေးဝိုင်းစက်လျက်ရှိပြီး မျက်ဝန်းများမှာ ရေတွင်ပေါ်နေသည့် ဗာဒံစေ့များနှင့် တူ၏။ ရုတ်တရက်ကြည့်လျှင် ပေါက်ကြည်သည် အေးဆေးငြိမ်သက်ခြင်း၊ စကားနည်းခြင်းသည် ဖျင်းအမှုကို ဖုံးကွယ်ထားသည့် မျက်နှာဖုံးတစ်မျိုးဟု ထင်ရသည့်တိုင် သူ့ကိုယ်တိုင်မှာမူ ထိုအချက်သည် ရိုးသားမှုကို ဖော်ပြသည့် အရာတစ်မျိုးဟု အစဉ်းစားကြီးသည့် ပေါက်ကြည် ထင်မိ၏။

ပေါက်ယုက ပေါက်ကြည်ကို တစ်ချက် လှမ်း၍ အကဲခတ်လိုက်ရင်း





"မမလေး နေကောင်းသွားပြီနော်"

ပေါက်ကြည်က မော့်ကြည့်လိုက်ပြီး ချက်ချင်း ထိုင်ရာမှထလိုက်လျက်

"ကောင်းသွားပါပြီ မောင်လေးရယ်။ အလကားဒုက္ခရှာလို့ လာမေးတယ်"

ပေါက်ကြည်သည် ပေါက်ယုကို ခုတင်မီးဖိုပေါ်တွင် အထိုင်ခိုင်းလိုက်ပြီးလျှင် သူ့အစေတော် ယင်အဲကို လက်ဖက်ရည်ငှဲ့ခိုင်း၏။ ပေါက်ကြည်က မယ်မယ်၊ ဒေါ်ကြီးဝမ်နှင့်အစ်မများ၏ကျန်းမာရေးကိုမေးမြန်းရင်း၊ ပေါက်ယု၏ အဝတ်အစားများကို ကြည့်လိုက်၏။

ပေါက်ယုသည် ကျောက်မျက်ရတနာများ စီခြယ်ထားပြီး ရွှေနန်းကြိုးများဖြင့် ခတ်ထားသည့် ဦးရစ်၊ ပုလဲတစ်လုံးကို လုနေကြသည့် မျှနဂါး နှစ်ကောင်ပုံ ဖော်ထားသော နဖူးစည်း၊ မြေခွေးမွေးကွပ်ထားပြီး နဂါးရုပ်များ ရွှေချည်ထိုးထားသည့် စိမ်းဝါရောင် လေးသည်တော်အင်္ကျီနှင့် ရောင်စုံလိပ်ပြာရုပ်ကလေးများကို ထိုးထားသည့် ခါးစည်းကြိုးတို့ကို ဝတ်ဆင်ထား၏။ လည်တွင်မူ သူ့အမည် ထိုးထားသည့် လက်ဖွဲ့ကြိုးအဖြစ် ရွှေကြိုးတစ်ကုံးကို ဆွဲထားလျက် ထိုဆွဲကြိုး၏အများတွင် မွေးစဉ်က ပါးစောင်တွင် ငုံလျက်ပါလာသည့် မြကျောက်ကို ဆွဲထား၏။

ပေါက်ကြည်က ရှေ့သို့ တိုးလာကာ

"မောင်လေးရဲ့ ကျောက်စိမ်းတုံး အကြောင်းကို ပြောသံသာ ကြားဖူးတယ် တစ်ခါမှ မမြင်ဖူးသေးဘူး။ မလေးကြည့်ပရစေနော်"

ပေါက်ယုက ကိုယ်ကို ကုန်း၍ လည်ဆွဲကို ချွတ်လိုက်ပြီးလျှင် ကျောက်စိမ်းတုံးကို ပေါက်ကြည်လက်ထဲသို့ ထည့်လိုက်လေ၏။ ကျောက်စိမ်းတုံးမှာ စာဥအရွယ်ခန့် ရှိပြီး အရုဏ်ဦး တိမ်တိုက်ကဲ့သို့ အရည်အသွေးလဲ့လျက်ရှိကာ နို့ခမ်းခဲ ကဲ့သို့ ချောမွေ့၍ ရောင်စုံ ပြိုးပြက်သော မျဉ်းကြောင်းများ ရှိ၏။ ဤသည်မှာ သေလာပဗ္ဗတတောင်ရှိ

မေတ္တာ်တောင်ခြေရင်း၊ အသူရာချောက်မှ အစပြုခဲ့သည့် ကျောက်စိမ်း
တုံး၏ ပုံသဏ္ဌာန်ပေတည်း။ ဤသည်ကို နှောင်းခေတ် စာဆိုတစ်ဦး
အောက်ပါအတိုင်း စပ်ဆိုခဲ့ပေ၏။

နဂါမည်ရှိ၊ ထိုနတ်မိလျှင်
ကောင်းကင်ပြင်လို၊ ကျောက်ကိုကျို၍
ထိုထိုဘဝ၊ သူညကမှ
လောကသံသရာ၊ လူဖြစ်လာ၍
ကျောက်တုံးအဖြစ်၊ အနှစ်သာရ
ပျောက်ကွယ်ကြလျက်၊ ဘဝညစ်ထေး
အစေးအညှိ၊ ကပ်ငြိဘို၏။
ဘဝကံဆိုး၊ မျက်မှောင်ညိုးက
ပြစ်မျိုးမထင်၊ အိမ်ရွှေစင်လည်း
မရှင်မလန်း၊ အရောင်နွမ်း၏
ဇာတာညှိုးလျှင်၊ ကျောက်စိမ်းပင်လည်း
ရောင်လွင်မထိန်၊ အရောင်မှိန်၏
အရိုးပုံကြီး၊ တောင်လိုဟည်းလျှင်
မသေခင်မူ၊ မည်သူမှုးမတ်
မည်သူမြတ်၍၊ မည်သူမယား
မည်သူသားဟု၊ ခွဲခြားပိုင်ပိုင်
မသိနိုင်ခဲ့။ ။

မိုက်မဲသော ကျောက်စိမ်းတုံးသည် မိမိအကြောင်းကိုလည်း
ကျောက်ပေါ်တွင် မှတ်တမ်းတင်ထားခဲ့လေရာ ခေါင်းတွင် ဒက်
ပေါက်လျက်ရှိသည့် ကိုရင်ကြီး ရေးထွင်းခဲ့သည့် စာလုံးတို့ကို အောက်
တွင် ဖော်ပြပေအံ့။

သို့ရာတွင် ကျောက်စိမ်းတုံးမှာ မွေးကင်းစကလေးငယ်၏ ပါး
စပ်ထဲတွင်ငုံနိုင်လောက်အောင် သေးငယ်လှသည့်အတွက် ထိုကျောက်စိမ်း
တုံးပေါ်တွင်ပါသည့် စာတန်းအက္ခရာတို့ကို သူ့မူရင်းအတိုင်းဖော်ပြမည်
ဆိုလျှင် များစွာ သေးငယ်လွန်းပေရကား ထိုအတိုင်းဖော်ပြလျှင် စာ
ဖတ်သူတို့ မျက်စိညောင်းပေလိမ့်မည်။ ထို့ကြောင့် စာဖတ်သူတို့ သာ





မျက်စိဖြင့်မြင်နိုင်ရန် ကျွန်ုပ်တို့က ပုံကြီးခဲ့၍ ဖော်ပြပေးအံ့။ ဤသို့
ပြုသည်ဆိုလျှင် "သည်ကလောက်ကြီးသည့် မြကျောက်ကြီးကို အမိဝမ်း
ဗိုက်တွင်ရှိသည့် ကလေးငယ်က ပသို့ငုံထားနိုင်မည်နည်း" ဟု အမေး
ထုတ်သည်ကို ရှင်းလောက်ပြီဟု ယူဆလိုပေ၏။

ကျောက်စိမ်းတုံး၏ ခေါင်းဘက်တွင် အောက်ပါအတိုင်း ပါရှိ
ပေ၏။

မှ နော မ သိ ဒ္ဓိ မြ ကျောက်

မ မေ့ မ ပျောက် လေ နှင့်

ထာဝရ သက်ရှည်ချမ်းသာမည်။

ပန်းဘက်တွင်မူ

၁။ မကောင်းသောနတ်တို့ကို မောင်းနှင်သည်။

၂။ ရောဂါဆိုးတို့ကို ပျောက်ကင်းစေသည်။

၃။ သုခနှင့်ဒုက္ခတို့ကို ကြိုသိနိုင်သည်။

ပေါက်ကြည်သည် ကျောက်စိမ်းတုံးကိုကြည့်ပြီးနောက် နောက်တစ်ခါ ပြန်ကြည့်၏။ မြကျောက်ပေါ်တွင်ထိုးထားသည့် ကမ္ပည်းစာကို နှစ်ခေါက်တိုင်တိုင် အသံထွက်၍ ဖတ်၏။ ထို့နောက် အစေတော် ယင်အဲ ဘက်သို့လှည့်က

"ဘာဖြစ်လို့ ဒီနားလာရပ်ပြီး ပါးစပ်ကြီးအဟောင်းသား ကြည့်နေရတာလဲဟင်။ လက်ဖက်ရည်ငှဲ့ပေးပါလို့ပြောနေတာ မကြားဘူးလား"

ယင်အဲသည် တခစ်ခစ်ရယ်လိုက်လျက်

"အဲဒီစာနှစ်ကြောင်းက သခင်မလေးရဲ့ ဘယက်သီးပေါ်မှာ ရေးထားတဲ့ စာတန်းနှစ်တန်းနဲ့ အတူတူပဲနော်" ဟု ပြော၏။

"ဒီကောင်မ အလကားလျှောက်ပြောနေတာ။ အဟုတ်တကယ် မနေနဲ့။ ဘာစာမှ မပါပါဘူး"

"ကျွန်တော့် ကျောက်စိမ်းတုံးကိုတော့ ကျွန်တော်ပြတယ်နော် မလေး" ဟု နွဲ့ဆိုးဆိုးသည့်အသံဖြင့် ပြောလေ၏။

"မသိပါဘူးမောင်လေးရယ်။ သူ့ ဘာသာသူ နဂိုကတည်းက ပါလာတာပါ။ ဒါ့ကြောင့် ဒီဘယက်သီးကို ဝတ်ထားတာပေါ့။ နို့မဟုတ်ရင် ဒီလောက်ပုံမလှတဲ့ ဘယက်သီးကြီးကို ဘာဖြစ်လို့ ဝတ်ပါ့မလဲ" ဟု ဆိုကာ ပေါက်ကြည်သည် အနီရောင်အင်္ကျီကို အပေါ်ကြယ်သီးဖြုတ်ပြီး ပုလဲများ၊ ကျောက်မျက်ရတနာများ စီခြယ်ထားသည့် ရွှေဘယက်





ထုတ်ပြ၏။ ပေါက်ယုက ဘယက်ကို ကြည့်လိုက်သည့် အခါတွင် မျှရာပဲသေးသေးရှစ်လုံးဖြင့် ရေးထားသည့် စာတန်းနှစ်ကြောင်းကို မျက်စလုံးတွင် တွေ့ရလေ၏။

မပျောက်မပျောက်လေနှင့် ထာဝရနုပျိုခြင်း





ပေါက်ယုသည် ထိုစာတန်းကို နှစ်ကြိမ် ဖတ်ပြီးလျှင် မိမိ ကျောက်စိမ်းတုံးတွင်ပါသည့် စာတန်းကိုလည်း နှစ်ကြိမ်ဖတ်၏။

"မလေးရဲ့ ဘယက်သီးပေါ်မှာ ရှိတဲ့ စာတန်းနဲ့ ကျွန်တော့် ကျောက်ပေါ်မှာရှိတဲ့ စာတန်းက အတူတူပဲနော်၊ တော်တော်တူးဆန်း တာပဲ" ဟု ရယ်၍ပြော၏။

"အဲဒီစာတန်းကို ခေါင်းမှာ ဒက်တွေနဲ့ ကိုရင်ကြီးတစ်ပါးက ပေးခဲ့တာ သခင်လေးရဲ့။ အဲဒီစာတန်းကို ရွှေထည်တစ်ခုခုပေါ်မှာ ထိုး ထားလို့လဲ မှာသွားတယ်" ဟု ယင်အဲက ပြောလေ၏။

ထိုသို့ပြောနေစဉ် ပေါက်ကြည်က စကားဆုံးအောင်မစောင့်ဘဲ လက်ဖက်ရည်မငှဲ့ရသေးသည့်အတွက် လက်ဖက်ရည်ငှဲ့ရန် ခိုင်းလိုက်၏။ ထို့နောက် ဘယ်ကလာသနည်းဟု ပေါက်ယုကိုမေး၏။ ထိုအချိန်၌ ၎င်းတို့

နှစ်ယောက်မှာ တစ်ယောက်နှင့်တစ်ယောက် မျှားစွာနီးကပ်လျက် ရှိ
ရာ ပေါက်ကြည်ကိုယ်မှ အမျိုးအမည် မခွဲခြားနိုင်သော
ကြိုင်သည့် အနံ့တစ်မျိုးသင်းပျံ့လျက် ရှိသည်ကို သတိထားမိ၏။

"မလေး၊ ဘယ်လိုအမွှေးနံ့သာရည်ကို သုံးသလဲ။
မွှေးကြိုင်ပါ့ကလား။ ကျွန်တော်ဖြင့် ဒီလိုရေမွှေးမျိုး တစ်ခါမှ
ဖူးဘူး"

"မလေးက ရေမွှေးတွေဘာတွေကို သိပ်မသုံးပါဘူး၊
ရယ်။ အဲဒီရေမွှေးတွေနဲ့ အဝတ်အစားတွေကို ဝတ်ယင် ပီးနိုး
တယ်လို့ ထင်လွန်းလို့"

"ဒါဖြင့် မလေး ခုဆွတ်ထားတဲ့ရေမွှေးကကော ဘာရေမွှေး

ပေါက်ကြည်သည် အတန်ကြာစဉ်းစားနေပြီးနောက်

"ဩော် သတိရပြီ၊ ဒီနေ့မနက်ခသောက်ခဲ့တဲ့ ဆေးလုံးက
ထင်တယ်"

"ဘာဆေးလုံးမို့လို့မျှား ဒီလောက်မွှေးနေရတာလဲ
ရယ်။ ကျွန်တော့်ကိုလဲ တစ်လုံးလောက် ပေးကြည့်ပါလား။
စားကြည့်ရအောင်"

ပေါက်ကြည်က ရယ်လိုက်လျက်

"မဟုတ်တာ၊ ဆေးလုံးစမ်းပြီး စားကြည့်ရမယ်လို့ပဲ"

ထိုအခိုက်တွင် အစေတော်တစ်ယောက် ရောက်လာကာ
မလေးထိုက်ယု ရောက်လာကြောင်းဖြင့် ပြောဆိုပြီး မရှေးမနှော
ပင် ထိုက်ယုသည် ခန်းဆောင်ထဲသို့ ဝင်လာ၏။

ပေါက်ယုကို မြင်လိုက်သည့်အခါတွင် ထိုက်ယုသည်
သင့်သွားဟန်ဖြင့်

"ဟောတော့။ လာတာမှားပြီထင်တယ်"





ပေါက်ယုက ထိုင်ရာမှထကာ နေရာပေးလိုက်ပြီး ပေါက်ကြည်
ကမူ ခပ်မြူးမြူးအသံကလေးဖြင့်

"ဘာဖြစ်လို့လဲ ထိုက်ယုရဲ့"

"ပေါက်ယုမရှိဘူး ထင်လို့ပေါ့။ ရှိမယ်ထင်ယင် ဘယ်လာပါ့
မလဲ"

"ဟောတော့။ ပိုတောင်ဆိုးသွားပြီ။ ဘာဖြစ်လို့မလာရမှာလဲ"

ထိုက်ယုက ခပ်မဲ့မဲ့ ပြောင်သလို နောက်သလိုဖြင့်

"လာတော့လဲ တစ်ပြုံကြီးလာ။ မလာတော့လဲ တစ်ယောက်မှ
မလာလို့။ ဘယ်ကောင်းပါ့မလဲ။ တကယ်လို့ ပေါက်ယုက ဒီနေ့လာ
ပြီး ထိုက်ယုက မနက်ဖြန်မှလာယင် ပိုမကောင်းဘူးလား။ ရက်ခြား
လာတဲ့အခါကျတော့ နေ့တိုင်းညီသည်ရှိပြီး အဖော်ရတာပေါ့။
တစ်ယောက်တည်း မပျင်းတော့ဘူးပေါ့။ ဘယ်လိုမျှား အဓိပ္ပာယ်
ကောက်နေလို့တုံး"

ထိုက်ယုသည် ရှေ့တွင် ကြယ်သီးအပြည့်တပ်ထားသည့် ကြက်
သွေးရောင် ဝတ်ရုံရှည်ကို ဝတ်ထား၏။

"အပြင်မှာ နှင်းတော်တော်ကျနေသလား"ဟု ပေါက်ယုက
မေး၏။

"မိုးသီးတွေကျနေတယ်"ဟု အစေတော်များက ဖြေ၏။

"ဒီလိုဆိုယင် ငါ့ဝတ်ရုံကောစ"

"ကဲ။ မပြောဘူးလား။ ထိုက်ယုလာယင် သူပြန်တော့မှာလို့"
ဟု ထိုက်ယုက ပြော၏။

အထိန်းတော်လီက

"အပြင်မှာ နှင်းလဲကျနေတယ်။ မှောင်လဲ မှောင်နေတယ်။
ဒီတော့ သခင်လေး ဒီမှာပဲ မလေးတို့နဲ့ အေးအေးဆေးဆေးနေဦး။
ဟိုဘက်ခန်းဆောင်မှာ ဒေါ်လေးဆွေ့က သခင်လေးတို့ဖို့ စား

စရာ သောက်စရာတွေ ပြင်နေတယ်။ သခင်လေးရဲ့ဝတ်ရုံကိုယူဖို့ အေး တော်ကို လွှတ်လိုက်မယ်။ သူငယ်တော်တွေကိုလဲ မစောင့်ဘဲပြန်ဖို့ ပြော လိုက်မယ်''

ပေါက်ယု သဘောတူသဖြင့် အထိန်းတော်သည် အပြင်သို့ထွက် သွားကာ သူငယ်တော်များအား ပြန်နှင့်ရန် ပြောလိုက်၏။

ထိုအချိန်၌ကား ဒေါ်လေးဆွေ့သည် သူတို့စားသောက်ရန် လက်ဖက်ရည်နှင့် စားဖွယ်သောက်ဖွယ်တို့ကို ပြင်ဆင်ပြီးလေပြီ။ လွန် သည့် နှစ်ရက်ခန့်က မမယုက ကျွေးမွေးလိုက်သည့် ငန်းခြေထောက်နှင့် ဘဲလျှာများအကြောင်းကို ပေါက်ယုက ပြောသည့်အခါတွင် ဒေါ်လေး ဆွေ့ကလည်း အရက်ဖြင့်စိမ်ထားသည့် ငန်းခြေထောက်နှင့် ဘဲလျှာ ကို ထုတ်၍ကျွေး၏။

''ဝိုင်အရက်ချိုကလေးနဲ့များ မြည်းလိုက်ရယင် သိပ်ကောင်းမှာပဲ ဒေါ်လေးဆွေ့ရာ''ဟု ပေါက်ယုက ပွဲ့း၍ပြောလိုက်၏။

ဒေါ်လေးဆွေ့သည် အိမ်တွင်ရှိသည့် အကောင်းဆုံးအရက်ချို ကို အယူခိုင်းလိုက်၏။

''မမဆွေ့ရေ၊ သူ့ကို ဝိုင်အရက်ချို မတိုက်နဲ့''ဟု အထိန်းတော် လီက ပြောသည်။

''တစ်ခွက်တည်းပါ အထိန်းတော်ကြီးရယ်။ ဘုရားစူးစေ့ တစ် ခွက်တည်းပါ''ဟု ပေါက်ယုက ပြောလေ၏။

''တစ်ခွက်လဲ မလုပ်နဲ့၊ တစ်ဖလားလဲ မလုပ်နဲ့။ မယ်မယ်ရဲ့ သခင်မ ဝမ်တို့ ပါလာယင် သခင်လေး ဘာသာ တစ်အိုးလုံး ကုန်အောင် သောက်သောက်၊ အရေးမကြီးဘူး။ ဒါပေမယ့် ကျွန်မကွယ်ရာမှာ ရှ နောက်တစ်ယောက်က သူ့ကို အရက်ချိုလေးတစ်ခွက် တိုက်လိုက်ပြီး ကျွန်မမှာ အဆူခံလိုက်ရတာ။ သချင်စော်ကို နံသွားတာပဲ။ ဒီတစ်ခါ တော့ ကျွန်မ အဆူမခံနိုင်ဘူး။ မမဆွေ့ရေ၊ ပေါက်ယုအကြောင်း မသိ သေးလို့။ သိပ်ဆိုးတာ။ အရက်ကလေး နည်းနည်း ထွလာပြီ





ယင် သောင်းကျန်း လာတော့တာပဲ။ မယ်မယ်စိတ်ရတဲ့နေ့ဆိုယင် သောက်ခွင့်ပြုပါတယ်။ စိတ်မရလို့ကတော့ အနားတောင် မကပ်ရဘူး။ ရဲ့ တစ်ခုခုဖြစ်လာယင် ကျွန်မခေါင်းပေါ် ကျတော့တာပဲ''

ဒေါ်လေးဆွေ့က ရယ်လိုက်လျက်

''ဒီလောက်လဲ စိုးရိမ်မနေပါနဲ့ လီရယ်။ သွားသွား အထိန်း တော်ကြီးလဲ နည်းနည်းပါးပါး အရက်ချိုကလေးဘာလေး သောက် ချည်။ သိပ်မသောက်အောင် မမဆွေ့ ကြည့်ထိန်းပါ့မယ်။ မယ်မယ်ဆူ ယင်လဲ မမဆွေ့ တာဝန်ယူမှာပေါ့''ဟု ဆိုကာ ဒေါ်လေးဆွေ့သည် အစေတော်များဘက်သို့ လှမ်း၍''ဟဲ့ ကောင်မတွေ။ အထိန်းတော်ကြီး ကို အရက်ချိုကလေးများ နည်းနည်းပါးပါး တိုက်လိုက်ပါ။ ဒါမှ အချမ်းပြေမှာပေါ့''ဟု ခိုင်းလိုက်လေရာ အထိန်းတော်ကြီး လီနှင့်တကွ အစေတော်များသည် အခြား အစေတော်များနှင့်အတူ အရက်ချို သောက်ရန် ထွက်သွားကြ၏။

သူတို့ထွက်သွားသည့် အခါတွင် ပေါက်ယုက

''နွေးမနေပါနဲ့တော့ ဒေါ်လေးဆွေ့၊ ကျွန်တော်က အေးအေး ပဲ သောက်ချင်တာ''

''ဟဲ့ အရက်ချိုကို အအေးသောက်တာ မကောင်းဘူးကွယ့်။ နည်းနည်း နွေးပြီး သောက်ရတယ်။ နို့မို့ယင် စာရေးယင် လက်တုန် တတ်တယ်''

ပေါက်ကြည်က ပြောင်သလို နောက်သလိုဖြင့်

''မောင်လေးကလဲ ပညာတွေ နေ့စဉ် သင်နေပြီးတော့ ဒါလေး မှ မသိဘူးလား။ ဘာဖြစ်လို့ အရက်ချိုကို နွေးပြီး သောက်ရသလဲ သိရဲ့ လား။ ပူပူသောက်လိုက်ယင် အရက်ငွေ့တွေဟာ မြန်မြန်ပျောက်သွား တယ် မောင်လေးရဲ့။ အအေးသောက်ယင် အငွေ့ဆ ကိုယ်ထဲမှာ ကြာ ရှည်အောင်းနေပြီး ကိုယ့်ကိုယ်တွင်းက အပူကို သူက စုပ်ယူသွားတယ်။ ဒါ မကောင်းဘူး။ ဒါကြောင့် နောက်ကို သောက်ယင် အရက်ချို အအေးကို မသောက်နဲ့။ နွေးပြီးသောက်''

သူတို့ပြောသည်မှာ ယုတ္တိရှိသည့်အတွက် ပေါက်ယုသည် သောက်မည့်ဆဲဆဲ အရက်ချိုခွက်ကို ချလိုက်ပြီးအနွေးခိုင်းလေ၏။ ထိုက်ယုမှာ ကွာစေ့ဝါးရင်း ပြုံးရွှန်းထောင်လျက် ရှိ၏။ ထိုအခိုက်တွင် ထိုက်ယု၏ အစေတော် စွဲ့ယင်သည် မီးကင်ရန်အတွက် လက်ဆွဲမီးဖိုတလေးကို ယူလာ၏။

"ညည်းကို ဘယ်သူကယူခိုင်းလို့လဲ။ မလိုချင်ပါဘူး။ ပြန်ယူသွားပါ။ ဒီမှာ အအေးမိပြီးသေတော့မယ်များ ထင်နေကြသလား မသိဘူး"

"သခင်မလေး အေးနေလိမ့်မယ်။ ယူသွားပါလို့ ဇူချွန်ကပေးခိုင်းလိုက်လို့ပါ"

ထိုက်ယုသည် လက်ဆွဲမီးဖိုတလေးကို လှမ်းယူလိုက်လျက်

"ဩော်၊ ညည်းက သူခိုင်းတာတော့လုပ်ပြီး ထိုက်ယုပြောတာကျတော့ ဒီဘက်နားက နားထောင်ပြီး ဟိုဘက်နားက ပြန်ထုတ်ပစ်သပေါ့။ ဟုတ်မှာပါ။ ညည်းကတော့ သူပြောတာဆိုယင် နန်းတော်ကြီးက အမိန့်တော်ပြန်တမ်းကို နာခံတာထက်တောင် ပိုသေးတယ်။ နာခံတာမှ ပျော်ယာကိုဝတ်လို့"

ထိုစကားများသည် မိမိကို စောင်းမြောင်းပြောလိုက်သည့်စကားများ ဖြစ်ကြောင်း ပေါက်ယုသိသော်လည်း မည်သို့မျှမပြောဘဲ ရယ်နေ၏။ ထိုက်ယုမှာ ဤသို့ မနာလိုဝန်တို ဖြစ်တတ်ကြောင်းကို သိသည့်အတွက် ပေါက်ကြည်ကလည်း မသိယောင်ပြုနေ၏။ ဒေါ်လေးဆွေ့က မူ မရိပ်မိဘဲ

"တူမလေးက နုနုနယ်နယ်ဆိုတော့ အေးတာကိုမခံနိုင်ဘူးမဟုတ်လား။ စိုးရိမ်လို့လာပေးတာပဲကွယ်။ စိတ်မဆိုးပါနဲ့"

"မဟုတ်ဘူး ဒေါ်လေးဆွေ့ရဲ့။ ဒေါ်လေးဆွေ့က သူတို့အကြောင်းကို မသိလို့။ ဒီလောက်မှ သူတို့နားမလည်တော့ဘူးလား။ ဒီမှာမို့လို့ ဘာမှကိစ္စမရှိဘူးပေါ့။ တခြားအိမ်မှာသာဆိုယင် အိမ်ရှင်ကို စော်ကားသလိုဖြစ်နေမှာပေါ့။ ထိုက်ယုရဲ့အဆောင်ထဲက လက်ဆွဲ





ဖိုကို လာပေးတယ်ဆိုတော့ အိမ်ရှင်မှာ ဒါမျိုးမရှိတော့တဲ့ပုံ ရောက်နေတာပေါ့။ အမှန်က ယူလာတော့ သူတို့က၊ ဘေးကမြင်ယင် သူတို့ လိုက်တာနီးဆိုးမသိတာကို မြင်မှာမဟုတ်ဘူး။ ထိုက်ယုကိုသာ အဖြစ်ညည်းလိုက်တာလို့ အောက်မေ့ကြမှာ"

"တူမလေးက သိပ်ပြီး အစိုးရိမ်လွန်တာကိုးကွယ့်။ ဒေါ်လေးဆွေ့တို့ကတော့ ဒီလိုမထင်တတ်ပါဘူးကွယ်"

အခုအချိန်၌ ပေါက်ယုမှာ အရက်ချို သုံးခွက်ကုန်သွားလေပြီ။ အထိန်းတော် လီသည် ရောက်လာကာ နောက်ထပ် သောက်ခြင်းမပြုရန် ပြောဆိုပြန်၏။ သို့ရာတွင် ပေါက်ယုမှာ သူ့အစ်မဝမ်းကွဲများနှင့် ရယ်လားမောလားနှင့် ပျော်လျက်ရှိလေပြီ။ ထို့ကြောင့် ဆက်သောက်မည် တကဲကဲဖြစ်နေ၏။ "အထိန်းတော်ကြီးရယ်။ နောက်ထပ်နှစ်ခွက်တည်းပါဗျာ၊ နော်။ နောက်ထပ် နှစ်ခွက်တည်းပါ" ဟု တောင်းပန်လျက်ရှိလေ၏။

"ကြည့်လဲ သောက်နော်။ ဒီနေ့စံအိမ်မှာ သခင်ကြီးကျီချိန်လဲရှိတယ်။ ဘယ်မှ မသွားဘူး။ စာခေါ်မေးနေလို့ အရက်နံ့နံယင် ဟုတ်ပေ့ရှိနေမယ်"

ထိုအခါ ပေါက်ယုသည် အနည်းငယ်စိတ်ညစ်သွားကာ အရက်ခွက်ကို ပြန်ချလိုက်ပြီး ခေါင်းငုံ့လျက်ရှိ၏။

"အမယ်လေး။ ပျော်ပျော်ပါးပါး နေစမ်းပါ။ ဦးကြီးကျီချိန်အခေါ်လွှတ်လိုက်ယင် ဒေါ်လေးဆွေ့က တားထားလို့လို့ ပြောလိုက်မှာပေါ့။ ပေါက်ယုရဲ့ အထိန်းတော်ကြီးကလဲ အရက်ကလေးမူးမူးရှိလို့ ပြောနေတာပါ"ဟုဆိုကာ ပေါက်ယုကို တို့လိုက်ပြီးနေခက်အနီးသို့ကပ်ကာ ခပ်တိုးတိုးဖြင့် "အထိန်းတော် အဘွားကြီးပြောတာ ဂရုစိုက်မနေစမ်းပါနဲ့။ ထိုက်ယုတို့ဘာသာ အေးအေးဆေးဆေး ပျော်ပျော်ပါးပါး နေကြရအောင်ပါ"ဟု ပြောလေ၏။

"သခင်မလေး ထိုက်ယု၊ သူ့ကိုမြှောက်ပေးမနေနဲ့နော်။ သခင်မလေး ထိုက်ယုပြောယင် သူက အဟုတ်သောက်မှာ"

ထိုက်ယုက စိတ်ဆိုးသွားဟန်ဖြင့်

"ထိုက်ယုက သူ့ကို ဘာဖြစ်လို့ မြှောက်ပေးရမှာလဲ၊ သူ့ကို ထိုက်ယုက ဘာ သညာပေးစရာရှိသလဲ။ အထိန်းတော်ကြီး စကားပြော ယင် ကြည့်ပြောနော်။ တစ်ခါတလေမှာ မယ်မယ် ကိုယ်တိုင်က နေတာပဲ။ ဒီကျမှ ဒေါ်လေးကိုက်တော့ မသောက်ဘူးဆိုယင် ကောင်းမလဲ။ အထိန်းတော်ကြီး ပြောချင်တာက ဒေါ်လေးဆွေ့ သူစိမ်း၊ အိမ်မှာနေသလို မနေနဲ့ မစားနဲ့လို့ ပြောချင်လို့လား"

နောက်ဆုံးတွင် အထိန်းတော်ကြီးသည် စိတ်ပျက်လက်ပျက် သည့်တိုင် ခပ်မြူးမြူးဖြင့်

"သခင်မလေး ပြောလိုက်မှဖြင့် ပြတ်ပါပေတယ်ရှင်၊ ဓား ထက်တောင် ပြတ်ပါပေတယ်။ ကျုပ်တော့သေသာသေလိုက်ချင်တယ်"

ပေါက်ကြည်မှာလည်း ထိုက်ယု၏စကားကို ကြားသည့် အခါ မပြုံးဘဲ မနေနိုင်တော့ချေ။ ပေါက်ကြည်သည် ပေါက်ယု၏ပါးကို လိုက်ပြီးနောက်

"ထိုက်ယုက တဈာယ်စကားတတ်တာပဲနော်။ တစ်ဖက်သား စိတ်ဆိုးရအခက်၊ ရယ်ရအခက်နဲ့"

ဒေါ်လေးဆွေ့က

"ကဲပါကွယ်၊ ဒီလောက် စိုးရိမ်မနေပါနဲ့။ ဒေါ်လေးဆွေ့ အနေနဲ့ကတော့ အထူးမပြောလိုပါဘူး။ အစားအသောက် ဒီလောက် စားယင် အစာမကြေရင်ကယ် ဖြစ်နေပါ့မယ်။ ဒီတော့ ထိုက်ယု သလောက်သာသောက်ပါ။ ဒေါ်လေးဆွေ့ တာဝန်ယူပါတယ်။ လိုပဲဖြစ်ဖြစ် ညလွှယ်စာစားပြီးမှ ပြန်ရမယ်။ သိပ်မူး သွား ယင် ဒေါ်လေးဆွေ့တို့ဆီမှာပဲ အိပ်ပေါ့"ဟုဆိုကာ နောက်ထပ် အရက် များကိုငှဲ့ပေးရန်ခိုင်းလိုက်ပြီးနောက် "ဒေါ်လေးလဲ နည်းနည်းသော ပါ့မယ်၊ ပြီးတော့ ထမင်းစားကြတာပေါ့"ဟု ပြော၏။

ထိုစကားကို ကြားလိုက်သည့်အခါတွင် ပေါက်ယုမှာအားတက် သွားလေသည်။





ပေါက်ယု၏ အထိန်းတော်ကြီးက

"ဟဲ့ကောင်မတွေ။ သခင်လေးကို ကြည့်ထားကြစမ်း။ ငါအိမ် ပြန်ပြီး အဝတ်အစား လဲလိုက်ဦးမယ်။ ပြီးတော့မှ ပြန်လာခဲ့မယ်"ဟု ပြောပြီးလျှင် "မမဆွေ့ရေ၊ သူ့ကို လွှတ်လဲမထားနဲ့။ သိပ်လဲမသောက် ပေ့စေနဲ့နော်"ဟု ပြော၏။

အထိန်းတော်ကြီး ပြန်သွားသည့်အခါ၌ ရေသာခိုတတ်သည့် အစေတော် သုံးလေးဦးသည်လည်း အနေချောင်ပြီဟုတွက်ကာ သူတို့ ဘာသာ လွတ်လပ်စွာနေကြရန် အသာရှောင်ထွက်လာခဲ့ကြ၏။ ပေါက် ယုက အနားတွင် လက်တိုလက်တောင်းခိုင်းစရာဆို၍ အစေတော် နှစ် ယောက်သာ ကျန်ခဲ့၏။ သို့ရာတွင် ဒေါ်လေးဆွေ့သည် ပေါက်ယုကို နောက်ချည်တစ်ခါ၊ ချော့ချည်တစ်လှည့်ဖြင့် အရက်ချို များများ မသောက်မိအောင် လုပ်ပြီးနောက် အရက်အိုးများကို မသိမသာ အသိမ်းခိုင်းလိုက်၏။ ထို့နောက် ပေါက်ယုသည် မျှစ်ချဉ်နှင့်ဘဲရေပြား ကို ပြုတ်ထားသည့် ဟင်းချိုနှစ်ပန်းကန်၊ ဆန်ပြုတ် တစ်ပန်းကန်ဝက်ကို သောက်၏။ ထိုအချိန်၌ ပေါက်ကြည်နှင့် ထိုက်ယုတို့မှာလည်း စား သောက်ပြီးကြ၍ လက်ဖက်ရည်ကျကျကို သောက်လျက် ရှိကြလေရာ ထိုအခါကျမှပင် ဒေါ်လေးဆွေ့မှာလည်း သက်ပြင်းချနိုင်ပေ၏။

ထိုအချိန်၌ ဇွေ့ယင်နှင့်အခြားအစေတော်သုံးယောက်တို့သည်လည်း ဝီးဖိုထဲတွင် စားသောက်ပြီးသဖြင့် ပြန်လာခဲ့ကြလေပြီ။ ထိုက်ယုက ပေါက်ယုအား

"ဘယ့်နှယ်လဲ၊ ပြန်ချင်ပြီလား"

ပေါက်ယုမှာ မျက်ခွံတွေလေးလျက် ရှိလေပြီ။ ပေါက်ယုသည် ရီဝေသောအကြည့်ဖြင့် ထိုက်ယုကို လှမ်းကြည့်လိုက်ပြီးနောက်

"မလေးပြန်ယင် ပြန်မှာပေါ့"

ထိုက်ယုက ထိုင်ရာမှထလိုက်ကာ

"ထိုက်ယုတို့ ဒီကိုရောက်နေတာ တစ်နေကုန်ပဲ။ ခုလောက်ဆို ပြန်ကြမှပဲ။ တော်တော်ကြာ ဘယ်သွားမှန်းမသိလို့ စိတ်ပူနေလိမ့်မယ်"

ပြန်ခါနီးတွင် အစေတော်များသည် ဝတ်ရုံများကိုယူလာကြ၏။ အစေတော်တစ်ယောက်က ဝတ်ရုံကိုစွပ်ပေးနိုင်ရန် ပေါက်ယု သည် ခေါင်းကို ငုံ့ပေးလိုက်လေ၏။ အစေတော်သည် ကြွက်သွေးရောင် ခေါင်းဆောင်းကို ထုတ်ကာ ခေါလိုက်ပြီး ပေါက်ယုခေါင်းကို စွပ်ပေးလေ၏။

ပေါက်ယုက လက်ကာလိုက်ပြီး

"ဖြည်းဖြည်းလုပ်ပါ။ သိပ်ကြမ်းတာပဲ။ ခေါင်းစွပ်ဆောင်းတာကို မမြင်ဖူးဘူးလားဟင်၊ ပေး ငါ့ဘာသာငါ စွပ်မယ်"

ထိုက်ယုက ခုတင်မီးဖိုပေါ်တွင် ရပ်နေရာမှ

"ဘယ်လိုဖြစ်နေကြတာလဲ၊ လာလာ။ ထိုက်ယုလုပ်ပေးမယ်"

ပေါက်ယုသည် ထိုက်ယုဆီသို့ လာခဲ့၏။ ရောက်သည့်အခါတွင် ထိုက်ယုက ဦးရစ်ပေါ်မှနေ၍ လက်ကိုလျှိုကာ ခေါင်းစွပ် အဖျားကို နဖူးစည်းနားတွင် ချည်ပေးလိုက်လေ၏။ ထို့နောက် ကတ္တီပါကြိုးနှစ်စကို သစ်ချသီးအရွယ်ခန့်ဖြစ်အောင် ထုံးပေးပြီး ရှေ့တွင် ချပေးလိုက်၏။

ထိုက်ယုက သူပြင်ဆင်ပေးသည်ကို ကြည့်လိုက်ပြီးလျှင်

"ဒီလိုမှပေါ့၊ ကဲ ကိုယ်တော်လေး၊ အပေါ်ရုံအင်္ကျီကို ဝတ်တော်မူ"

ပေါက်ယုက အပေါ်ရုံအင်္ကျီကိုဝတ်နေစဉ် ဒေါ်လေးဆွေ့က

"ပေါက်ယုခေါ်လာတဲ့ အထိန်းတော်တွေကလဲ အနားမှာ တစ်ယောက်မှ မရှိကြတော့ပါလား။ ဘယ်ဆီ ဘယ်စခန်းများ ရောက်ကုန်ကြလဲ မသိဘူး"

"ဘာဖြစ်လို့ သူတို့ကိုစောင့်နေတော့မှာလဲ။ ပေါက်ယုတို့ ဘာသာ ပြန်မှာပေါ့။ ပေါက်ယုတို့မှာ အစေတော်တွေပါသားပဲ"

သို့ရာတွင် ဒေါ်လေးဆွေ့က သူတို့ကို စိတ်မချသဖြင့် အသက်မပ်ကြီးကြီး အစေတော်နှစ်ယောက်ကို ထည့်လိုက်၏။ ထိုနောက်တွင် ပေါက်ယုနှင့်ထိုက်ယုတို့သည် အိမ်သည်များကိုနှုတ်ဆက်ကာ မယ်မယ်၏ အဆောင်ဝင်းဘက်သို့ ပြန်လာခဲ့ကြ၏။





မယ်မယ်မှာ ညစာစားသောက်ခြင်း မပြုရသေးချေ။ သို့ရာတွင် ဒေါ်လေးဆွေ့တို့အဆောင်သို့ သွားကြောင်းကို သိရသည့် အခါတွင် ကျေနပ်သွား၏။ ပေါက်ယုအရက်မူးလာသည်ကိုသတိပြုမိလိုက်သဖြင့်သူ့အခန်းဆောင်သို့ပို့စေကာ ထိုနေ့ညတွင် ဘယ်ကိုမျှမထွက်တော့ဘဲ အိပ်ရန်ပြော၏။ မယ်မယ်သည် အိပ်ဖန်စောင့်လှည့်ကျ အစေတော်များအား ပေါက်ယုကို ကောင်းစွာကြည့်ရှုရန် မှာကြားပြီးနောက် ဒေါ်လေးဆွေ့တို့အဆောင်ဘက်သွားရာတွင် အထိန်းတော် မည်သူလိုက်သွားသည်ကို သတိရလိုက်သဖြင့်

"ဟဲ့ ကောင်မတွေ။ အထိန်းတော်ဇာ ဘယ်မှာကျန်ရစ်ခဲ့သလဲ"

အထိန်းတော်လိ အိမ်ပြန်သွားပြီဖြစ်ကြောင်းကို အစေတော်များသည် မပြောရဲကြချေ။

"စောစောတုန်းကတော့ ဒီမှာရှိပါတယ် မယ်မယ်။ ကိစ္စရှိလို့ အပြင်များ ထွက်သွားသလား မပြောတတ်ပါဘူး"

ပေါက်ယုက ခန်းဆောင်ဘက်သို့ ယိုင်တီးယိုင်တိုင်ဖြင့် လျှောက်သွားရာမှနောက်ပြန်လှည့်လိုက်ရင်း "အထိန်းတော်ကြီးလိ တို့မယ်မယ်ဆက်တော့ ဇိမ်ကျကျ နေတတ်သေးတယ်။ ဘာဖြစ်လို့မေးနေရတာလဲ မသိဘူး။ အထိန်းတော်ကြီး လိ မရှိလို့ အဲဒီမှာ ကြာကြာနေလို့ရတာ" ဟုပြောရင်း အိပ်ခန်းဆောင်ထဲသို့ ဝင်သွား၏။

ခန်းဆောင်ထဲသို့ ပေါက်ယုရောက်သည့်အခါ စားပွဲခုံပေါ်တွင် တင်ထားသည့် စုတ်တံနှင့် ဆေးမင်ခဲကိုမြင်မိ၏။ သူ့အစေတော် တစ်ယောက်ဖြစ်သည့် ချင်ဝမ်က ခပ်ပြုံးပြုံးဖြင့်

"သခင်လေးက တော်တယ်နော်။ မနက်တုန်းကတော့ စိတ်လိုလက်ရနဲ့ ကျွန်မကို မင်ခဲသွေးခိုင်းလို့။ ရေးတော့ အက္ခရာလေး သုံးလုံးတည့်ရေးသွားတယ်။ စုတ်တံကိုချပြီး ထွက်သွားလိုက်တာ။ တစ်နေ့လုံး မပေါ်လာတော့ဘူး။ သခင်လေး စာတန်းရေးမယ်ဆိုလို့ ကျွန်မတို့ဖြင့် တစ်နေကုန် စောင့်လိုက်ရတာ။ ကဲ သခင်လေး၊ စာတန်းရေးမယ်ဆို။ ရေးမှာဖြင့်ရေးလေ"

ထိုအခါကျမှ ပေါက်ယုသည် မနက်က စာတန်းရေးရန် ပြော သည်ကို သတိရကာ

"ဘယ်မှာလဲ ငါရေးထားတဲ့ စာတန်းတွေ"

ချင်ဝမ်းက ရယ်လိုက်လျက်

"သခင်လေးကြည့်ရတာ တော်တော် မူးနေပြီထင်တယ်။ မနက် က အိမ်လည် ထွက်မသွားခင် တံခါးမှာ ကပ်ထားလို့ ပြောလို့ တံခါး မှာ ကပ်ထားတယ်လေ။ မမှတ်မိတော့ဘူးလား။ ကျွန်မဖြင့် သူများကို တောင် စိတ်မချလို့ လှေကားတစ်ခုနဲ့ ကိုယ်တိုင်တက်ပြီး ကပ်လိုက်ရ တာ။ အေးလွန်းလို့ ခုထိတောင် လက်တွေ ကျင်နေသေးတယ်"

ပေါက်ယုသည် ပြုံးလိုက်လျက်

"ဟုတ်လား၊ ငါမေ့သွားတယ်ဟာ။ ကဲ နင့်လက်တွေ ထုံကျင် နေယင် နွေးအောင် လုပ်ပေးပါ့မယ်" ဟု ဆိုကာ ပေါက်ယုသည် ချင် ဝမ်း၏ လက်များကို သူ့လက်ထဲတွင် နွေးအောင် ဆုပ်ကိုင်ပေးရင်း တံခါးထုပ်ပေါ်တွင် ရေးထားသည့် စာတန်းများကို မော့်ကြည့်နေပြ ၏။

ထိုအခိုက်တွင် ထိုက်ယုဝင်လာသဖြင့် ပေါက်ယုက

"မလေး၊ ဒီတံခါးထုပ်ပေါ်မှာ ရေးထားတဲ့ အက္ခရာသုံးလုံးမှ ဘယ်ဟာ အလှဆုံးလဲဟင်။ တကယ်ပြောတာပါ။ နောက်တာ မဟုတ် ပါဘူး"

ထိုက်ယုက "အနီရောင် နှောင်တခန်းဆောင်" ဆိုသည့် စာ လုံးများကို ကြည့်နေ၏။

"စာလုံးတွေက လှသားပဲ။ ဒီလိုဆိုတော့လဲ ငါ့မောင်က စာ လုံး ပန်းချီ တော်သားပဲ၊ ဘယ်ဆိုးလို့လဲ။ တစ်နေ့ကျယင် ထိုက်ယုပြ လဲ စာတန်း အရေးခိုင်းဦးမယ်"

"မလေးက ပေါက်ယုကို နောက်တာပေါ့လေ" ဟု ဆိုကာ ပေါက်ယုသည် ချင်ဝမ်းဘက်သို့ လှည့်လိုက်လျက်





"မာလာကော မာလာဘယ်မှာလဲ"

ချင်ဝမ်းကခုတင်မီးဖိုကြီးဘက်သို့မေးငေါ့ပြလိုက်သည်တွင်ကျကျ နန ပြင်ဆင် ဝတ်စားကာ ခုတင်မီးဖိုပေါ်တွင် လှဲနေသည့် မာလာကို မြင်ရလေ၏။

"ခြေသံ ရှိသားပဲ။ ဒါပေမယ့် ငါ မအိပ်ချင်သေးဘူး။ ဒီနေ့ မနက် ဒေါ်လေးဆွေ့တို့အိမ်မှာ တိုဟူးနဲ့လုပ်တဲ့ ပေါက်စီ စားခဲ့ရ တယ်။ ကောင်းလိုက်တာဟာ။ နင်တို့ကြိုက်တတ်မှန်းသိလို့ ညလယ်စာ စားရအောင် ပို့လိုက်စမ်းပါလို့ မမယုကို မှာပစ်ခဲ့တယ်။ ခု ပို့လိုက်ပြီ မဟုတ်လား။ ဘယ့်နှယ်လဲ ရောက်လာပလား"

ချင်ဝမ်းက

"အမယ်လေး။ မေးမနေနဲ့ သခင်လေး။ အမှန်တော့ ဒီပေါက်စီက ကျွန်မဖို့ ပို့လိုက်တာမှန်း ကျွန်မ သိပါတယ်။ ကျွန်မက ရင်ပြည့်နေသေးလို့ မစားနိုင်လို့ ဒီမှာထားပစ်ခဲ့တာ။ ဒီကိုအထိန်း တော် လီ ရောက်လာပြီး ပေါက်စီကိုမြင်တော့ သခင်လေးက ဝနေပြီ တဲ့။ စားမှာ မဟုတ်တော့ဘူးတဲ့၊ ငါ့မြေးလေးဖို့ ယူသွားရမယ်ဆိုပြီး ယူသွားလေရဲ့"

ထိုအခိုက်တွင် အစေတော် တစ်ယောက်ဖြစ်သည့် ချိန်စွေ့သည် လက်ဖက်ရည်ပွဲကို ယူလာသဖြင့် ပေါက်ယုက "မလေးကော လက်ဖက် ရည် သောက်ပါဦးလား" ဟု ထိုက်ယုကို လှမ်းပြော၏။ အစေတော် များသည် ရယ်လိုက်ကြကာ

"သခင်မလေး ထိုက်ယု ပြန်သွားတာဖြင့် ကြာလှပြီရှင့်" ဟု ပြောကြ၏။

ပေါက်ယုသည် လက်ဖက်ရည် တစ်ခွက်လေစက် သောက်ပြီး သည့်အခါတွင် တစ်စုံတစ်ရာကို သတိရသဖြင့်

"ချိန်စွေ့ကလဲ ငါ့ဖို့ ဘာဖြစ်လို့ ဒီလက်ဖက်ရည်ကို ယူလာရတာ လဲ။ မနက်ကကျိုထားတဲ့ စံပယ်မွှေး လက်ဖက်ခြောက် ရှိတယ်မဟုတ် လား။ အဲဒီလက်ဖက်ခြောက်က တစ်ခါကျိုရုံနဲ့ ဘယ်တော့မှ အနံ့မရ

သေးဘူး။ နှစ်ခါသုံးခါလောက်ပြန်ကျိုသောက်မှ အနံ့အရသာကေ တယ်လို့ ငါပြောထားတယ် မဟုတ်လား။ ဘယ်မှာလဲ ဒီစပယ် လက်ဖက်ရည်''

''ဒီလက်ဖက်ရည်ကလဲ ကျိုဖြီးသားမို့လို့ နှမြောတာနဲ့ ယူ တာ သခင်လေး။ အဲဒီလက်ဖက်ရည်ကို ကျွန်မ သိမ်းထားသော သခင်လေး။ ဒါပေမယ့် အထိန်းတော် လီက မြည်းကြည့်စမ်း ဆိုပြီး မြည်းကြည့်လိုက်တာနဲ့ ကုန်သွားပြီ''

ဤသည်ကမူ လွန်လွန်းသည်။ ပေါက်ယုသည် မခံနိုင်တော့ လက်ထဲတွင် ကိုင်ထားသည့် လက်ဖက်ရည်ပန်းကန်ကို ကြမ်းပြင် ပေါက်ခွဲလိုက်လေရာ လက်ဖက်ရည်များသည် အစေတော်များကို ကုန်လေ၏။ ပေါက်ယုသည် ထိုင်ရာမှ ဖြုန်းခနဲထလိုက်ပြီး

''နင်တို့ ဘာမျှမပြောဘူးလား။ သူလုပ်တာကို နင်တို့ ဒီအတိုင်းကြည့်နေရအောင် သူက နင်တို့ဘုရားအလား။ ဒီအဘွားကြီး ငယ်ငယ်က နို့သုံးလေးရက်တိုက်ဖူးတာနဲ့ ငါ့ကို သူမွေးထုတ် သားကျနေတာပဲ။ သူလုပ်ချင်ရာ လုပ်နေတယ်။ တော်ပြီ။ ငါ့မှ ဒီအရွယ်မှာ နို့ထိန်း မလိုတော့ဘူး။ ငါက သူ့ကို သခင်မကြီးလို ဖြစ်လို့ ဦးစားပေးနေရမှာလဲ။ မလိုချင်ဘူး။ သူ့ အထုပ်အပိုး ပြန်တော့လို့ ပြောလိုက်''

ပေါက်ယုသည် မယ်မယ့်ထံသွားကာ အထိန်းတော်ကြီး လီ ချက်ချင်း အထုတ်ခိုင်းပစ်ချင်၏။

မာလာမှာ ပေါက်ယုသည် သူ့ထံလာ၍ ကလိလိမ့်မည်အတ ဖြင့် အိပ်ချင်ယောင်ပြုလျက် ရှိလေ၏။ ထို့ကြောင့် တို့ဟူးပေါက် အကြောင်း ပြောသည့်တိုင် ဂရုမစိုက်ဘဲ အိပ်ချင်ယောင်ဆောင်မြဲဆော နေ၏။ သို့ရာတွင် ပေါက်ယုက ပန်းကန်ကိုပေါက်ခွဲကာ ဒေါသတကြီး ဖြစ်သည့်အခါတွင်မူ အိပ်ချင်ယောင်ဆောင်နေ၍ မရတော့ဘဲ ခုတင်ပေါ် ဖိုပေါ်မှ ဆင်းလာကာ ပြေရာပြေကြောင်း ချော့မော့လျက် ရှိ၏။ ထို မယ်မယ့် အဆောင်မှ အစေတော်တစ်ယောက် ရောက်လာကာ အ အကြောင်းကို မေးမြန်း၏။





''အို ဘာမှမဟုတ်ပါဘူး။ လက်ဖက်ရည်ငှဲ့ပေးနေတာ။ နှင်းတွေ ကျထားတော့ ကျွန်မဖိနပ်က ချော်နေတာနဲ့ ချော်လဲပြီး ပန်းကန်ကျ ကွဲသွားတာပါ''

ထိုနောက် မာလာသည် ပေါက်ယုဘက်သို့လှည့်ကာ

''သခင်လေးက အထိန်းတော် လီကို ထုတ်ပစ်ချင်တယ်ဆိုပါ တော့။ ကောင်းပါတယ်။ လုပ်ပါ။ ဒီလိုဆိုယင် ကျွန်မလဲ မနေတော့ ပါဘူး။ သူ့အကြောင်းပြပြီး ကျွန်မတို့ကိုလဲ ထုတ်ပစ်လိုက်ပေါ့ ဟုတ် လား။ အဲဒီတော့မှ အစေတော် အချော့တော်ကောင်းကောင်းရှာပေါ့'' ဟု ပြောလေ၏။

ထိုသို့ပြောလိုက်သည့်အခါတွင် ပေါက်ယုသည် ငြိမ်ကျသွား၏။ ထိုအခါကျမှ အစေတော်များသည် ပေါက်ယုကို ခုတင်မီးဖိုကြီးဆီသို့ တွဲခေါ်လာပြီးလျှင် အဝတ်အစားများကို လဲပေးကြ၏။ ပေါက်ယုမှာ ပါးစပ်မှ တဖျစ်တောက်တောက် ပြောဆိုလျက်ရှိသည့်တိုင် မျက်လုံးကို ကောင်းစွာ မဖွင့်နိုင်တော့သည့်အတွက် အစေတော်များသည် သူ့ကို စက်ခန်းဆောင်သို့ ပို့လိုက်ကြရ၏။ အိပ်ရာပေါ်သို့ရောက်လျှင် မာလာ သည် ပေါက်ယုလည်တွင် ဆွဲထားသည့် အဖိုးတန်ကျောက်စိမ်းတုံးကို ဖြုတ်ယူပြီးနောက် မိမိ၏လက်ကိုင်ပဝါဖြင့် သေချာစွာထုပ်ကာ နောက် တစ်နေ့မနက် လည်တွင်ဆွဲလျှင် အနွေးဓာတ်ရနေစေရန် ပေါက်ယုအိပ် ရာ အောက်သို့ ထိုးထားလိုက်၏။

ပေါက်ယုမှာ အိပ်ရာပေါ်သို့ ခေါင်းချသည်နှင့် အိပ်ပျော်သွား ခဲ့လေပြီ။ ထိုအခိုက်တွင် အထိန်းတော်ကြီးလီ ပြန်ရောက်လာ၏။ ပေါက်ယု မူးလှာကြောင်းကို သိပြီးဖြစ်သည့်အတွက် အထိတ်ထိတ် အလန့်လန့်ဖြင့် လာခဲ့ရရာ အိပ်ပျော်နေသည်ကို မြင်လိုက်သည့်အခါ တွင်မှ စိတ်အေးသွား၏။

နောက်တစ်နေ့မနက် အိပ်ရာမှနိုးသည့်အခါ၌ နိန်စံအိမ်တွင် နေ သည့် ကျိယုန်သည် မယ်မယ့်ကို ဂါရဝါတော့ရန် သူ့ယောက်ဖ ကျင်ချွန်း ကို ခေါ်လာကြောင်း ပေါက်ယု သိရ၏။ ပေါက်ယုသည် ကျင်ချွန်း ကို ထွက်တွေ့ပြီးလျှင် မယ်မယ့်ဆီသို့ ခေါ်သွား၏။ မယ်မယ်မှာ ရုပ်

ရည်ချောမော၍ ယဉ်ကျေးသည့် ကျင်ချွန်းကို တွေ့ရသဖြင့် ဝမ်းသာလျက် ရှိ၏။ မယ်မယ်သည် ကျင်ချွန်းကိုမြင်လျှင် ပေါက်ယုအတွက် ကျောင်းသွားဖော်ကောင်းတစ်ယောက်ဖြစ်သည်ဟု သိလိုက်သည့်အတွက် ကျင်ချွန်းအစား စားဖွယ်သောက်ဖွယ်များနှင့် ညှော်ခံပြီးနောက် သမင်မဝမ်နှင့်တကွ ကျန်အိမ်သားများနှင့် တွေ့ပေးရန် ခိုင်းလိုက်၏။

ယွန်းစံအိမ်မှ မိသားစုများသည် ကျင်ကို့ကို များစွာချစ်ခင်ကြလေရာ ယခု ရောက်လာသည့် ကျင်ကို့၏မောင်ငယ် ကျင်ချွန်းကိုလည်း ချစ်ခင်ကြ၏။ ပြန်သွားသည့် အခါတွင် လက်ဆောင်များလည်း ပေးလိုက်၏။ မယ်မယ်ကမူ ဉာဏ်ပညာနှင့် စိတ်သဘောထားပြည့်ဝခြင်းကို ကိုယ်စားပြုသည့် ရွှေဖြင့်လုပ်သော ဉာဏ်ပညာ နတ်သမီးရုပ်တုပါသည့် သားရေအိတ်ကလေးတစ်လုံးကို လက်ဆောင်ပေးလိုက်လေ၏။

"ငါ့မြေးနေတာက ဝေးလှတယ်။ နွေနွေဆောင်းဆောင်း ငါ့မြေး သွားရလာရတာ ပင်ပန်းမှာပဲ။ ဒီတော့ မယ်မယ်တို့စံအိမ်မှာ နေချင်သပဆိုယင် ငါ့မြေး အချိန်မရွေးလာနေနိုင်တယ်။ ဘာမှ အားနာစရာ မလိုဘူး။ ဟောဒီမှာ ပေါက်ယုနဲ့ အတူတူနေကြ။ အုတ်ကြားမြက်ပေါက်တွေ၊ လူရမ်းကားကလေးတွေနဲ့များ အပေါင်းအသင်း မလုပ်လေ့နဲ့"

ကျင်ချွန်းသည် မယ်မယ့်စကားကို နားထောင်ပြီးနောက် အိမ်သို့ ပြန်လာကာ အကျိုးအကြောင်းကို ပြောပြ၏။ ကျင်ကို့၏အဖေ ကျင်ယော့မှာ လုပ်ငန်းဆိုင်ရာ ဝန်ကြီးဌာနတွင် အတွင်းဝန်ကလေး တစ်ယောက်ဖြစ်ပြီး အသက် ၇၀ ခန့်ရှိလေပြီ။ ငယ်ငယ်ကတည်းက ဇနီးသေခဲ့သဖြင့် မုဆိုးဖိုဘဝဖြင့်ပင် နေထိုင်၏။ သားသမီး မထွန်းကားခဲ့သည့်အတွက် ကျင်ယော့သည် မိဘမဲ့ဂေဟာမှ မိဘမဲ့ မောင်နှမနှစ်ယောက်ကို မွေးစားခဲ့၏။ သို့ရာတွင် မောင်ငယ်မှာ ငယ်စဉ်ကတည်းက သေဆုံးခဲ့သည့်အတွက် အစ်မဖြစ်သူ ကျင်ကို့သာလျှင် ကျန်ရစ်ခဲ့၏။ ကျင်ကို့သည် အရွယ်ရောက်သည့်အခါတွင် ချောမောလှပသည့် ကျက်သရေရှိသည့် မိန်းမပျိုတစ်ယောက် ဖြစ်လာလေ၏။ ကျင်ယော့သည် ကျိချိန်





ပျိုအမျိုးနှင့် ဆွေမျိုးနီးစပ်တော်သည့်အလျောက် သားသမီးချင်း လက်ဆက်ခဲ့ကြသည်တွင် ကျင်ကို့သည် ကျိယုန်နှင့် အကြောင်းပါခဲ့ခြင်း ဖြစ်၏။

ကျင်ချွန်းကို မွေးသည့်အခါတွင် သူ့အဖေသည် အသက် ငါးဆယ်ကျော်လေပြီ။ ကျင်ချွန်း၏ စာပြဆရာမှာ မနှစ်က ကွယ်လွန်သွားခဲ့လေရာ ကျင်ယော့မှာ သားငယ်အတွက် ဆရာရှာလျက် ရှိသော်လည်း မတွေ့သေးချေ။ ထို့ကြောင့် ကျင်ချွန်းမှာ သင်ပြီးသည့် ကျောင်းစာများကို အိမ်တွင် ပြန်လည် သင်အံ၍ နေရ၏။ ကျင်ယော့သည် သားငယ်အတွက် အချိန်အလဟဿ ဖြစ်မည်စိုးသည့်အတွက် ကျိဆွေမျိုးစု၏ ကျောင်းသို့ထားရန် စိတ်ကူးနေစဉ်တွင် ကံအားလျော်စွာ ကျင်ချွန်းနှင့် ပေါက်ယုတို့ ယခုကဲ့သို့ တွေ့ဆုံမိခြင်း ဖြစ်လေ၏။

ကျိဆွေမျိုးစုတို့က တည်ထောင်သည့် ကျောင်းမှာ ကွန်ဖြူစီကျမ်းစာများကို အထူးတတ်ကျွမ်းသူ ပညာရှိကြီးတစ်ဦး ဖြစ်သည့် ကျိတိုက်ယုက အုပ်ချုပ်လျက်ရှိသည်ဟု သိရသည့်အခါတွင် ကျင်ယော့မှာ များစွာဝမ်းသာလျက်ရှိ၏။ ဤသို့သော ဆရာမျိုး၏ အောက်တွင်သာ ပညာသင်ကြားရလျှင်သူ့သားငယ်ကျင်ချွန်းသည် ပညာထူးချွန်ပေါက်မြောက်ရုံမက လူတစ်လုံးသူတစ်လုံး ဖြစ်လာမည်ဟု ယုံကြည်ပြီးသား ဖြစ်ပေ၏။

ကျင်ယော့မှာ ဆင်းရဲနွမ်းပါးသည့် အရာရှိတစ်ယောက် ဖြစ်၏။ သို့ရာတွင် ကျိဆွေမျိုးစုသည် ဂုဏ်အဆင့်အတန်းနှင့် ငွေကို အထင်ကြီးသည့် အမျိုးဖြစ်သည့် အလျောက် သူ့သားငယ် ကျင်ချွန်းမျက်နှာမငယ်စေရန်မှာ ကျောင်းဝင်ကြေး လက်ဆောင်အဖြစ် ငွေစင် နှစ်ဆယ့်လေးကျပ်သားကို ခက်ခက်ခဲခဲရှာရ၏။ ကျင်ယော့သည် သားငယ် ကျင်ချွန်းကို ဆရာကြီး ကျိထိုက်ယုထံ ခေါ်သွားကာ ကျောင်းအပ်၏။ ထို့နောက် ပေါက်ယုနှင့် အတူ ကျောင်းတက်နိုင်ရန် ပေါက်ယုကျောင်းအပ်ပြီးချိန်ကို စောင့်ရလေ၏။

မှုန်ပေ၏။

နေ့ခင်တစ်နေ့တွင် ဒုက္ခတွေ့မည်မှန်းသိလျှင်
မိမိသားငယ်ကို ယနေ့ မည်သူကျောင်းအပ်ပါမည်နည်း။







အခန်း ၉

## သူငယ်ချင်းနှစ်ယောက် ကျောင်းတက်ကြခြင်း။
## ပုတ်ခတ်စွပ်စွဲသဖြင့် အတန်းထဲတွင်
## ရန်ဖြစ်ကြခြင်း။

များမကြာမီ ကျောင်းတက်ရမည့်ရက်ကို ဖော်ပြထားသည့် ကျိုမိသားစုထံမှ အကြောင်းကြားချက်ကို ကျင်ယေ့တို့သားအဖ ရရှိ၏။ ပေါက်ယုမှ၊ သူငယ်ချင်းသစ်ဖြစ်သည့် ကျင်ချွန်းနှင့် ကျောင်းမြန်မြန်တက်ချင်ဖူလေပြီ။ ထို့ကြောင့် နောက်နှစ်ရက်ရှိလျှင် ကျောင်းသွားရန်အတွက် ပြီတိုက်အိမ်သို့ စောစောခလာရန် အစေတော်တစ်ယောက်ကို လွှတ်၍ အမြဲပြောခိုင်းလိုက်၏။

ကျောင်းတက်ရမည့်နေ့သို့ရောက်လျှင် ပေါက်ယု အိပ်ရာမှမနိုးမီ မာလာသည် ပေါက်ယု၏ စာအုပ်များနှင့် စာရေး ကိရိယာများကို အသင့်ပြင်ဆင် ထုပ်ပိုးထားကာ ခုတင် မီးဖိုအစွန်းတွင် စိတ်ပျက်လက်ပျက်ဖြင့် ထိုင်နေ၏။ ပေါက်ယု အိပ်ရာမှ နိုးသည့်အခါတွင် အဝတ်အစားများကို ကူညီလဲပေး၏။ ပေါက်ယုက ငိုင်တိုင်တိုင် ဖြစ်နေသည့် မာလာကို ကြည့်၍

"ဒီနေ့ ဘာဖြစ်လို့ ငိုင်တိုင်တိုင် ဖြစ်နေတာလဲ မာလာ။ ငါ ကျောင်းသွားတက်တော့ နင်တစ်ယောက်တည်း ပျင်းနေမှာစိုးလို့လား"

မာလာက ပြုံး၍

"မဟုတ်ပါဘူး သခင်လေးရယ်။ စာသင်တယ်ဆိုတာ ကောင်းတာပေါ့။ စာမသင်ယင် လောကမှာ သူများ အောက်ကျ နောက်ကျ ဖြစ်ပြီး မကြီးပွားဘဲ နေမှာပေါ့။ ကျောင်းရောက်ယင် စာကို စိတ်လက်ပါသင်နော်။ စိတ်တွေက အပြင်ကိုရောက်ပြီး အိမ်ကလူတွေကို မေ့ ရမနေနဲ့ဦး။ ပြီးတော့ တခြားကျောင်းသားတွေနဲ့လဲ ရန်တွေ ဘာတွေ မဖြစ်နဲ့။ ရန်ဖြစ်လို့ ဆရာကြီးသိသွားယင် မကောင်းဘူး။ လူကြီးတွေ ကတော့ စာကိုချည်းပဲ အပတ်တကုတ်သင်ဖို့ ပြောတော့ပြောကြတာပဲ ဒါပေမယ့် အလွန်အကျွံ မလုပ်ပါနဲ့။ ကိုယ်စားနိုင်တာထက် ပိုမစားနဲ့ ဘူး။ ပိုစားယင် ကျန်းမာရေးထိခိုက်တယ်။ အေးလေ ဒါကတော့ မာလာ့အထင်ပါ။ သခင်လေး စဉ်းစားကြည့်ပေါ့"

ပေါက်ယုက မာလာပြောသည့် စကားများကို လက်ခံ၏။

"သခင်လေးရဲ့ သားမွေးအင်္ကျီကိုလဲ ထုပ်ပြီး သူငယ်တော်တွေ ကိုပေးလိုက်ပြီ။ ကျောင်းမှာချမ်းယင် အင်္ကျီကို ဝတ်နော်။ ဟိုမှာ မာလာတို့ လိုက်ကြည့်နိုင်တာမဟုတ်ဘူး။ လက်ဆွဲမီးဖိုနဲ့ ခြေထောက် ကင် မီးဖိုတွေကိုလဲ မီးသွေး အဆင်သင့်ထည့်ပေးလိုက်ပြီ။ ဟိုရောက်ရင် သူငယ်တော်တွေဘာတွေ မေ့နေယင်လဲ မီးသွေးတို့ဘာတို့ကို ထပ်ပြီး အထည့်ခိုင်း။ သူငယ်တော်တွေက ခပ်ပျင်းပျင်းရယ်။ မခိုင်းယင် ဘာမှ လုပ်မယ့်ကောင်လေးတွေ မဟုတ်ဘူး။ ကိုယ့်သခင်အအေးမိလို့ သေချင် သေ၊ သူတို့ကတော့ မခိုင်းယင် ဒီအတိုင်းနေမှာပဲ"

"ဒီလောက်လဲ ပူမနေစမ်းပါနဲ့ မာလာ့ရယ်။ ဒီလောက်တော့ ငါကိုယ်ငါလဲ ထိန်းတတ်ပါသေးတယ်။ နင်လဲ အားအားရှိယင် ဒီမှာ ငိုင်ငိုင်မနေနဲ့။ မလေးထိုက်ယုနဲ့ သွားပြီး စကားလေးဘာလေး ပြော နေပေါ့"

အဝတ်အစားလဲပြီးသည့်အခါတွင် မယ်မယ်နှင့်မိဘများကို သွား၍ ကန်တော့ရန် မာလာက သတိပေး၏။ ပေါက်ယုသည် သူ၏ အခြေ အစေတော်များဖြစ်သော ချင်ဝမ်းနှင့် ရွှေယွေတို့အား မှာစရာရှိသည် တို့ကို မှာပြီးနောက် မယ်မယ့်ထံသို့ ထွက်လာခဲ့လေရာ မယ်မယ်ကလည်း





သူ့ကို ဆုံးမဩဝါဒပေး၏။ ထို့နောက်တွင် ပေါက်ယုသည် သူ့မိခင် အမေဝမ်နှင့် သူ့ဖခင် သခင်ကြီး ကျိချိန်၏ ပိဋကတ်ဆောင်သို့ လာခဲ့ လေ၏။

ကျိချိန်သည် ထိုနေ့တွင် အိမ်သို့ စောစောပြန်ရောက်လျက်ရှိ၏။ ပေါက်ယုရောက်လာ၍ ကန်တော့ပြီး ကျောင်းတက်သွားတော့မည်ဟု ပြောသည့်အခါတွင် ကျိချိန်သည် တပည့်အချို့နှင့် စကားပြောလျက် ရှိ၏။

သူ့ဖခင် ကျိချိန်က ခပ်လှောင်လှောင်ရယ်လိုက်ရင်း

"အမယ်၊ မင်းက ကျောင်းတွေ ဘာတွေ တက်ဦးမလို့လား။ ကျောင်းတွေဘာတွေ တက်မနေပါနဲ့တော့ကွ။ ငါ့အထင်တော့ မင်း လိုက်ရာသွားပြီး ပေတေနေတာက ကောင်းပါတယ်။ မင်းရှိယင် အိမ် မှာလဲ တယ်ပြီး ဒုက္ခများလှတယ်"

ရင်းနှီးသည့် တပည့်အချို့က

"သခင်ကြီး သူ့အပေါ် ဒီလောက်လဲ စိတ်မပျက်ပါနဲ့လေ။ ကျောင်းရောက်လို့ စာနဲ့ပေနဲ့နေလိုက်ရယင် သခင်လေးလဲ သူ့အစွမ်း အစကို ပြနိုင်ပြီး တော်လာမှာပါ။ သူလဲ ကလေး တစ်ယောက်မှ မဟုတ်တော့တာ။ ထမင်းစားချိန်တောင် နီးနေပြီထင်တယ် သခင်ကြီး၊ သူ့မှာ ကျောင်းသွားရဦးမှာ"

လက်ပါးစေ နှစ်ဦးသည် ပေါက်ယုကို အပြင်သို့ လိုက်ပို့ကြ၏။

ကျိချိန်က ပေါက်ယုအား မည်သူ ကျောင်းလိုက်ပို့မည်နည်းဟု မေးသည့်အခါ၌ အပြင်တွင်စောင့်နေသည့် ကိုယ်လုံးတုတ်တုတ်ခိုင်ခိုင် အစေတော်သုံးလေးယောက်သည် အခန်းဆောင်ထဲသို့ ပြေးဝင်လာကာ ဒူးတစ်ဖက်ထောက်၍ အရိုအသေပြုလေ၏။

ထိုသူမှာ ပေါက်ယုငယ်ငယ်က ထိန်းခဲ့သော နို့ထိန်းကြီး၏ သား လိကွေ့ဖြစ်သည်ကို သိသည့်အခါတွင် သခင်ကြီးကျိချိန်က

"ဟဲ့ ကောင်တွေ။ ပေါက်ယုကို စာသင်ပေးခဲ့တာ ကြာလှပြီ။ နင်တို့ပဲ နောက်ကလိုက်ပြီး ထိန်းနေကြတယ်မဟုတ်လား။ ခု သူတတ် တာ ဘာများရှိလို့လဲ။ သောက်စားမူးယစ်ဖို့ရယ်၊ မဟုတ်တရုတ်လုပ်ဖို့

ရယ်၊ ဒါပဲတတ်ခဲ့တယ် မဟုတ်လား။ ငါ အလုပ်တွေ များနေလို့ ပြီးယင် နင့်ကို အရှင်လိုက် အရေဆုတ်ပစ်မယ်။ ပေါက်ယုကိုလဲ ခပ်စစ်စပ်ကလေး ဆော်ပေးရဦးမယ်''

လီကွေ့သည် ကြောက်ရွံ့တုန်လှုပ်လျက်ရှိကာ ဒူးနှစ်ဖက်ထောက်၍ ထိုင်လိုက်ပြီးလျှင် ခေါင်းမှဦးထုပ်ကို ချွတ်၍ နဖူးကိုကြမ်းနှင့်ထိအောင် ငုံ့နေလေ၏။

''မှန်ပါ၊ လိမ်မပြောရဲပါဘူး သခင်ကြီးဘုရား။ သခင်လေးဟာ မဟာဂါထာကျမ်းထဲက သုံးတွဲလုံး ကုန်အောင်အံပြီးပါပြီ။ ပိန်းကြာဖက်နှင့်၊ ဒိုက်ပျက်ရေညှိ၊ မျောတိတွေတွေ၊ ချေငယ်ကဟောက်စတဲ့ လင်္ကာတွေအထိ ရပါတယ်သခင်ကြီး''

လီကွေ့က စာကို လက်တန်းရွတ်ပြလိုက်သည့်အတွက် တစ်ခန်းလုံး ဝါးခနဲ ရယ်လိုက်ကြလေ၏။ သခင်ကြီးကျိချိန်ကိုယ်တိုင်ပင် မပြုံးဘဲ မနေနိုင်တော့ချေ။

'ဟင်း၊ ကျမ်းသုံးကျမ်းမကလို့ နောက်ထပ် ကျမ်းပေါင်း သုံးဆယ် သင်ပြီးယင်လဲ သင်း မိုက်မြဲမိုက်နေဦးမှာပဲ။ ကျောင်းကိုရောက်ယင် ဆရာကြီးကို ငါက နှုတ်ဆက်တယ်လို့ပြော၊ ပြီးတော့ ကျောင်းမှာ မဟာဂါထာကျမ်းလို စာတွေ၊ ရှေးဟောင်းကျမ်းတွေကို သင်နေတာဟာ အချိန်ကုန်တာပဲလို့။ အကောင်းဆုံးက ကွန်ဖြူးစီရဲ့ ကျမ်းလေးကျမ်းကို အာဂုံဆောင်နိုင်အောင် သင်ပေးယင် အကျိုးရှိမယ်လို့ ငါတယ်လို့ ငါက ပြောတယ်ဆိုတာကို ပြောလိုက်'

သခင်ကြီးကျိချိန်က နောက်ထပ်မည်သို့မျှပြောဆိုခြင်း မပြုသည့်အခါ၌ လီကွေ့က သူပြောသည့်အတိုင်း ပြောပါမည်ဟု အာမခံပြီးနောက် ခန်းဆောင်မှ ပြန်ထွက်လာခဲ့လေ၏။

ထိုအချိန်၌ တလင်းထဲတွင် ပေါက်ယုမှာ တမျှော်မျှော်ဖြစ်နေပြီ။ အဆောင်ထဲမှ အစေတော်များထွက်လာကြသည်ကို မြင်သည်တွင် သူတို့ဆီသို့ ခပ်သုတ်သုတ် လျှောက်လာခဲ့လေ၏။

လီကွေ့နှင့် လက်ပါးစေများသည် အင်္ကျီတွင် ပေနေသည့် ဖုန်များကို ခါရင်း





'ပြောတာ ကြားတယ်မဟုတ်လား သခင်လေး။ ကျွန်တော်တို့ ကိုတော့င် အရှင်လိုက် အရေဆုတ်ပစ်မယ်လို့ ကြိမ်းလွှတ်လိုက်တယ်ဗျ။ ပြီးကျွန်တော့မှာဖြင့် သခင်ကောင်းယင် နာမည်ရတယ်။ ကျွန်တော်တို့မှာတော့ဖြင့် အဆဲအရိုက်ခံလိုက်ရတာ၊ တယ်ကောင်း။ ကျွန်တော်တို့ကိုလဲ သနားတော်မူပါဦးဗျာ'

ပေါက်ယုက ပြုံးလိုက်၍

'ဒီလောက်လဲ သွေးမကြောင်ကြစမ်းပါနဲ့ဗျာ။ မနက်ဖြန်ကျယင် မင်းတို့ကို ကျွန်တော် ထမင်းကျွေးပါ့မယ်'

'အမယ်လေး၊ သခင်လေးကျွေးတဲ့ထမင်းကို မစားရယင် နေပါဗျာ။ ခုတလောမှာတော့ သနားသောအားဖြင့် ငြိမ် ငြိမ် ကလေး နေလိုက်စမ်းပါ'

ထိုသို့ပြောရင်းဆိုရင်းဖြင့် သူတို့သည် မယ်မယ်၏အဆောင်များအထိသို့ ရောက်ခဲ့ကြ၏။ မယ်မယ်မှာ ခပ်စောစောရောက်နေသည့် ကျစ်ချွန်းနှင့် စကားပြောလျက်ရှိ၏။ သူငယ် နှစ်ယောက်တို့သည် မယ်မယ်ကို နှုတ်ဆက်ပြီးနောက် ကျောင်းသို့ထွက်လာခဲ့ကြ၏။

ပေါက်ယုသည် ထိုက်ယုအား နှုတ်ဆက်ခြင်းမပြုရသေးသည်ကို သတိရလာသည့်အတွက် ထိုက်ယု၏ အဆောင်ထဲသို့ ဝင်လာခဲ့လေ၏။ ထိုက်ယုသည် လေသာပြတင်းအနီးရှိ ကြေးမုံကြီးတစ်ချပ်ရှေ့တွင် ထိုင်လျက်ရှိပြီး ပေါက်ယုက ကျောင်းတက်သွားတော့မည်ဟု ပြောသောအခါတွင် ပြုံးလျက်ရှိလေ၏။

'မောင်လေး ကျောင်းတက် သွားတယ်ဆိုယင် ကောင်းပါ့လေရှင်။ ငွေစန္ဒာယုန်နန်းက သင်းပျံ့တဲ့ ပန်းသဇင်ကို ခူးဆွတ်တော့မယ် ဆိုပါတော့'

'ကျွန်တော် ပြန်မလာမချင်း ညစာမစားနဲ့ဦးနော် မလေး။ ပြီးတော့ မလေးဆိုးတဲ့ ဒန်းနီကိုလဲ ကျွန်တော်စပ်ပေးမယ်'

စကား အနည်းငယ် ပြောဆိုပြီးနောက် ထွက်သွား၏။ အထွက်တွင် ထိုက်ယုက လှမ်း၍

"ပေါက်ကြည့်ကိုကော သွားပြီး နှုတ်မဆက်တော့ဘဲကိုး" ပြောသည်တွင် ပေါက်ယုလည်း မည်သို့မျှမပြောတော့ဘဲ ကျင်ချွ... အတူ ထွက်ခဲ့လေ၏။

ကျိမိသားစုက တည်ထောင်သောကျောင်းသည် ပေါက်... စံအိမ်မှ နှစ်တိုင်ခန့်အကွာတွင်ရှိ၏။ မူလရည်ရွယ်ချက်မှာ ကျိဆွေ... စုထဲမှ ချို့တဲ့သူများ၏ သားများကို ပညာကောင်းစွာ သင်ပေး... ရည်ရွယ်ချက်ဖြင့် ရှေး အစဉ်အဆက်က တည် ထောင် ထား ခဲ့... ကျောင်းဖြစ်၏။ ထိုကျောင်းကို ရာထူးရှင် မှူးကြီး မတ်ကြီးမျ... ထောက်ခံအားပေးကြ၍ မိမိတို့၏ ရိက္ခာလစာကိုလိုက်၍ ထိုကျော... ရန်ပုံငွေအဖြစ်ထည့်ဝင်ကြပြီး ဆွေမျိုးစုထဲမှ အားလုံးကလေးစားကြ... သော အသက်ကြီးကြီးပညာရှိကြီးတစ်ဦးကို ကျောင်းအုပ်အဖြစ်ခန့်... ခဲ့၏။

ပေါက်ယုနှင့် ကျင်ချွန်းတို့အား အခြား ကျောင်းသားများ... မိတ်ဆက်ပေးပြီးသည့်အခါတွင် သူတို့နှစ်ယောက်သည် စာကို ကြိုး... သင်အံကြ၏။ ထိုနေ့မှစ၍ သူတို့နှစ်ယောက်သည် ကျောင်းသွားအတူ... ကျောင်းပြန်အတူတူ မခွဲနိုင်အောင်ဖြစ်လျက်ရှိကြ၏။ မယ်မယ်က ... လိုက်သည့်အတွက် ကျင်ချွန်းသည် ကျိဆွေမျိုးစုများ၏ ယွန်းစံအိမ်... ကြီးသို့ မကြာခဏလာရောက်ကာ ညအိပ်ညနေ နေထိုင်လေ့ရှိ၏။ မယ်... မယ်သည် ကျင်ချွန်းအား မြေးအရင်းတစ်ယောက်ကဲ့သို့ သဘောထား... ကာ ကျင်ချွန်းမိဘများ ချို့တဲ့သည်ကို သိရသည့်အခါတွင် အစား... အစားများ၊ ဖိနပ်များနှင့် အခြားအသုံးအဆောင်များကို ပေးလေ့... ၏။ တစ်လမျှမကြာမီပင် ကျင်ချွန်းသည် ယွန်းစံအိမ်ကြီးတွင်ရှိ... လူများနှင့် ရင်းနှီးလျက်ရှိလေပြီ။

ပေါက်ယုမှာ အတန်းအစားမရွေး ပေါင်းတတ်သည့်အလျောက် ကျင်ချွန်းအား

"အမှန်ကတော့ မင်းနဲ့ငါဟာ ဆွေမျိုးစပ်မယ်ဆိုယင် တူ... တော်မှာပဲကွ။ ဒါပေမယ့် ဒါတွေအသာထားပါကွာ။ တို့နှစ်ယော... မိတ်ဆွေသူငယ်ချင်းလို ပေါင်းကြတာပေါ့"ဟု ပြော၏။





အစ ပထမသော် ကျင်ချွန်းက သဘောမတူချေ။ သို့ရာတွင် ပေါက်ယုက ညီလေးဟုခေါ်ပြီး သူ့ငယ်နာမည်ကို ခေါ်လေ့ရှိသည့်အတွက် ကျင်ချွန်းကလည်း ထိုနည်းအတိုင်း အစ်ကိုဟုခေါ်ကာ ငယ်နာမည်ကို ခေါ်တတ်၏။

ကျောင်းတွင်ရှိသည့် ကျောင်းသားများ အားလုံးမှာ ကျိ ဆွေမျိုးစုထဲကဖြစ်ပြီး အချို့မှာလည်း လက်ထပ်ခြင်းဖြင့် ထိုဆွေမျိုးထဲသို့ ရောက်လာကြသူများ ဖြစ်သည့်တိုင် "နဂါးမတွင် နဂါးကိုးကောင် ပေါက်လျှင် တစ်ကောင်တစ်မျိုးစီ"ဟူသော စကားကဲ့သို့ သူတို့အားလုံးမှာ တစ်ယောက်နှင့်တစ်ယောက် မတူဘဲ စရိုက်ကွဲပြားကြ၏။ ထို့ကြောင့် ကျောင်းတွင်လာနေသူများမှာ ဆွေမျိုးစုထဲမှ ဖြစ်ကြသည့်တိုင် အချို့မှာ နဂါးထဲတွင် မြွက်လျှောမြွေရော ဆိုသကဲ့သို့ ဆိုးသွမ်းသည့် စရိုက်ရှိသူ အများအပြား ရှိကြလေ၏။

ကျောင်းသို့ နောက်ရောက်လာသည့် ပေါက်ယုနှင့် ကျင်ချွန်းတို့မှာ ရုပ်ရည်လည်းချောမောကြ၏။ ကျင်ချွန်းမှာရှက်တတ်ပြီး နူးညံ့သိမ်မွေ့သည့်အလျောက် စကားပြောလျှင် မိန်းကလေးတစ်ယောက်ကဲ့သို့ မျက်နှာ နီရဲနေတတ်၏။ ပေါက်ယုမှာမူ ဟန်ကြီးပန်ကြီးနေလေ့မရှိဘဲ အခြားသူများကို ကူညီရိုင်းပင်းတတ်သည့်အပြင် စကားပြောလျှင်လည်း ချိုသာစွာ ပြောတတ်၏။ သူတို့နှစ်ယောက်မှာ များစွာချစ်ခင်ကြသည့်အတွက် ကျောင်းသားများသည် ကွယ်ရာတွင် သူတို့နှစ်ယောက်အကြောင်းကို သွားပုပ်လေလွင့် ပြောကြလေ၏။

ယွန်းစံအိမ်ကြီးသို့ ဆွေ့ဖန် ရောက်လာပြီး မကြာမီတွင် ထိုကျောင်းအကြောင်းကို သိရ၏။ ထိုကျောင်းမှ ကျောင်းသားများ၏ အကြောင်းကို ကြားရသည်နှင့် ဆွေ့ဖန်၏ ဆိုးသွမ်းသောစရိုက်နှင့် အံကိုက်ဖြစ်နေ၏။ မကြာမီ ဆွေ့ဖန်သည်လည်း ကျောင်းသို့ရောက်လာလေ၏။ သို့ရာတွင် ဆွေ့ဖန်မှာ သိုးရက်ငါးများပြီး ပိုက်များကို နှစ်ရက်နေလှန်းသော တံငါသည်နှင့်တူနေလေ၏။ ဆွေ့ဖန်ကို ကျောင်းထားခြင်းသည် ငွေကို ရေထဲသို့သွန်ပစ်သည်နှင့်သာ တူ၏။ ဆွေ့ဖန်သည် စာသင်ချင်၍ ကျောင်းနေခြင်းမဟုတ်ဘဲ ရည်စားသနာ ထားချင်၍

ကျောင်းနေခြင်းဖြစ်လေရာ ဆွေ့ဖန်၏ရက်ရောခြင်း၊လက်ဆောင်ပစ္စည်းစွန့်ကြဲတတ်ခြင်းတို့ကြောင့် ကျောင်းသားများသည် ဆွေ့ဖန်၏ ပိုက်ကွန်ထဲသို့ ကျကြလေ၏။ သို့ရာတွင် ထိုအကြောင်းကိုမူ အကျယ်မပြောတော့ပြီ။

ထိုအထဲတွင် အရမ်းကားဆုံး ကျောင်းသား နှစ်ယောက်ရှိ၏။ သူတို့၏အမည်များနှင့် မည်သည့်ဆွေမျိုးစုမှ ဆင်းသက်လာကြောင်းကိုမူ ကောင်းစွာမသိရချေ။ သို့ရာတွင် သူတို့နှစ်ယောက်မှာ ရုပ်ချောသည့်အတွက် သူတို့ကို 'ချိုချိုနှင့်ချစ်စရာ' ဟု အမည်ပေးထားကြလေ၏။ သူတို့နှစ်ယောက်ကို အားလုံးကချစ်ခင်ကြ၍ 'အချစ်တော်'အဖြစ် ထားလိုသည့်တိုင် ဆွေ့ဖန်ရန်ကိုကြောက်သဖြင့် မည်သို့မျှ မစရဲကြချေ။

ကျောင်းသားများသည် ပေါက်ယုနှင့် ကျင်ချွန်းတို့ကိုလည်း သဘောကျကြ၏။ သို့ရာတွင် ဆွေ့ဖန်၏ သူငယ်ချင်းမိတ်ဆွေမှန်း သိကြသည့်အတွက် သူတို့ကိုလည်း လက်ဖျားနှင့်မျှ မတို့ရဲကြချေ။ ချိုချိုနှင့် ချစ်စရာတို့သည်လည်း ပေါက်ယုတို့နှစ်ယောက်နှင့် ရင်းနှီးလာခဲ့ကြ၏။ သို့ရာတွင် တစ်ယောက်ကိုတစ်ယောက် ချစ်ခင်ကြောင်းကိုကား ထုတ်ဖော်ပြောဆိုခြင်း မရှိကြချေ။ စာသင်ချိန်၌ သူတို့လေးယောက်သည် တစ်ယောက်ကိုတစ်ယောက် မျက်လုံးဖြင့်လည်းကောင်း၊ အမူအရာဖြင့်လည်းကောင်း လှမ်း၍စကားပြောလေ့ ရှိကြ၏။ ဤသည်ကို အခြားကျောင်းသားများ သိသွားကြသည့်အခါတွင် ချောင်းဆိုးပြခြင်း၊ မျက်ခုံး ပင့်ပြခြင်း၊ မျက်စိမှိတ်ပြခြင်း၊ တမင်လည်ချောင်း ရှင်း ပြ ခြင်းဖြင့် နောက်ပြောင်ကြ၏။

သို့ဖြင့် ဤသို့နေလာခဲ့ကြရာ တစ်နေ့တွင် ကျောင်းဆရာကြီး ကျီထိုက်ယုသည် အလုပ်ရှိသဖြင့် အိမ်သို့ ခေတ္တပြန်သွား၏။ အိမ်သို့ ပြန်သွားစဉ် နောက်တစ်နေ့တွင် ရှေးဟောင်းကျမ်းဂန်ထဲမှ စာများကို သင်မည်။ တစ်နေ့တွင်မူ တစ်ယောက်နှင့်တစ်ယောက် အကွာရာခုနစ်လုံးပါ စာတန်းကိုရေးပြီး အခံအအုပ်ဖြင့် ကဗျာစပ်ရမည်ဟု ကျောင်းစာပေးပစ်ခဲ့လေ၏။ ထိုအတောအတွင်းတွင် အတန်းကိုအကြီးဆုံးကျောင်းသား ဖြစ်သည့် ကျီယွီကို အပ်ပစ်ခဲ့လေ၏။ ယခုတာလေတွင် ဆွေ့ဖန်သည်





လို့ 'အချစ်တော်' ချိုချိုကိုပင် လာမတွေ့တော့ဘဲ ကျောင်းပြေး နေကြောင်းကို သိသည့်အခါ၌ ကျင်ချွန်းသည် ချိုချိုကို မျက်ရိပ်ပြကာ အပြင်သို့ခေါ်ခဲ့၏။

ကျောင်းခန်းနောက်ဖေး လူရှင်းသည့် နေရာသို့ ရောက်လျှင် ကျင်ချွန်းက

"မင်းဘယ်သူတွေနဲ့ ပေါင်းနေတယ် ဆိုတာကို အိမ်ကလူကြီးတွေကကော သိရဲ့လား" ဟု မေး၏။

ထိုသို့ပြောနေစဉ် သူတို့နောက်မှ ချောင်းဆိုးသံ ကြားလိုက်ရသဖြင့် လှည့်ကြည့်ရာ သူတို့ကျောင်းနေဘက် ချင်ယွန်းကို တွေ့ရ၏။ ချိုချိုမှာ စိတ်တိုသူတစ်ယောက်ဖြစ်သည့်အတိုင်း ဒေါသထွက်လာကာ

"ဟေ့ကောင်၊ ဘာချောင်းကြည့်ပြီး ချောင်းဆိုးပြနေတာလဲကွ။ တို့ဘာသာ စကားပြောတာ ဘာဖြစ်သလဲ"

"မင်းတို့လဲ မင်းတို့ဘာသာ စကားပြောတာ၊ ငါလဲ ငါ့ဘာသာ ချောင်းဆိုးတာ ဘာဆိုင်လို့လဲ။ ပြီးတော့ မင်းတို့ပြောတာက ဘာစကားပို့ ဒီလိုချောင်ကြို ချောင်ကြားမှာ လာပြီး တိတ်တိတ်ပုန်း ပြောနေရတာလဲ။ သူများလို လူမြင်သူမြင်ပြောပါလား။ ခုတော့ မင်းတို့ကိုယ်တိုင်မလုံတော့ ငါလိုက်ဖမ်းတာ မိပြီပေါ့။ ခုမှ ငါ့ကို ငြင်းမနေနဲ့။ မင်းတို့နှစ်ယောက် ဘာလုပ်နေသလဲပြော။ လျှောက်မပြောစေချင်ယင် ငါ့ကိုလဲ ပေး။ မပေးယင် တစ်ကျောင်းလုံးသိအောင် လျှောက်ပြောမှာပဲ"

"နေပါဦး၊ တို့ကဘာလုပ်နေလို့ မင်းက ချောင်းဖမ်းရမှာလဲ ဟင်" ဟု ကျင်ချွန်းနှင့် ချိုချိုတို့က စိတ်ဆိုးမာန်ဆိုးဖြင့် ပြော၏။

ကျီယွီသည် စပ်ဖြဲဖြဲဖြင့် လက်ခုပ်လက်ဝါးတီးလျက်

"မိပြီကွ၊ မော့ကောင်တွေ လာကြဟေ့။ မုန့်ပျားသလက်ပူပူ နွေးနွေးရမယ်။ လာဝယ်လှည့်ကြ။ လာကြ" ဟု အော်လေ၏။

သူငယ်ချင်း နှစ်ယောက်တို့သည် မိမိတို့အား အကြောင်းမဲ့သက်သက် စော်ကားသော ကျီယွီဆီသို့ ပြေးလာခဲ့ကြ၏။

ကျီယွိမှာ ကျောင်းတွင် ကိုယ့်ထက်ငယ်သူများကို အနိုင်ကျ ဗိုလ်ကျတတ်သူတစ်ဦး ဖြစ်၏။ ဆွေ့ဖန်က ပိုက်ဆံနှင့်တကွ လက်ဆေ ပစ္စည်းတို့ ပေးလေ့ရှိသဖြင့် ဆွေ့ဖန်အကြိုက်ကို လိုက်ကာ ဆွေ့ဖန် လည်း မြှောက်ပင့်ပေးလေ့ရှိ၏။

သို့ရာတွင် ဆွေ့ဖန်၏စိတ်မှာ ပေဒါလို အတည်တကျ ရှိသူမဟုတ် ချေ။ ယနေ့တွင် အရှေ့သို့ရောက်နေသော်လည်း မနက်ဖြန်တွင် အနောက် ဘက်သို့ ရောက်ချင်ရောက်နေတတ်သူတစ်ဦးဖြစ်၏။ ဆွေ့ဖန်မှာ နောက် ထပ် မိတ်ဆွေသစ်တစ်ယောက် တွေ့လျက် ရှိသည့်အတွက် ကျီယွိလို လူ ငယ်မျိုးကို မပြောနှင့်၊ သူ့အချစ်တော်များ ဖြစ်ကြသော ချိချိနှင့် ချစ်စရာ တို့ကိုပင် လှည့်မကြည့်တော့ချေ။ ကျီယွိမှာ တိုင်ပင်ဖေ တိုင်ပင်ဖက် မရှိတော့ချေ။ ကျီယွိမှာ ဆွေ့ဖန်၏ အပြောင်းအလဲမြ သော စိတ်ကို အပြစ်မတင်ဘဲ သူ့အချစ်တော်များကိုသာ ရန်ငြိ လျက် ရှိ၏။ သို့ဖြင့် ချင်ယွန်းနှင့် ကျန် အတန်းသားများသည် သူ နှစ်ယောက်ကို မနာလိုဖြစ်လျက်ရှိကြရာ ကျင်ချွန်းနှင့် ချိချိတို့က သူ မကောင်းကြောင်းကို အတန်းထဲတွင် ပြောနေသည့်အခါ၌ သူတို့အပေါ် တွင် ပို၍ အမြိုးကြီးလာခဲ့၏။ သို့ရာတွင် ကျီယွိသည် ကျင်ချွန်းကို တိုက်ရိုက်ရန်မစရဲသည့်အတွက် ချိချိကို မဲ၍ အနိုင်ကျင့်ကြ၏။

ကျင်ချွန်းနှင့် ချိချိတို့သည် မည်သို့မျှ မပြောဘဲ ကိုယ့်ခုံတွင်ကိုယ် ထိုင်နေကြ၏။ သို့ရာတွင် ချင်ယွန်းမှာ မကျေနပ်နိုင်ဘဲ သူ့ခုံမှနေ၍ သူတို့နှစ်ယောက်ကို ဆဲရေးတိုင်းထွာလျက်ရှိ၏။ ဤတွင်ချစ်စရာကလည်း မခံမရပ်နိုင် ဖြစ်လာသဖြင့် သူတို့နှစ်ယောက်သည် တစ်ခုံမှတစ်ခုံ လှမ်း၍ ရန်ဖြစ်နေကြ၏။

ချင်ယွန်းက

“ဟေ့၊ ကျောင်းနောက်ဖေးမှာ သူတို့နှစ်ယောက်ပြောနေတာ ကို ငါကိုယ်တိုင် တွေ့လာတာကွ။ ဘယ်မှာ ချိန်းတွေ့မယ်ဆိုတာ စီစဉ် နေကြတာသိရဲ့လား”

ချင်ယွန်းသည် ထိုစကားကို အတန်းတွင် ကျယ်လောင်စွာ ပြော ဆိုလျက်ရှိသည့်တွင် ကြားသူတစ်ယောက်မှာ မခံမရပ်နိုင်အောင် ဖြစ်





လျက်ရှိလေ၏။ ထိုသူမှာ အခြားသူမဟုတ်၊ နိုနိတူမြို့စားကြီး စုမှ တိုက်ရိုက်ဆင်းသက်လာသည့် ကျီကျန်းဆိုသည့် သူငယ် ၏။ မိဘများ ငယ်စဉ်ကတည်းက ကွယ်လွန်ခဲ့ကြသည့်အတွက် ကျီ န်းကို မမယုတို့က မွေးစားခဲ့ကြခြင်း ဖြစ်လေ၏။ ကျီကျန်းမှာ ဆယ့်ခြောက်နှစ်ရှိပြီး ခန့်ညားချောမောသလောက် သူ့မွေးစား ကို ကျီယုန်ကဲ့သို့ စိတ်ဆတ်သူတစ်ဦး ဖြစ်လေ၏။

“လူများလျှင် စကားများသည်” ဆိုသကဲ့သို့ နိုန်စံအိမ်ကြီးတွင် စေတော်တွေ များသလောက် ထိုအစေတော်များမှာ လောက်လောက် လား အားမကိုးရဘဲသခင်များအား သွားပုပ်လေလွင့် ပြောဆိုခြင်း အချိန်ကုန်လျက်ရှိ၏။ အစေတော်များသည် ကျီကျန်းအကြောင်း မကောင်းပြောဖန် များလတ်သည့်အခါတွင်ဲ ထိုစကားများသည် (မွေးစားအဖေ) ကျီချန်၏ နားသို့ ရောက်လာ၏။ ဤတွင် ကျီချန်လည်း ပေါ နာမည်ပျက်မည် စိုးသည့်အတွက် ကျီကျန်းကို အိမ်တစ်လုံး တ်သတ်ခွဲပေးကာ မိမိဘာသာ လွတ်လပ်စွာနေရန် ခွင့်ပြုထားခဲ့လေ ၏။

ကျီကျန်းမှာ ရုပ်ချောသလောက် ထက်မြက်သူတစ်ယောက် ဖြစ်၏။ ရာတွင် ကျီကျန်း ကျောင်းတက်ခြင်းမှာ အခြေခံကြောင့်မဟုတ်။ က်တိုက်ခြင်း၊ ခွေးပြိုင်ခြင်း၊ ပြည့်တန်ဆာအိမ်သွားခြင်း စသည်တို့ကို ကွယ်ရန် ကျောင်းတက်ခြင်းသာ ဖြစ်၏။ ဆွေမျိုးများမှာ ကျီချန် ယ်တိုင်က သူ့ကို ချစ်သည့်အတွက်ကြောင့် တစ်ကြောင်း၊ ကျီချန်၏ အရင်း ကျီယုန်ကလည်း သူ့ကို ချစ်သည့်အတွက်ကြောင့် စ်ကြောင်း သူလုပ်သမျှ မည်သူ့ကိုမျှ မတိုင်ရဲဘဲ အသာကြည့်နေရ၏။ ကျီကျန်းသည် ကျင်ချွန်းတို့၊ ပေါက်ယုတို့နှင့်လည်း ရင်းနှီးသည့် လောက် သူ့ရှေ့တွင် ကျင်ချွန်းအား စော်ကားနေသည်ကို တွေ့သည့် ခါတွင် သည်းမခံနိုင်တော့ချေ။ ထို့ကြောင့် ကျီကျန်းသည် ကျင်ချွန်း ဘက်မှ ပါမည်လုပ်ပြီးမှ

“အင်း၊ ချင်ယွန်းတို့ ကျီယွိတို့ဆိုတာ အစ်ကိုကြီး ဆွေ့ဖန်နဲ့ ပြီးတဲ့တဲ့ကောင်တွေ၊ အစ်ကိုကြီး ဆွေ့ဖန်ဆိုတာကလဲ ငါ့အပေါ်

မှာကောင်းထားတာ။ ငါသာ ဟိုဘက်ပါလိုက်လို့ သူတို့က ငါ့ အစ်ကိုကြီး ဆွေ့ဖန်ကို ပြန်ပြောယင် အစ်ကိုကြီးနဲ့ ငါ စိတ်ဝမ်း လိမ့်မယ်။ ငါဝင်မပြောဘူး ဆိုယင်လဲ ဒီကောင်တွေက ရှေ့လျှောက် မဟုတ်တရုတ်တွေကို ဘယ်လောက်များ ပြောနေကြဦးမလဲ မသိဘူး ဒီတော့ မျက်နှာလဲ မပျက်ရအောင် ဒီကောင်တွေပြောတဲ့ စကားတွေ ရပ်တန့်ကရပ်အောင် အသာတကြည်နဲ့ ဝင်ပြောမှပဲ'' ဟု တွေး

ထို့ကြောင့် ကျိကျန်းသည် အပြင်သို့ခဏထွက်ဦးမည်ဟု ရှုံ့ ကာ ပေါက်ယု၏သူငယ်တော် တစ်ဦးဖြစ်သည့် မိန်းမင်ယန်းကို ခေါ် အကျိုးအကြောင်းကို ပြောပြ၏။

မင်ယန်းမှာ ပေါက်ယု၏ သစ္စာရှိသည့်သူငယ်တော် တစ်ယောက် ဖြစ်ပြီး အသက်ကလည်းငယ်၊ အတွေ့အကြုံကလည်း နည်းသည့် လူ တစ်ယောက်ဖြစ်၏။ ချင်ယွန်းသည် ကျင်ချွန်းကို သရော် စော်ကား ပြောလျက်ရှိကြောင်း၊ ထိုသို့ပြောခြင်းသည် ပေါက်ယုကိုလည်း စော် ကားခြင်းဖြစ်ကြောင်းနှင့် ပြောပြ၏။ အကယ်၍သာ ယခုအတိုင်း ဆို လျှင် ချင်ယွန်းသည် နောင်တွင် သည့်ထက်သည် စော်ကားလာ မည် ဖြစ်ကြောင်းဖြင့် ပြောဆိုလေ၏။

မင်ယန်းကား နဂိုကမှ မိုက်တိ မိုက်ကန်း ဖြစ်ရာ ယခုကဲ့သို့ မြှောက်ထိုးပင့်ကော် လုပ်ပေးသည့် စကားမျိုးကို ကြားသည့်အခါ မူကား စိတ်ကိုမထိန်းနိုင်တော့ဘဲ ချင်ယွန်းကို ဝင်၍ရိုက်လေ၏။ ထို့ မဏာ မင်ယန်းသည် အစေတော်တစ်ယောက်က ပြောနည်းမျိုးကို မသုံးတော့ဘဲ ''ဟေ့ ချင်ယွန်းဆိုတဲ့ကောင်၊ ဘာလူဝါးဝတာလဲ'' ဟု လည်း ပါးစပ်က အော်လိုက်သေးသည်။

ထိုအချိန်တွင် ကျိကျန်းသည် ဖိနပ်မှဖုန်များကိုသုတ်၍ အင်္ကျီ ကိုဆွဲဆန့်လိုက်ကာ နေကိုမော့်ကြည့်လိုက်ပြီးနောက် ''ငါတော့ သွား စရာရှိသေးတယ်ကွာ'' ဟုဆိုလျက် အတန်းတာဝန်ခံ ကျိယွီကို ကိစ္စ ၍ပြန်မည်ဟု ခွင့်တောင်း၍ပြန်သွား၏။ ကျိယွီကလည်း ဘာမှမပြော ရဲသဖြင့် အသာပင်နေလိုက်ရလေ၏။





ယခုအချိန်၌ မင်ယန်းသည် ချင်ယွန်းကို ကိုင်လှုပ်ကာ ''တို့ဘာ ကောင်တို့ ဘာလုပ်လုပ် မင်းအပူလွှားကွ၊ သတ္တိရှိယင် ထွက်ခဲ့'' ဟု အော် လိုက်၏။

တစ်ခန်းလုံးမှ ကျောင်းသားများမှာလည်း ကြက်သေသေ၍ ကြည့်နေကြ၏။

''ဟဲ့၊ မင်ယန်း၊ မလုပ်နဲ့လေ၊ ဘာဖြစ်လို့ လုပ်ရတာလဲ'' ဟု အတန်းတာဝန်ခံ ကျိယွီက အော်သော်လည်း အချည်းအနှီးသာ။ ချင်ယွန်းမှာ ရှက်လည်းရှက် ဒေါလည်းပွလျက်

''ဟေ့ကောင်၊ ကျွန်စုတ်၊ ဘာလူဝါးဝတာလဲ။ ငါနင့်သခင်နဲ့ စကားပြောမယ်။ နင်နဲ့မပြောဘူး'' ဟုဆိုကာ ပေါက်ယုနှင့်ကျင်ချွန်းတို့ ထံ လျှောက်လာခဲ့၏။

ထိုစဉ်တွင် ဝိုန်းခနဲမြည်သံနှင့်အတူ လေးထောင့်ပုံ မင်ခဲသွေး ကျောက်တစ်လုံးသည် ချင်ယွန်းအနားမှ ဖြတ်သန်းကာ ကျိလင်နှင့် ကျိချွန်တို့ခုံပေါ်သို့ သွားကျ၏။ မည်သူပစ်မှန်းကိုကား မသိချေ။

ကျိချွန်မှာ ယွန်းကူမြို့စားကြီး၏ တိတော်သူတစ်ဦးဖြစ်ပြီး ငယ် ငယ်ရွယ်ရွယ်နှင့် မုဆိုးမဖြစ်ခဲ့ရသည့် အမေ၏တစ်ဦးတည်းသောသားဖြစ် သည်။ ကျိချွန်သည် ကျိလင်နှင့်ခင်သည့်အလျောက် ကျောင်းတွင်တစ်ခုံ တည်း ထိုင်လေ့ရှိ၏။ ကျိချွန်သည် သတ္တိကောင်းသူ တစ်ဦးပီပီ ချင် ယွန်း၏လူများက မင်ယန်းအား မင်သွေးကျောက်များနှင့် ပစ်ပေါက်နေ သည်ကို မတုန်မလှုပ် ထိုင်ကြည့်လျက်ရှိ၏။ သို့ရာတွင် တစ်ခုသော မင် သွေးကျောက်သည် သူ့ခုံပေါ်သို့ကျလာကာ ရေပုလင်းကွဲသွားပြီး သူ့ စာအုပ်တွင် မင်တွေစွန်းပေနေသည်ကို တွေ့ရသည့်အခါ၌ကား သည်း မခံနိုင်တော့ချေ။

''ဟေ့ကောင်တွေ။ မင်းတို့ဘာသာ ရန်ဖြစ်ချင် ဖြစ်ကြကွ။ တခြားလူကို မထိပေ့စေနဲ့'' ဟုဆိုကာ သူ့မင်သွေးကျောက်ဖြင့် ပစ်ရန် ကောက်၍ကိုင်လိုက်၏။

ကျီလင်မှာ ကြောက်တတ်သူပီပီ ကြားမဝင်ရန် တားဝေ
သို့ရာတွင် ကျီချွန် ဘာမျှမကြားတော့။ မင်သွေးကျောက်ကို ယူ
သည့်အခါတွင် ကျီချွန်သည် လွယ်အိတ်ဖြင့် ကောက်ပေါက်လိုက်
သို့ရာတွင် ကျီချွန်မှာ လူဖလံ့ ကလေးမျှသာဖြစ်သည့်အတွက် လို
မရောက်ဘဲ ပေါက်ယုနှင့် ကျင်ချွန်းတို့ရှေ့သို့သွားကျသဖြင့် သူတို့
တွင် စာအုပ်တွေ၊ စာရွက်တွေ၊ စုတ်တံတွေး မင်တွေပြန့်ကျဲလျက်
ပေါက်ယု၏ လက်ဖက်ရည်ပန်းကန်ကို သွားမှန်သည်တွင် လက်ဖက်
တွေ ဖိတ်ကုန်၏။

ကျီချွန်သည် သူ့ကို မင်သွေးကျောက်ဖြင့်ပစ်သည့်ကျောင်
ကို ပြေးထိုးနေစဉ် ချင်ယွန်းသည် ဝါးလုံးကြီးတစ်ချောင်းကို
လာကာ ကျောင်းခန်းထဲတွင်ရှိသမျှကို သိမ်းကျုံးရိုက်လျက်ရှိ

ပထမဆုံးအရိုက်ခံရသူမှာ မင်ယန်းဖြစ်၏။ "ဟေ့ ကောင်
နင်တို့ဘယ်သူ့ကိုစောင့်နေတာလဲ" ဟုဆိုကာ ပေါက်ယု၏ အခြား
တော်များဖြစ်သည့် ချူရောင်၊ စောဟုန်နှင့်မိုးယုတို့ကိုလည်း လှမ်
ဆဲရေးတိုင်းထွာလျက်ရှိ၏။ သူတို့ကလည်း "ဟေ ခွေးသားတွေ
တုတ်တွေ ကိုင်ကုန်ပြီဟေ့" ဟုအော်ကာ ဝင်ရိုက်ရန်ပြင်ကြ၏။

ဈေးကြာလျှင် မိုးယုက တံခါးပိတ်သည့် မင်းတုပ်ကြီးကိုကိုင်
ပြေးလာပြီး အခြား နှစ်ယောက်က ကြာပွတ်များဖြင့် ပြေးဝင်
ကြ၏။

အတန်းတာဝန်ခံကျိယွီသည်ရန်ဖြစ်သူများကိုဖျောင်းဖျပြော
ခြင်း အော်ဟစ်ခြင်းပြုသည့်တိုင်ဘာမျှမထူးချေ။မည်သူကမျှနားထော
ခြင်းမပြုကြချေ။ ကျောင်းခန်းတစ်ခုလုံးကား ရှုပ်ယှက်ခတ်လျက် ရှိ
အချို့ကလည်း လူအုပ်ထဲဝင်ကာ တွေ့ရာကို လက်သီးဖြင့် ပိတ်ထိုး
၏။ အချို့ ကြောက်တတ်သူကမူ ဘေးသို့ ရှဲနေကြ၏။ အချို့က
ခုံပေါ်တက်၍ မတ်တတ်ရပ်ကာ လက်ခုပ်လက်ဝါး တီးလျက် "ချ
ကွ၊ ဆော်ပေး" စသဖြင့် အော်နေကြ၏။ ကျောင်းခန်း တစ်ခုလုံ
သည် ပွက်ပွက်ဆူနေသည့် အိုးကြီးတစ်လုံးနှင့်သာ တူတော့သည်။

အားမာန်သစ်စာပေ



အတန်းခန်းထဲမှ တဝုန်းဝုန်း အသံများကို ကြားနေရသည့်
လီကွေ့နှင့် အခြားသူများသည် ရန်ပွဲကိုဖျန်ဖြေရန် ပြေးလာကြ၏။
ရန်ဖြစ်သည့်အကြောင်းကို မေးမြန်းသည့်အခါတွင် အားလုံးတစ်ယောက်
ကိုတစ်ယောက် အပြစ်ပုံချလျက်ရှိကြ၏။ လီကွေ့သည် သူငယ်တော်
များဖြစ်သည့် မင်ယန်းနှင့်တကွ အခြားသူငယ်တော်များကို ဆဲဆိုခေါ်
ဝေသွား၏။

ကျီချွန်မှာ ချင်ယွန်းက ဝါးလုံးနှင့်ရိုက်မိသွားသဖြင့် ခေါင်းကွဲ
သွား၏။ ပေါက်ယုသည် ကုတ်အင်္ကျီကိုချွတ်၍ အာပူမှုတ်ကာ ခေါင်းက
ဖောက်ရာကို အုပ်ပေးလျက်ရှိ၏။ ရန်ပွဲစဲသွားသည့်အတွက် ပေါက်ယုက
လီကွေ့အား

"လီကွေ့ရေ၊ ကျွန်တော့်စာအုပ်တွေကို လိုက်ကောက်ပါဦး။
ပြီးတော့ ကျွန်တော့်မြင်းလဲ ယူခဲ့တော့ဗျာ။ ကျောင်းဆရာကြီးကို
သွားတိုင်ရမယ်။ ဒီကောင်တွေက သက်သက်မဲ့ ကျွန်တော့်ကို လာစ
တာ။ ကျွန်တော်တို့က အတန်းတာဝန်ခံလုပ်နေတဲ့ ကျိယွီကိုတိုင်တော့
သူက ကျွန်တော်တို့ကို အပြစ်ပုံချတယ်။ ကျွန်တော်တို့ကို ဆဲပြီး ရိုက်
တာကို ဘာမှမတားဘဲ ဒီအတိုင်းကြည့်နေတယ်။ ဒီတော့ မင်ယန်းက
မနေနိုင်တာနဲ့ ကျွန်တော်တို့ဘက်က ဝင်လုပ်တာပေါ့။ သူတို့လုပ်တာနဲ့
ကျီချွန်ရဲ့ခေါင်းတောင် ပေါက်သွားပြီ။ဘယ့်နှယ်လုပ် ဆက်ပြီး ကျောင်း
တက်လို့ ရတော့မှာလဲ"

လီကွေ့က အလျင်စလိုမလုပ်ရန် ပြော၏။

"ဆရာကြီး၊ အလုပ်များနေတုန်း ခုလို ဘာမဟုတ်တာကလေးကို
သွားတိုင်လို့ မကောင်းပါဘူး သခင်လေး။ ဖြည်းဖြည်းသွားတာပေါ့။
ရက်စက ဒီမှာတင် ရှင်းလို့ရပါတယ်။ ဆရာကြီးဆီကိုသွားပြီး မတိုင်
ပါနဲ့တော့။ အမှန်ကတော့ ဒါတွေအားလုံးဟာ ကျိယွီရဲ့ တာဝန်ပဲ။
ကျိယွီက ဆရာကြီးအစား တာဝန်ခံနေရတာမဟုတ်လား။တစ်ယောက်
ယောက် မှားယင် မှားတဲ့လူကို အပြစ်ပေးရမှာပေါ့။ ဒီလိုကြည့်နေလို့
တယ်ဖြစ်ပါ့မလဲ"

အားမာန်သစ်စာပေ

"ရန်မဖြစ်ကြပါနဲ့၊ တော်တော့လို့ ပြောသားပဲ။ သူတို့မှ မထောင်တာ ဘယ်တတ်နိုင်မလဲ"

"ဒါကတော့ သခင်လေးကိုယ်တိုင်ကိုက ကျောင်း သား လေးစားအောင် မနေတတ်လို့ နားမထောင်တာပေါ့။ ဘာဖြစ်ဖြစ် ဆရာကြီးသိယင်တော့ သခင်လေးတာဝန်ပဲ။ ငြိမ် မလုပ်နိုင်တော့ဘူးလား"ဟု လီကွေ့က ပြောလေ၏။

"ကျွန်တော်တို့ကတော့ ငြိမ်မနေနိုင်ဘူး၊ ဆရာကြီးသိ တိုင်ရမှာပဲ"ဟု ပေါက်ယုက ပြောလေ၏။

"တော်ပြီ။ ချင်ယွန်းကို ကျောင်းမှာ ဆက်နေခွင့်ပြုယင် တော်တော့ ကျောင်းမတက်တော့ဘူး"ဟု ပြောလေ၏။

"ဘာဖြစ်လို့ မတက်ရမှာလဲ။ သူတို့နေတာနဲ့ တို့ကဘာဖြစ် ကျောင်းမလာဘဲ နေရမှာလဲ။ မရဘူး။ ငါကတော့ တိုင်မှာပဲ" ပေါက်ယုက ပြော၏။ ချင်ယွန်းသည် မည်သည့်အိမ်ထောင်စုကနည်း လီကွေ့ကို မေး၏။

လီကွေ့သည် အတန်ကြာ စဉ်းစားနေလေ၏။ ထိုနောက်

"ဒါကိုမမေးပါနဲ့ သခင်လေး။ ကျုပ်ပြော လိုက် လို့ ရှိ ဆွေမျိုးချင်း မျက်နှာပျက်ကုန်ကြလိမ့်မယ်"

ဤတွင် မင်ယန်းက ပြတင်းပေါက်မှ ခေါင်းပြူကာ

"သူက သခင်လေးနဲ့ အဖေတူအမေကွဲ ကျိဟုန်ရဲ့ တူဗျ။ ကောင်က ရာရာစစဗျာ၊ ကျိဟုန်ရဲ့မိန်းမက သူ့အဖေရဲ့ ညီမ။ အလကား မိန်းမ။ သူများတွေအပေါ်မှာ သွေးစုပ်ပြီး သူကိုယ်တိုင်ကျ ကျိလျံရဲ့မိန်းမ နတ်ငှက်မယ် သခင်မလေးဆီမှာ သွားဒူးထောက်ပြီး ငွေတိုးယူနေတဲ့ မိန်းမ။ အလကား အမြှောင်မယားမျိုးတွေ"

"ဟေ့ကောင်၊ ဒါတွေပြောမနေနဲ့"ဟု လီကွေ့ အော်၏။

"ဩော် လက်စသတ်တော့ အစ်ကိုကျိဟုန်ရဲ့တူကိုး။ အခု သူ့အဒေါ်ကို သွားတိုင်ရသေးတာပေါ့" ဟု ပေါက်ယုက ခပ်လှောင် လှောင်ပြော၏။





ထို့နောက် ပေါက်ယုသည် မင်ယန်းအား စာအုပ်များကို အကောက်ခိုင်း၏။

မင်ယန်းက အားရဝမ်းသာဖြင့်

"သခင်လေးကိုယ်တိုင် သွားမပြောပါနဲ့ဗျာ။ ကျုပ် သွားပြောပါမယ်။ မယ်မယ်က အခေါ်ခိုင်းလိုက်တယ်ဆိုပြီး ကျုပ် ရထား တစ်ခင်းနဲ့ သွားခေါ်မယ်။ မယ်မယ်ရှေ့ရောက်တော့ သခင်လေး တိုင် ပြောပေါ့"

လီကွေ့က

"ဟေ့ကောင်။ တော်တော့လို့ဆိုတာ မရသေးဘူးလား။ နေ နှင့်ဦး။ ဒီလောက်ခလောက်ဆန်တဲ့ကောင်။ အပြန်ကျမှ နင့်ကို ဖိရိုက် ဦးမယ်။ သခင်လေးပေါက်ယုကို နင်မြှောက်ပေးတာလို့ သခင်ကြီးကို ရော၊ သခင်မဝမ်ကိုရော တိုင်ပြောမယ်။ ငါက ပြေရာပြေကြောင်းပြော နေတယ်။ နင်က မြှောက်ပေးနေတယ်။ နင့်ကြောင့် ဒီလိုဖြစ်ရတာ။ တကယ်ဆို ပြေရာပြေကြောင်း ပြောရမယ့်အစား နင်ကပါ မီးလောင်ရာ လေပင့်လုပ်နေတယ်"

မင်ယန်းသည် နောက်ထပ် ဘာမျှမပြောရဲတော့ချေ။ ကျိယွီမှာ လည်း သူ့တာဝန်ကို သူကြောက်သဖြင့် ကျင်ချွန်းနှင့် ပေါက်ယုကို ထိုကိစ္စ မေ့ပျောက်ပစ်လိုက်ရန် တောင်းပန်၏။

ပေါက်ယုက အတန်ကြာ စဉ်းစားနေပြီးနောက်

"ကောင်းပြီ။ ချင်ယွန်းက တောင်းပန်မယ်ဆိုယင် ကျွန်တော် မတိုင်တော့ဘူး"

အစတွင် ချင်ယွန်းက မတောင်းပန်နိုင်ဟု ငြင်းနေ၏။ သို့ရာ တွင် ကျိယွီနှင့် လီကွေ့တို့အပြင် အခြားသူများကပါ အတင်းတိုက် တွန်းသည့်အတွက် ချင်ယွန်းသည် ကျင်ချွန်းကို တောင်းပန်ရလေ၏။

"ဒါ သခင်လေး စ,မွှေးတဲ့မီးပဲ။ ကိုယ့်ဘာသာကို ငြိမ်းပေါ့" ဟု လီကွေ့ ပြောလေ၏။

သို့ဖြင့် လီကွေ့နှင့်တကွ အားလုံးက တိုက်တွန်းကြသဖြင့် ချင်ယွန်းသည် ကျင်ချန်းကို တောင်းပန်ရ၏။ သို့ရာတွင် ပေါက်ယုဏမူထိုင်၍ တောင်းပန်ရမည်ဟု အတင်းအကျပ်ကိုင်လျက်ရှိ၏။

ကျိယွိမှာ ပြဿနာကို ပြေလည်သွားစေလိုသည့်အတွက် ချင်ယွန်းအား

"ကဲပါကွာ တောင်းပန်လိုက်ပါ။ 'သူတစ်ပါးကို သတ်သူသည် ကိုယ်ကိုယ်တိုင်လည်း ခေါင်းတစ်လုံး ဆုံးတတ်၏'ဆိုတဲ့ စကားပုံလဲ ရှိသားပဲ။ မင်းစတဲ့ပြဿနာ မင်းပဲရှင်းရမှာပဲ။ မင်း ဝန်ချတောင်းပန်လိုက်တယ်ဆိုယင် ဒီပြဿနာက ပြီးသွားမှာပါ"

သို့ဖြင့် နောက်ဆုံး၌ ချင်ယွန်းသည် ကျင်ချန်းကို တောင်းပန်ရ၏။

နောက်ထပ် မည်သို့ဖြစ်သည်ကို သိလိုမူ နောက်တစ်ခန်းကို ဖတ်ပါလေ။



## အခန်း ၁၀

မုဆိုးမကျင်သည် ကိုယ်ကျိုးအတွက် မာနကို ချိုးနှိမ်ရခြင်း။
သမားတော်ကြီး ကျန်းသည် ကျင်ကို့၏ ရောဂါကို စစ်ဆေးခြင်း။

ကျောင်းသားအားလုံးနှင့်တကွ အတန်းတာဝန်ခံ ကျိယွိကပါ မိမိအား တောင်းပန်ရန် အတင်းအကျပ် တိုက်တွန်းနေသည့်အခါ၌ ချင်ယွန်းသည် ပေါက်ယုကျေနပ်အောင် ကျင်ချန်းကို ဝန်ချတောင်းပန်၏။ ထို့နောက် ကျောင်းဆင်းသဖြင့် ချင်ယွန်းလည်း အိမ်သို့ပြန်လာခဲ့၏။ စိတ်ထဲကမူ အခဲမကျေလှဘဲ ပို၍ဒေါသထွက်လာခဲ့လေပြီ။

"လက်ပါးစေ ကျင်ချန်းလို ကောင်မျိုးကို ဝန်ချတောင်းပန်ရတယ်ဆိုတာ နာလွန်းလို့။ ဒီကောင်က ဘာကောင်မို့လဲ။ ကျိမ်သားစုထဲကလဲ မဟုတ်ပါဘူး။ ကျိယုန် (ကျင်ကို့၏မောင်) ရဲ့ ယောက်ဖပါ။ ဒီကောင်ဏလဲ ငါ့လိုသနားလို့ ကျောင်းနေခွင့်ရတဲ့ ကောင်မျိုးပါ။ အတူတူနဲ့ အနူနူချည်းပါပဲ။ ဒါပေမယ့် ဒီကောင်က ပေါက်ယုအားကိုးနဲ့ အားလုံးအပေါ်မှာ ဗိုလ်ကျချင်တယ်။ သူသာ ဆောင့်ကြွားကြွားမဟုတ်ဘဲ ကုပ်ကုပ်နေယင် သူ့ကို ဘယ်သူက ဘာပြောမှာလဲ။ ဒီကောင်နှစ်ကောင်က သူတို့လုပ်တာတွေကို မသိဘူး ထင်နေတယ်။ ဒီနေ့လဲ ဒီကောင် အချစ်တော်ကလေးနဲ့ ထွက်ပြီးစကားပြောနေလို့ မိတာကို ပြောရမလားဆိုပြီး ငါ့ကို ဝိုင်းချကြတယ်။ သိရောပေါ့ကွာ၊ ကြည့်သေးတာပေါ့"

ချင်ယွန်းတစ်ယောက်တည်း တတွတ်တွတ် စကားပြောနေသည် ကို မြင်သည့်အခါတွင် သူ့အမေက

"ဟဲ့ ကောင်လေး။ ဘာတွေများ တစ်ယောက်တည်း ပြောနေ တာလဲ။ ငါ့မှာဖြင့် အဲဒီကျောင်းကို နင့်ကိုထားနိုင်အောင် နဲ့ အဒေါ် နတ်ငှက်မယ်သခင်မလေးကို ပြောပေးဖို့ ပူဆာလိုက်ရတာ။ သူတို့အကူအညီသာမရယင် နင်ဒီကျောင်းကို ဘယ်မှာတက်လို့ရပါ့မလဲ။ တို့ကိုယ်တိုင်ကလဲ ဆရာငှားပြီးသင်နိုင်တာ မဟုတ်ဘူး။ ပြီးတော့ နင့် မှာ ဘာပူစရာရှိသလဲ။ ကျောင်းလဲ တက်ရသေးတယ်။ ဟိုကျယင်လဲ အစားအသောက် အလကား စားရသေးတယ်။ ဒီလိုနေရတဲ့အတွက် နှစ်နှစ်အတွင်း အမေတို့မှာ စရိတ်စက ဘယ်လောက်သက်သာသွားတယ် ထင်သလဲဟင်။ ဒီလိုစရိတ်သက်သာလို့ နင်ဝတ်ချင်တဲ့ အဝတ်အစား ကောင်းကောင်းတွေကို ဆင်နိုင်တာပဲ ။ ဒီကျောင်းကိုရောက်လို့ သခင် လေး ဆွေ့ဖန်တို့လို လူမျိုးနဲ့ အပေါင်းအသင်း ဖြစ်လာခဲ့တာ။ သူ့ ဖြစ်လို့ တို့မှာ မနှစ်က ငွေသားတစ်ပိသာခနီးပါး ချေးစုခဲ့တာ။ ရန်ဖြ လို့ နင့်ကို ဒီကျောင်းက ထုတ်ပစ်ယင် ကျောင်းနေချင်လှချည်ရဲ့ နောက်ထပ်ငါ့ကို မပူဆာနဲ့တော့။ ငါလဲ ဒီလိုကျောင်းမျိုးကို ရအော မရှာတတ်တော့ဘူး။ နောက်ထပ် ဒီလိုကျောင်းမျိုး ရှာရမယ်ဆိုယင်တော့ မလွယ်ဘူး။ ကောင်းကင်ဘုံကိုရောက်ဖို့လွယ်ချင်လွယ်မယ်။ ဒီလိုကျောင်း မျိုး တွေ့ဖို့ကတော့ မလွယ်တော့ဘူး။ မအိပ်ခင် နဖူးပေါ်လက်တင်ပြီ စဉ်းစားကြည့်။ အဲဒီတော့မှ သိမယ်"

ချင်ယွန်းသည် ဒေါသကို မျိုသိပ်ကာ ဘာမျှမပြောတော့ချေ။ ခဏကြာလျှင် သူ့အမေစကားကို လိုက်လျောလိုက်ရ၏။ နောက်တစ် နေ့တွင် ဘာမျှမဖြစ်သည့်နှယ် ကျောင်းသို့သွား၏။

ချင်ယွန်း၏ အဖေဘက်မှ တော်သည့် ဒေါ်လေးတစ်ယောက် သည် ကျိချိန်၏ (အမြှောင်မယားသား) ကျိဟုန်ကို လက်ထပ်ခဲ့လေ၏ သူတို့တစ်တွေမှာ ကျိအမျိုးထဲသို့ ရောက်သွားသည့်တိုင် ချမ်းသာလှသည် မဟုတ်ချေ။ ကျိဟုန်တို့လင်မယားသည် ရသမျှ ဝင်ငွေလေးပေါ်တွင် ချို့ချို့ငဲ့ငဲ့ စားသောက်နေထိုင်ရခြင်း ဖြစ်သည့်အတွက် နိုနိုစံအိမ်နှင့်





လည်းကောင်း၊ ယွန်းစံအိမ်နှင့်လည်းကောင်း မကင်းနိုင်ကြဘဲ အရေး အကြောင်းရှိလျှင် နိုနိုစံအိမ်မှ မမယုထံသို့လည်းကောင်း၊ ယွန်းစံအိမ်မှ နတ်ငှက်မယ်ထံသို့လည်းကောင်း သွား၍အကူအညီတောင်းရစမြဲဖြစ်၏။

ယနေ့မှာ သာယာသည့် နေ့တစ်နေ့ဖြစ်သည့်ပြင် အလုပ်လည်း မရှိသည့်အတွက် ကျိဟုန်၏မိန်းမ ချင်သည် အစေတော်တစ်ယောက်ကို ခေါ်ကာ သူ့ယောင်းမဖြစ်သူ မုဆိုးမနှင့် တူဖြစ်သူ ချင်ယွန်းတို့ထံသို့ ရထားတစ်စင်းဖြင့် ရောက်လာ၏။

စကားပြောဆိုနေကြစဉ် ချင်ယွန်း၏ အမေက မနေ့ကကျောင်း တွင် ရန်ဖြစ်ခဲ့ကြသည့် ကိစ္စကို အသေးစိတ်ပြောပြ၏။ ကျိဟုန်၏ မိန်းမ ချင်သည် ထော်င်းခနဲ ဒေါသထွက်လာကာ

"အမယ်လေး။ ကျင်ချွန်းဆိုတဲ့ကောင် ကျိဆွေမျိုးစုထဲ ရောက် ယင် ကျွန်မတို့တူ ချင်ယွန်းကကော ကျိ ဆွေမျိုးစုထဲ ဘာဖြစ်လို့ မရောက်ရမှာလဲ။ သူလဲ မယားဘက်က တော်တာပဲ။ ချင်ယွန်းကလဲ မယားဘက်က တော်တာပဲ။ တချို့လူများဟာ ဒီလိုပဲ။ ပိုက်ဆံရှိတဲ့လူ ဆိုယင် အင်မတန်ဆွေမျိုးတော်ချင်ကြတယ်။ ကျွန်မတို့ဖြင့် ဒီလိုအောက် ကျ နောက်ကျခံရမှာ ရှက်လွန်းလို့။ သူနဲ့ပေါက်ယုနဲ့ကကော ဘာဆိုင် လို့လဲ။ နေပေ့စေ။ ကျွန်မ ဒီနေ့ နိုနိုစံအိမ်ကိုသွားပြီး မမယုကို တိုင် မယ်။ ပြီးတော့ ကျင်ချွန်းနဲ့ အစ်မ ကျင်ကို့ကိုလဲ သွားတိုင်မယ်။ ဘာ ပြောမလဲ ကြည့်ကြသေးတာပေါ့"

ချင်ယွန်း၏ အမေမှာ ကြောက်လျက်ရှိလေပြီ။

"အမှန်ကတော့ ငါကလဲ မပြောဘူးလို့ပါပဲအေ။ နေပါစေ တော့။ သူတို့ကို သွားပြောမနေပါနဲ့တော့။ မှားမှားမှန်မှန် ရှိပါစေ တော့။ တော်တော်ကြာ ပြဿနာပေါ်လာလို့ ငါ့သား ကျောင်းမနေ ရဘူးဆိုယင် ခက်နေပါလိမ့်မယ်။ နဂိုကမှ ကျောင်းမထားနိုင်ရတဲ့အထဲ ကျောင်းက ထုတ်ပစ်လိုက်ယင် သူ့အတွက် တို့မှာ စားစရိတ်နေစရိတ် တက်လာပါလိမ့်ဦးမယ်"

"အို၊ ဘာဖြစ်လို့ နေရမှာလဲ။ မနေနိုင်ဘူး။ ကျွန်မအနေနဲ့တော့ ပြောရလိမ့်မယ်။ သူတို့ဘာပြောမလဲ ကြည့်ကြသေးတာပေါ့"

ကျိဟုန်၏ မိန်းမချင်သည် ယောင်းမဖြစ်သူ အတန့်တန့်တာ၊ သည့်ကြားထဲမှ နိန်စံအိမ်သို့ ရထားဖြင့် ထွက်သွားရာ အရှေ့ဘက် မလှယ်တံခါးကလေးအနီးတွင် ဆင်းပြီးလျှင် မမယုတို့ စံအိမ်ဘက်ဆီသို့ ခြေကျင်လာခဲ့၏။

ကျိဟုန်၏ မိန်းမချင်သည် ချက်ချင်း မပြောရဲသေးဘဲ အလွှာပသလွှာပ စကားတို့ကို ပြောဆိုပြီးနောက် အတန့်ကြာမှ

"ကျင်ကို့ကိုလဲ မတွေ့ပါလား"

"ဘာဖြစ်သလဲ မသိပါဘူးကွယ်။ ခုဟိုဟာမလာတာ နှစ်လ ကျော်ကျော်လောက်ရှိပြီ။ သမားတော်တွေက ပြောတော့လဲ ကိုယ်ဝန် မဟုတ်ဘူးလို့ ပြောတာပဲ။ ညနေတိုင်ဆိုယင် မောမောနေတယ်။ သိပ် ပြီး လှုပ်လှုပ်ရှားရှား လုပ်လို့လဲ မရဘူး။ စကားလဲ သိပ်ပြောလို့ မရဘူး။ မှူးမှူးနေတယ်။ ဒါကြောင့်မို့ မနက်တို့ ညနေတို့ လာလာပြီး တို့ဆီကို နှုတ်ဆက်ဂါရဝပြုနေကျကို မလာနဲ့တော့၊ အနားယူလို့ ပြောထားရ တယ်။ ဆွေမျိုးတွေ ဘာတွေလာယင်လဲ ငါပဲတွေ့မယ်။ မယ်မယ်တို့ ဘာတို့လို လူကြီးတွေ လာယင်လဲ ငါကပဲ တောင်းပန်ပေးပါ့မယ်။ အခန်းထဲမှာ နေပါလို့ ပြောထားရတယ်။ ကျိယုန်ကိုလဲ ပြောထားရ တယ်၊ ကျင်ကို့ကို စိတ်အနှောင့်အယှက်ဖြစ်အောင် မလုပ်ပါနဲ့။ တခြား သူတွေလဲ စိတ်အနှောင့်အယှက် ဖြစ်အောင် မလုပ်ပါစေနဲ့လို့။ နေ ကောင်းသွားအောင် အေးအေးဆေးဆေး အနားယူပါစေလို့။ စားချင် သောက်ချင်တာရှိယင်လဲ ငါ့ကိုပြော၊ ငါချက်ပို့ပေးမယ်လို့။ ငါ့ ဆီမှာ မရှိယင်လဲ ငှက်မယ်ဆီကို ပြောလို့မှာထားရတယ်။ ကျင်ကို့လို မိန်းမမျိုးရှားတယ်လို့၊ ဒီလိုရုပ်လဲချော၊ သဘောလဲကောင်းတဲ့ မိန်းမ မျိုးကို မီးထွန်းပြီး လိုက်ရှာတောင် တွေ့ဖို့မလွယ်ဘူး။ ဒါ့ကြောင့် ဂရုစိုက်လို့ သားကိုလဲ ပြောထားရတယ်။ ကျင်ကို့က လူကြီးတွေချစ် အောင်လဲ နေတတ်တယ်၊ ဆွေမျိုးသားချင်းတွေနဲ့လဲ တည့်အောင်ပေါင်း တတ်တယ် မဟုတ်လား။ ဒါ့ကြောင့် ခုတလောမှ ငါဖြင့် သူ့အတွက်ပဲ ပူနေရတာပဲ။





"ဒါတောင် ဒီနေ့မနက်ကတော့ သူ့မောင်လေးလာတယ်အေ့။ ကျင်ချွန်းရယ်လေ၊ ကောင်လေးက ငယ်သေးတော့ ဘာမှမသိတတ် သေးဘူးပေါ့အေ။ ဒါပေမယ့် ဘယ်လိုပဲ မသိတတ်ဦး။ သူ့အစ်မနေ ထိုင်မကောင်းတာ သူလဲတွေ့နေတာပဲ။ ဒီလိုကိစ္စမျိုး သွားပြောဖို့ မကောင်းဘူးပေါ့။ ကိစ္စကလဲကြီးကျယ်တာ မဟုတ်ပါဘူးအေ။ အသေး အဖွဲ့ကလေးပါ။ သူ့ကို သူတစ်ပါးက စော်ကားလွှတ်လိုက်တယ်ပဲထား ဦး၊ မပြောသင့်ဘူးပေါ့။ ကောင်လေးက မနေ့က ကျောင်းမှာ ရန် ဖြစ်ခဲ့သတဲ့အေ့။ ကောင်လေးတစ်ယောက်က သူ့ကို ရန်စပြီး ညစ်တီး ညစ်ပတ်တွေ ပြောသတဲ့။ အဲဒါကို သူ့အစ်မကို အကုန်လာပြောတယ်။ ညည်းလဲ ကျင်ကို့အကြောင်း သိသားပဲ။ ရုပ်ကလေးက ချောပြီး သွက် သွက်လက်လက် ရှိပေမယ့် အလွန်စိတ်ငယ်တတ်တာ။ ဘာဖြစ်ဖြစ် အလေးအနက် ထားချင် ထားနေတာ။ ဘာမှ အရေးမကြီးတဲ့ ကိစ္စ ကလေးပေမယ့် သူ့မှာ နေ့စဉ်ရက်ဆက် စိတ်သောက ရောက်ချင်ရောက် နေတတ်တယ်။ ဒီသောကတွေကြောင့် သူ့မှာ ခုလို နေထိုင်မကောင်း ဖြစ်နေရတာပေါ့။ ဒီနေ့တော့ သူ့မောင်လေးကို စော်ကားတယ်လို့ လဲကြားရော ဒေါသတွေ ထွက်ပြီး ရောဂါက ပိုဆိုးလာတာပေါ့။ ဒီအထဲ မှာ တချို့ကလဲ သူ့မောင်လေးအကြောင်း အတင်းအဖျင်းတွေ လာ ပြောတာပေါ့အေ။ သူ့မောင်လေးကို ဒီလို ပြောရပါမို့လားဆိုပြီး ပြောတဲ့ ခွေးစုတ်တွေကိုလဲ စိတ်ဆိုးတယ်။ ဒီအထဲမှာ ကျင်ချွန်းကလဲ ကျင်ချွန်းပဲ။ ကောင်လေးက စာကောင်းကောင်းမကျက်ဘူး။ စာကို စိတ်မဝင်စားဘူးဆိုတော့ စိတ်ညစ်တာပေါ့။ အဲဒီမှာတင် ရောဂါက ဆိုးလာတော့တာပဲ၊ ခုဆိုယင် မနက်စာတောင် မစားနိုင်ဘူး။

"ဒီသတင်းကိုကြားတော့ ငါလဲသူ့ဆီကို သွားပြီး ဖျောင်းဖျ ပါသေးတယ်။ ပြီးတော့ သူ့မောင်လေး ကျင်ချွန်းကိုလဲ ငါကိုယ်တိုင် ဆုံးမခဲ့ပါသေးတယ်။ ခုတော့ ကောင်လေးကို ပေါက်ယုတို့ စံအိမ်ဘက် ကို ပို့ထားလိုက်တယ်။ ငါလဲ သူ့ကို သွားပြီး ပြုစုနေရတာပေါ့။ ငှက် သိုက်ဟင်းချိုလေး ပန်းကန်ဝက်လောက် ကုန်တော့မှ ငါလဲ ပြန်လာခဲ့ တာပဲ။ ငါလဲ သူ့အတွက်တော့ စိတ်ပူနေတယ်အေ။ ခုခေတ်မှာ

သမားကောင်းတို့ ဘာတို့လဲ မရှိတော့ဘူး ထင်ပါရဲ့။ သူ့အတွက်ပဲ သောကရောက်နေရတာပဲ။ သမားတော် ကောင်းကောင်းလေးများ မကြားမိဘူးလား"

ထိုစကား ကြားသည့်အခါတွင် သားကိစ္စကြောင့် ကျင်ကို့ကို ရန်တွေ့ရန် လာခဲ့သော ကျိဟုန်ဇနီး ချင်၏ ရင်ထဲတွင် ဗလောင်ဆူနေသည့် ဒေါသတို့သည် ရေထဲတွင် မျောပါသွားကြလေပြီ။

"ကျွန်မတို့လဲ သမားတော်ကောင်းလေး ဘာလေး စနည်းနာနေတာပဲ မမယုရဲ့။ ဒါပေမယ့် ခုထက်ထိတော့ သမားတော် ကောင်းကောင်းကို မတွေ့သေးဘူး။ ဒါပေမယ့် မမယုပြောတဲ့ အတိုင်းဆိုရင်တော့ ကိုယ်ဝန်ရှိတယ်ထင်တာပဲ။ ဆေးတို့ ဘာတို့များ အရမ်းမသောက်ပေ့စေနဲ့နော် မမယု။ တော်တော်ကြာ ဒုက္ခရောက်နေလိမ့်မယ်"

"အေး။ ငါလဲ ကိုယ်ဝန်လို့ထင်တာပဲအေ"ဟု မမယုက ပြောလေ၏။

ထိုအခိုက်တွင် (မမယု၏ ယောကျ်ား) ကျိချန်ဝင်လာကာ

"ကျိဟုန်ရဲ့ မိန်းမလား"ဟု မေးလေ၏။ ကျိဟုန်၏ မိန်းမ ချင်သည် ကျိချန်ကို နှုတ်ဆက်၏။ ကျိချန်သည် ပြန်မထွက်သွားခင် ကျိဟုန်၏ ဇနီးကို ထမင်းကျွေးရန် ပြောသွား၏။

ကျိဟုန်၏ မိန်းမသည် သူ့တူ ချင်ယွန်းကို ကျင်ချွန်းက လုပ်လွှတ်လိုက်သည့်ကိစ္စကိုပြောရန် လာခဲ့ခြင်းဖြစ်၏။ သို့ရာတွင် ကျင်ကို့ မနေထိုင်မကောင်းဟု သိရသည့်အခါတွင်မူ ထိုအကြောင်းကို တိုင်တန်းဖို့ မပြောနိုင်၊ စကားပင် မစရဲတော့ပြီ။ ထို့ပြင် ကျိချန်နှင့် မမယုတို့ လင်မယားနှစ်ယောက်စလုံးကလည်း သူ့ကို လိုက်လျှော့ဆီးကြိုကြသည့်အတွက် သူ့ဒေါသသည် ကျေနပ်မှုအဖြစ်သို့ ပြောင်းလဲသွားခဲ့လေပြီ။ ကျိဟုန်၏ ဇနီးသည် စကားအနည်းငယ်ပြောဆိုပြီးနောက် ပြန်သွား၏။

သူပြန်သွားသည့်အခါတွင် ကျိချန် ရောက်လာ၏။

"ကျိဟုန် မိန်းမက ဘာကိစ္စလာတာတဲ့လဲ"





"ထူးထူးထွေထွေတော့ ရှိဟန်မတူပါဘူး။ လာတုန်းကတော့ ညိပ်မျက်နှာ မကောင်းဘူး။ ဒါပေမယ့် ဒီရောက်တော့ ကျွန်မတို့ချွေးမ အကြောင်းကို ကျွန်မက အေးအေးဆေးဆေးပြောပြတော့မှ စိတ်သက်သာရာ ရသွားပုံရတယ်။ ဒါကြောင့်မို့ထင်ပါရဲ့။ ကျွန်မက ထမင်းကျွေးတော့ စားတောင်မသွားတော့ဘူး။ ဒီတစ်ခါတော့ ဘာမှ ချေးငှားတောင်းရမ်း မသွားပါဘူး။ ခဏနေပြီး ပြန်သွားတာပဲ။

"ဒါက အရေးမကြီးဘူးရှင့်။ ကျွန်မတို့ချွေးမ ကျင်ကို့ ကိစ္စကို စဉ်းစားစမ်းပါဦး။ သမားတော် ကောင်းကောင်းတစ်ယောက်ကိုတော့ အမြန်ဆုံးရှာပြီးပင့်မှ ကောင်းမယ်ထင်တယ်။ ခုကုနေတဲ့ သမားတော်တွေကိုကြည့်ရတာ ကျွန်မဖြင့် တစ်ယောက်မှ အားမရဘူး။ ကျွန်မတို့ပြောတာတွေ နားထောင်ပြီးတော့ အဲဒါကို ဆေးဆရာစကားလုံးကြီးတွေနဲ့ပြောပြီး အချိန်ကုန်နေကြတာပဲ။ပြီးတော့လဲ တစ်နေ့တစ်နေ့ကို လာတဲ့ သမားတော်က သုံးလေးယောက်။ လာပြီး သွေးချည်းပဲ စမ်းနေကြတာ။ ကြာတော့ လူမမာမှာတောင် အနှောင့်အယှက်ဖြစ်သေးတယ်။ သူတို့အချင်းချင်း တိုင်ပင်ပြီးတော့ ဆေးညွှန်းတွေ ရေးပေးပါရဲ့။ ဒါပေမယ့် ဘာမှမထူးပါဘူး။ တစ်နေ့တစ်နေ့မှာ လူမမာအဖို့ အဝတ်အစား လေးငါးခြောက်ခါလဲလဲပြီး သမားတော်တစ်ယောက်လာတိုင်း စမ်းသပ်ခံနေရတော့ ဘယ်သက်သာမလဲရှင်။ ပင်ပန်းတာပေါ့"

"ဘာဖြစ်လို့ အဝတ်အစား လဲနေရဦးမှာလဲကွာ။ အဝတ်အစား လဲနေတုန်း အအေးပတ်သွားယင် ဘယ့်နှယ်လုပ်မလဲ။ လဲနေလို့ ဘယ်ဖြစ်ပါ့မလဲ။ အဝတ်အစားဆိုတာ သူ့ကျန်းမာရေးနဲ့စာယင် ဘာတန်ဖိုးရှိလို့လဲ။ ဒီလို မကြာခဏ လဲနေရမယ့်အတူတူ အဝတ်အစားသစ်တွေကို တစ်ခါတည်း ဝတ်ထားလိုက်ပေါ့။

"ခု မင်းကို ပြောစရာတစ်ခုရှိလို့လာတာ။ ခုလေးတင် ဖုန်ဇူယင် လာသွားတယ်။ ငါ မျက်နှာမကောင်းတာမြင်တော့ ဘာဖြစ်လို့လဲတဲ့။ ဒီလို ဒီလိုပဲ၊ ချွေးမ မမာလို့ သမားတော် ကောင်းကောင်းများ မကြားမိဘူးလား၊ ခုဟာက နေမကောင်းတာလား ကိုယ်ဝန်ရှိတာလားလို့ သမားတော် ကိုယ်တိုင်က မပြောနိုင်ဘဲ ဖြစ်နေတယ်။

အကယ်၍ နေထိုင်မကောင်းယင်လဲ ရောဂါ တော်တော်ကြီးသလား အာဂန္တုကလောက် ဖြစ်တာလားဆိုတာ သိချင်တယ်။ ဒါကြောင့် သမားတော်ကောင်းကောင်းများရှိယင် ပြောစမ်းပါလို့ ပြောတော့ သူနဲ့သိတဲ့ ကျန်းယုရှိဆိုတဲ့ သမားတော်တစ်ယောက်တော့ရှိတယ်တဲ့။ မူ ငယ်ငယ်တုန်းက သူ့ စာပြဆရာဖြစ်ခဲ့ဖူးတယ်တဲ့။ ဆေးဝါးဘက်မှာတော့ တော်တော်ကိုကျွမ်းကျင်တဲ့ သမားတော်ပဲတဲ့။ ပြီးတော့ ရောဂါ လက္ခဏာကို ခွဲရာမှာလဲ တော်တော်လေးတော်တယ်တဲ့။ ခု သူ့ သား တစ် ယောက် ရာထူးရဖို့ကိစ္စအတွက် ရွှေမြို့တော်ကိုရောက်နေပြီး သူ့ အိမ်မှာ တည်းနေတယ်တဲ့။ ဟာဒီလိုဆိုယင် ကျုပ်ချွေးမအတွက် သမားတော် ကို တွေ့ရအောင် နတ်ကောင်းနတ်မြတ်များက ဖန်ဆင်းပေးလိုက်တာပဲ ဆိုပြီး အစေတော်တစ်ယောက်ကို အပင့်ခိုင်းလိုက်တယ်။ ငါ့ ဘွဲ့မည် ကတ်ပြားလဲ ပေးလိုက်တယ်။ ဒီနေ့တော့ လာချိန်ရတော့မှာ မဟုတ် ဘူး။ ဒါပေမယ့် မနက်ဖြန်လောက်ဆိုယင်တော့ ကြွလာမယ်ထင်တာပဲ။ ဖုန်ဇူယင်ကလဲ အိမ်ကို ပြန်ရောက်ရောက်ချင်း သွားကြည့်ဖို့ တိုက်တွန်း ပါမယ်လို့ ပြောသွားတယ်။ အဲဒီတော့ တို့ ချွေးမကို သမားတော် ကျန်းယုရှိနဲ့ ပြကြည့်သေးတာပေါ့ကွာ”

မမယုသည် ထိုသတင်းကြောင့် အားတက်သွား၏။

“သန်ဘက်ခါကျယင် ရှင့်ခမည်းတော်ကြီးရဲ့ မွေးနေ့ရှင့်။ ဒါ့ မွေးနေ့အတွက် ဘာများလုပ်မလို့ စိတ်ကူးထားသေးသလဲ”

“ခုလေးတင် ငါ သွားကန်တော့ခဲ့တယ်။ ငါက ဖေဖျားရယ်၊ ကျွန်တော်တို့ဝင်းထဲမှာရှိတဲ့ ဆွေမျိုးသားချင်းအားလုံးကို သိုက်သိုက် မြိုက်မြိုက်ကန်တော့နိုင်အောင်ကျွန်တော်တို့စံအိမ်ဘက်ကို လမ်းလျှောက် ရင်း လာခဲ့ပါဆိုတော့ ငါက အေးအေးဆေးဆေး၊ တိတ်တိတ် ဆိတ် ဆိတ် နေနေကျဖြစ်နေပြီတဲ့။ မင်းတို့ဝင်းထဲမှာ ဆူဆူညံညံ၊ လူပီလူပ ရှားရှားတွေကို မကြားချင်မမြင်ချင်တော့ဘူးတဲ့။ မင်းတို့ကတော့ ငါ့ မွေးနေ့မှာ ငါ့ကို ဆွေမျိုးမိတ်သင်္ဂဟ စုံစုံညီညီနဲ့ ကန်တော့ချင်လို့ ဖိတ်တာပါတဲ့။ ဒါပေမယ့် ငါ့ကို ဒီလိုကန်တော့တာထက် ငါ ရေး ထားတဲ့ “ဝိဇ္ဇသံခိပ်ကျမ်း”ကိုရိုက်ပြီး ဓမ္မဒါနပြုရယင် အဆများစွာ





ကုသိုလ်ရပါတယ်ကွာတဲ့။ ပြီးတော့ စံအိမ်နှစ်အိမ်စလုံးက ဆွေမျိုးတွေ အားလုံးကိုလဲပြောလိုက်၊ ငါ့ဆီကို လာကန်တော့မနေကြနဲ့တဲ့။ မင်း အိမ်မှာ မင်းဘာသာမင်း ဖိတ်ကျွေးချင်သပဆိုယင်တော့ ကျွေးပေါ့တဲ့။ ငါ့ဆီကိုတော့ လက်ဆောင်ပစ္စည်းတွေ ဘာတွေလဲ ပို့မနေကြနဲ့တဲ့။ မင်း ကိုယ်တိုင်တောင် သန်ဘက်ခါကျယင် လာကန်တော့ မနေနဲ့တဲ့။ မင်း ကန်တော့ချင်သပဆိုယင် ခု ကန်တော့သွားလဲ ပြီးတာပဲတဲ့။ ငါ့ မွေး နေ့မှာ တစ်ဆွေလုံး တစ်မျိုးလုံး လာပြီး ကန်တော့ကြတာ ငါ့မှာလဲ အနှောင့်အယှက်ဖြစ်တယ်၊ သူတို့မှာလဲ တာဝန်ပိုတယ်တဲ့။

“သူကမှ ဒီလောက်မလာစေချင်တာ ငါလဲ နေခက်တစ်ခေါက် မသွားရဲတော့ဘူးကွ။ ဒီတော့ ခမည်းတော်ကြီးရဲ့မွေးနေ့အတွက် အိမ် မှာ နှစ်ရက် အကျွေးအမွေးလုပ်မယ်။ အဲဒါကို လိုင်ရှန်းကိုကြည့်ပြီး အစီစဉ်ခိုင်းလိုက်။ ကျကျနန၊ ခမ်းခမ်းနားနားဖြစ်ရမယ်။ မင်းကတော့ အနောက်စံအိမ်ကိုသွားပြီး မယ်မယ်ရယ်၊ ဒေါ်လေး ဆင့်ရယ်၊ ဒေါ် လေးဝမ်ရယ်၊ ငှက်မယ်ရယ်ကို ကိုယ်တိုင်သွားဖိတ်ချည်”

ထိုအခိုက်တွင် သူတို့သားကျိယုန် ရောက်လာသည့်အတွက် မမ ယုက ကျိချုန်ပြောသည့် စကားများကို ပြောပြ၏။

“သ မား တော် ကောင်း တစ် ယောက် ရှိတယ် လို့ ဒီ နေ့ ပဲ မင်းဖေဖေကြားလာတယ်။ ဒါနဲ့ ပင့်ခိုင်းထားတာ။ မနက်ဖြန် ဆိုယင် ကြွလာလိမ့်မယ်။ သမားတော်ကြွလာယင်သာ မင်းမိန်းမရဲ့ ရောဂါလက္ခ ဏာကို ပြောပြပေတော့”

ကျိယုန်က သဘောတူကြောင်းပြောကာ နှုတ်ဆက်၍ပြန်အထွက် တွင် သမားတော်ဆီမှပြန်လာသော အစေတော်သူငယ်ကို တွေ့ရ၏။

“သခင်ကြီးခိုင်းလိုက်လို့ ဖုန်ဇူယင်အိမ်မှာတည်းနေတဲ့ သမား တော် ကျန်းယုရှိဆီက ပြန်လာတာခင်ဗျ။ ဖုန်ဇူယင်ပြောပြီးလို့ သိပြီး ပြီတဲ့။ ခုတွင် လူမမာတွေကို လှည့်ကြည့်လာလို့ တော်တော်လေး မောနေပြီတဲ့။ ခုလိုက်ကြည့်မယ်ဆိုယင် ဖြစ်ပေမယ့်သွေးကောင်းကောင်း ခမ်းလို့ရမှာ မဟုတ်ဘူးတဲ့။ ဒါကြောင့် မနက်ဖြန်မှ လာခဲ့မယ်တဲ့။ အမှန်ကတော့ ငါလဲ ဆေးပညာကို အထိုက်အလျောက်ပဲ တတ်တာပါ

ကွာ။ တာဝန်သိပ်ကြီးတဲ့ ကိစ္စမျိုးကို ငါမယူချင်ဘူး။ ဒါပေမယ့် ဖုန်ဇူယင်က မင်းသခင်ကို ကတိပေးလာတဲ့အတွက် ငါ့အနေနဲ့ ငြင်းလို့ မကောင်းတော့ဘူးတဲ့။ အဲဒါကို မင်းသခင်ကို ပြောလိုက်ပါတဲ့။ မင်း သခင်ပေးလိုက်တဲ့ ဘဲ့နာမည်ကတ်ပြားကိုတော့ ငါသိမ်းဖို့မထိုက်ပါဘူး ကွ၊ ပြန်ယူသွားပါတဲ့။ ဒီတော့ သခင်လေးကျိယုန်က သခင်ကြီးကို ဒီအကြောင်း ပြောပေးပါခင်ဗျာ”

ကျိယုန်သည် ခန်းဆောင်ထဲသို့ ပြန်ဝင်လာကာ ထိုသတင်းကို မိဘများအား ပြောပြ၏။ ထို့နောက် နှစ်ရက်အကျွေးအမွေး လုပ်ရန် အတွက် စီမံစရာရှိသည်တို့ကို စီမံရန် လိုင်ရှန်းကို အခေါ်လွှတ်လိုက်၏။ ပစ္စည်းထိန်း လိုင်ရှန်းလည်း လုပ်စရာရှိသည်တို့ကိုလုပ်ရန် ထွက်သွား၏။

နောက်တစ်နေ့ နေ့လယ်တွင် သမားတော်ကြီး ကြွလာလေ၏။ သမားတော်ကြီးအား ကျိချန်ကိုယ်တိုင် ထွက်ကြိုကာ ဧည့်ခန်းဆောင်ထဲ သို့ ခေါ်လာ၍ နေရာထိုင်ခင်းပေး၏။ လက်ဖက်ရည်သောက်ရင်း လူမမာ ကိစ္စကို ရောက်သွားကြသည့်အခါတွင် ကျိချန်က

“ဆရာရဲ့သိက္ခာ၊ ဆရာရဲ့ပညာနဲ့ သမ္မာကို ဖုန်ဇူယင်ဆီက ကြား ရတဲ့အခါမှာ ဝမ်းသာလိုက်တာ ဆရာရယ်”

သမားတော် ကျန်းယုရှိက

“ကျွန်တော်လဲ သာမန်လူပြိန်းသာသာပါပဲခင်ဗျား။ သို့သော် လဲ ဒီကမြို့စားကြီးတို့ ဆွေမျိုးများဟာ ကျွန်တော်တို့လို သာမန် အညာ တရ သမားဟူးရားများ အပေါ်မှာ ထောက်ထားတယ်ဆိုတဲ့ အကြောင်း ကို ဖုန်ဇူယင်က ပြောပြလို့သိရပါပြီ။ ကျွန်တော့်ကို ခေါ်တဲ့အခါကျ တော့ ကျွန်တော်လဲ မငြင်းသာပေဘူးပေါ့။ သို့သော်လဲ ကျွန်တော့်မှာ ပညာဒီလောက်လဲ မကျွမ်းကျင်ပါဘူးခင်ဗျာ။ လာခဲ့သာလာရတယ်။ ကျွန်တော့်မှာ ခပ်ရှက်ရှက်ပါပဲ”

“သမားတော်ကြီးက ကိုယ့်ကိုယ်ကို တယ်ပြီး နှိမ့်ချတာကိုးခင်ဗျ။ ကဲ တဆိတ်သာ ကျွန်တော့်ချွေးမကို ကြည့်ပေးပါခင်ဗျာ။ ဘယ်လိုပဲ ဖြစ်ဖြစ် ကျွန်တော်တို့ကတော့ ဆရာ့ကို အားကိုးပါတယ်”





ကျိယုန်သည် သမားတော်အား ကျင်ကို့၏ ခန်းဆောင်သို့ ပင့် သွား၏။

“ဒီက မြို့စားလေးရဲ့ ဇနီးပေါ့”ဟု သမားတော်ကြီးက မေး လေ၏။

“မှန်ပါတယ်ခင်ဗျာ။ ထိုင်ပါ။ သမားတော်ကြီး သွေးစမ်း မကြည့်ခင် ရောဂါလက္ခဏာချက်တွေကို ပြောရမလားခင်ဗျာ”

“အဲ နေဦးဗျ။ အယင်သွေးစမ်းကြည့်လိုက်ဦးမယ်။ ပြီးတော့မှ မြို့စားလေးက ကျွန်တော့်ကို ဉာဏ်အလင်းပေးပါခင်ဗျာ။ အမှန်က တော့ မြို့စားလေးတို့ စံအိမ်ကြီးကို ကျွန်တော် ဒီတစ်ကြိမ် ပထမအကြိမ် ရောက်ဖူးခြင်းပါပဲ။ ကျွန်တော်က တယ်ပြီး အရည်အချင်းရှိတဲ့ သမား မဟုတ်လေတော့ မိတ်ဆွေကြီး ဖုန်ဇူယင်တိုက်တွန်းလွန်းလို့သာ လာရ တာပါ။ အဲ လူမမာကို သွေးစမ်းကြည့်ကြရအောင်ခင်ဗျ။ သွေးစမ်း ပြီး ရောဂါစစ်တမ်းကို ကျွန်တော် ပြောမယ်ခင်ဗျ။ အဲဒီတော့မှ ကျွန်တော်ပြောတဲ့အချက်တွေနဲ့ မြို့စားလေးပြောတဲ့ လက္ခဏာချက်တွေ နဲ့ ကိုက်မကိုက် ကြည့်ကြတာပေါ့။ ပြီးတော့မှ သင့်တော်တဲ့ ဆေးစွမ်း ကောင်းများကို ဖော်ပြီး ခမည်းတော်မြို့စားကြီးကို ပြကြည့်ကြသေး တာပေ”

“သမားတော်ကြီးက ဆေးပညာကို တစ်ဖက်ကမ်းခပ် တတ် မြောက်တဲ့ ဆရာကြီးပါ ခင်ဗျာ။ စောစောစီးစီး မတွေ့ရတဲ့အတွက်ပဲ ကျွန်တော်တို့ စိတ်မကောင်း ဖြစ်မိပါတယ်။ ကဲ စစ်ဆေးကြည့်ပြီး ပျောက်အောင်သာ ကုပေးပါခင်ဗျာ။ ဒါမှလဲ ကျွန်တော့်ခမည်းတော် ကြီး စိတ်အေးရတော့မှာပဲ”

အစေတော်အချို့သည် ကျင်ကို့ကို တွဲထူပေးကာ လက်မောင်း ကို ခေါင်းအုံးတစ်ခုပေါ်သို့ တင်ပေးကြပြီးနောက် လက်ကောက်ဝတ် ကို စမ်းသပ်ရန်အတွက် အင်္ကျီလက်ကို ပင့်တင်ပေးကြ၏။ သမားတော် ကြီးသည် လက်ယာဘက် လက်ကောက်ဝတ်ကို ပထမ စစမ်းကြည့်၏။

လက်ယာဘက် လက်ကောက်ဝတ်ကို အတန်ကြာသည့်တိုင် သေချာစွာ စမ်းသပ်ပြီးလျှင် လက်ဝဲဘက် လက်ကောက်ဝတ်ကို စမ်းသပ်ကြည့်ပြန်၏။

ထိုသို့စမ်းသပ်ပြီးနောက် ''ကဲ အပြင်ကို သွားထိုင်ကြတာပေါ့'' ဟု ပြောလေ၏။

ကျိယုန်သည် သမားတော်ကြီးကို အခန်းဆောင်တစ်ခုထဲသို့ခေါ်လာကာ ခုတင်မီးဖိုကြီးပေါ်တွင် နေရာထိုင်ခင်းပေး၏။ အစေတော်တစ်ယောက်က လက်ဖက်ရည်များကို လာချပေး၏။ လက်ဖက်ရည်သောက်ပြီးသည့်အခါတွင် ကျိယုန်က

''သွေးစမ်းကြည့်လိုက်တော့ ဘယ်လိုများ တွေ့ရပါသလဲ သမားတော်ကြီး။ ကုသလို့တော့ ရနိုင်ပါတယ်နော်''

''အင်း မြို့စားကတော်လေးရဲ့ လက်ဝဲဘက် လက်ကောက်ဝတ်အပြင်ဘက် သွေးခုန်နှုန်းက မျှင်းပြီး သိပ်ခုန်နေတယ်ဗျ။ အတွင်းဘက်သွေးခုန်နှုန်းကတော့ မျှင်းပြီး ပျော့နေတယ်။ လက်ယာဘက် လက်ကောက်ဝတ် အပြင်ဘက် သွေးခုန်နှုန်းက ဖျော့ပြီး အားနည်းနေတယ်။ အတွင်းဘက် သွေးခုန်နှုန်းကလဲ တော်တော်လေးကို အားလျော့နေတယ်။

''မျှင်းပြီး ပြင်းနေတဲ့ လက်ဝဲဘက် အပြင်သွေးခုန်နှုန်းကို ကြည့်ခြင်းအားဖြင့် နှလုံးအားနည်းတဲ့အတွက် အဖျားဝင်နေတဲ့ သဘောကိုပြတယ်။ မျှင်းပြီးဖျော့တော့တဲ့ အတွင်းဘက်သွေးခုန်နှုန်းကို ကြည့်ခြင်းအားဖြင့် သည်းခြေနောက်ပြီး သွေးအားနည်းနေတဲ့ သဘောကိုပြတယ်။ လက်ယာဘက် လက်ကောက်ဝတ်အပြင် သွေးခုန်နှုန်း ဖျော့တော့အားနည်းနေတာကို ထောက်ခြင်းအားဖြင့် အဆုတ်အားနည်းနေတယ်ဆိုတာကို သိရတယ်။ အတွင်းဘက် သွေးခုန်နှုန်း မမှန်တာကို ကြည့်ခြင်းဖြင့် သည်းခြေမှာ ဝါယောဓာတ်လွန်တဲ့အတွက် အသည်းမှာရှိတဲ့ ပထဝီဓာတ်က ဒီအားကို မခံနိုင်ဘဲ ဖြစ်နေတယ်။





''နှလုံးအားနည်းခြင်းကြောင့် ပေါ်ပေါက်လာတဲ့ တေဇောလွန်ကဲမှုကြောင့် ဓမ္မတာအသွားအလာ မမှန်ဘဲ ဖြစ်တတ်တယ်။ အိပ်မပျော်ဘဲ ဖြစ်တတ်တယ်။ သည်းခြေကို သွေးမရောက်ဘဲ နောက်နေတဲ့အတွက် ရင်ညွန့်ရိုးတွေ နာမယ်၊ ဓမ္မတာစဆင်းချိန်မှာ သွေးထိန်မယ်၊ ပူချင် အန်ချင်ဖြစ်မယ်။ အဆုတ်အားနည်းတဲ့အတွက် မူးမော်ခြင်း၊ မနက်စောစော ချွေးစေးထွက်ခြင်း၊ အော်ဂလီဆန်ခြင်းဖြစ်မယ်။ သည်းခြေထဲက အာပေါဓာတ်ဟာ အသည်းထဲက ပထဝီဓာတ်ထက် လွန်ကဲခြင်းကြောင့် ခံတွင်းပျက်ခြင်း၊ မလှုပ်ချင် မရှားချင် ကိုယ်လက် မအီမသာဖြစ်ခြင်း၊ ကိုယ်လက်များ နာကျင်ကိုက်ခဲခြင်း စသည်တို့ဖြစ်မယ်။ ဒါတွေကတော့ မြို့စားကတော်လေးရဲ့ သွေးခုန်နှုန်းကို စမ်းပြီး တွေ့ရတဲ့ ရောဂါလက္ခဏာချက်တွေ ဖြစ်တယ်ဗျ။ ဒီသွေးခုန်ပုံဟာ ကိုယ်ဝန်ရှိတဲ့ လက္ခဏာ မဖြစ်နိုင်ပေဘူး''

အနီးတွင် ရပ်နေသည့် အစေတော် မိန်းမကြီးတစ်ယောက်က

'ဆရာကြီးပြောတာ မှန်လိုက်လေ ဆရာကြီးရယ်။ အကြားအမြင်များ ရနေသလားမသိဘူး။ ခုသခင်မလေး ဖြစ်နေတာလဲ ဒီအတိုင်းဖြစ်နေတာပဲ ဆရာကြီးရဲ့။ ကျွန်မတို့လက်ကိုင် သမားတော်ကြီးများလဲ စမ်းသပ်ကြည့်ပြီးကြပါပြီ။ ဒါပေမယ့် ဆရာကြီးလောက် ရောဂါလက္ခဏာကို တစ်ယောက်မှ တိတိကျကျမပြောနိုင်ကြဘူး။ တစ်ယောက်ကပြောတော့ ကိုယ်ဝန်ရှိလို့တဲ့။ နောက်တစ်ယောက်ကတော့ ရိုးရိုး နေမကောင်းဖြစ်တာတဲ့။ တစ်ယောက်ကတော့ ကိစ္စမရှိပါဘူးတဲ့။ နောက်တစ်ယောက်ကတော့ ဓနုရာသီမှာ မကောင်းဘူးတဲ့။ အကျပ်အတည်းတွေ့နိုင်တယ်တဲ့။ ကြည့်ရတာကတော့ သူတို့ကိုယ်တိုင်ကို ပိုင်ပိုင်နိုင်နိုင်မပြောနိုင် ဖြစ်နေတယ် ဆရာကြီးရယ်။ ဒီတော့ ကျွန်မတို့ဘာလုပ်ရမလဲ ဆရာကြီးအမိန့်ရှိပါ''

သမားတော်ကြီးက

''အိမ်း၊ အဲဒါကြောင့် မြို့စားကတော်လေးရောဂါဟာ ဒီလောက်ကြာနေတာဗျ။ ဓမ္မတာငုပ်သွားတဲ့ အချိန်တုန်းကသာ ဆေးတွေ့သွားမယ် ဆိုရင် ဒီလောက်ဆို နေကောင်းနေပြီ။ သို့သော်လဲ ဆေးမတွေ့တဲ့ အခါ

ကျတော့ ခုလိုဖြစ်လာတာပလေ။ နာလန်ထဖို့ကတော့ ဆယ်ပုံ သုံး ပုံ လောက်တော့ ကျန်ပါသေးတယ်။ ဒီနေ့ ကျွန်တော် ဆေးပေးခဲ့မယ် လေ။ ဒီဆေးကိုသောက်လို့ ဒီနေ့ညကောင်းကောင်းအိပ်ပျော်ယင်တော့ သိပ်မစိုးရိမ်ပါနဲ့တော့။

"သွေးခုန်နှုန်းကို စမ်းကြည့်လိုက်ရုံနဲ့ မှိုစားကတော်လေးဟာ အာရုံကြောတွေက တော်တော်အားနည်းနေပြီး တော်တော်စိတ်ထိခိုက် လွယ်တယ်ဆိုတာ သိရတယ်ဗျ။ မှိုစားကတော်ကလေးဟာ စိတ်ချောက် ချား လွယ်တယ်။ သောကလဲ တော်တော်များနေတယ်။ ဒါကြောင့် သူ့သည်းခြေကို လာထိခိုက်တာပေါ့။ သည်းခြေမှာ ဝါယောဓာတ် လွန်ကဲတဲ့အတွက် အစ္စတ္တမှာ ဥကုတေဇောကဲပြီး ဓမ္မတာအသွားအလာ ဖောက်ပြန်ရခြင်းဖြစ်တယ်။ ကဲ ဒီကအဒေါ်ကြီးကို မေးရဦးမယ်။ ဓမ္မတာများ မမှန်ဘဲဖြစ်ပြီး လာပြန်ယင်လဲ နောက်ကျလာတတ်တယ် မဟုတ်လား"

"ဟုတ်ပါ့ ဆရာကြီးရယ်။ ဘယ်တော့မှ စောပြီးမလာပါဘူး။ အမြဲတမ်း နှစ်ရက်သုံးရက်တော့ နောက်ကျတာချည်းပဲ။ တစ်ခါတလေ များ ဆယ်ရက်လောက်တောင် နောက်ကျတယ်" ဟု မိန်းမကြီး က ပြောလေ၏။

"ဟုတ်ပြီဗျ။ ရောဂါရဲ့ အကြောင်းရင်းဟာ အဲဒီအချက်ပဲ။ ဓမ္မတာမှန်အောင် အားဆေးများ မှီဝဲမယ်ဆိုယင်ဖြင့် ခုရောဂါဟာ ပျောက်သွားမှာပါပဲ။ အာပေါဓာတ်နဲ့ ဝါယောဓာတ်လွန်ကဲတဲ့အတွက် အားနည်းပြီးဖြစ်သွားတဲ့ သဘောပါပဲ။ ဒီတော့ ကျွန်တော် ဆေးပေး ခဲ့မယ်။ ဒီဆေးနဲ့ စမ်းကြည့်သေးတာပေါ့"

ထို့နောက်တွင် သမားတော်ကြီးသည် စာရွက်တစ်ရွက်ပေါ်တွင် ဆေးညွှန်းကိုရေး၍ ကျိယုန်ကို ပေးလေ၏။





အသက်ရှူချောင်ရန်၊ သွေးအားကောင်းရန်နှင့်
သည်းခြေငြိမ်ရန် အားတိုးဆေး

| | | | |
|---|---|---|---|
| ကောလိသိမ် | ဒသမ | ၂ | အောင်စ |
| | 〃 | ၂ | 〃 |
| | 〃 | ၃ | 〃 |
| | 〃 | ၄ | 〃 |
| | 〃 | ၂ | 〃 |
| | 〃 | ၂ | 〃 |
| | 〃 | ၁၅ | 〃 |

သဘော်မန်ကျည်း
ဖွေးပြည်နယ်ထွက် ကြွေးဥ(ပွတ်ပြီး)
မုန်ညင်းနက် (အခြောက်လှန်းပြီး)

| | | | |
|---|---|---|---|
| | ဒသမ | ၁၈ | အောင်စ |
| | 〃 | ၂ | 〃 |
| | 〃 | ၁၅ | 〃 |
| | 〃 | ၁၈ | 〃 |

(ယင်းဆေးနှင့်စားရန်၊ ဖူကန်ကြာစေ့ ၇ စေ့၊ စွန်ပလွံ နှစ်လုံးဖြင့် စားရန်)

ကျိယုန်သည် ဆေးညွှန်းကိုဖတ်ပြီးလျှင်

"ကောင်းပါပြီခင်ဗျာ။ ဘာမှတော့ စိုးရိမ်စရာမရှိပါဘူးနော် သမားတော်ကြီး"

"မှိုစားကလေးလဲ့ ဉာဏ်ရှိတဲ့ပုဂ္ဂိုလ်ပေပဲ။ ဒီတော့ ရောဂါဟာ ဘယ်နေ့ ဘယ်မျှ ကြာမယ်ဆိုတာကိုတော့ မပြောနိုင်ပေဘူး ဗျ။ ဒီဆေးကိုတိုက်ကြည့်ပြီး လူနာအရိပ်အကဲကိုကြည့်ပြီးမှ ပြောနိုင်ပေလိမ့် မယ်။ ကျွန်တော် မြင်သလောက်ပြောရယင် ဓနုရာသီမှာတော့ ဘာမှ အဆိုးမမြင်ပါဘူး။ ပြိဿရာသီဝင်ယင် ကောင်းသွားမှာပါ"

ကျီယုန်သည် အဓာင်းပါးသူ ဖြစ်သည့်အလျောက် နောက်ထပ် မမေးတော့ချေ။ သမားတော်ကြီးကို လိုက် ပို့ နှုတ် ဆက် ပြီး နောက် ကျီယုန်သည် ဆေးစာနှင့် ရောဂါစစ်တမ်းကို သူဖခင်အား ပြသပြီး ယင်းသမားတော်ကြီး ပြောသွားသည်များကို ပြန်ပြောပြလေ၏။

"ဒီ့ပြင် သမားတော်တွေကတော့ သူ့လောက် ရေရေရာရာ တစ်ယောက်မှမရှိဘူးနော်။ ငှဆေးညွှန်းကိုကြည့်ရတာကတော့ တော်တော် အာနိသင်ရှိမယ့်ပုံပဲ"ဟု မမယုက သူ့ယောကျ်ားကျီချန်ကို ပြော၏။

"သူက အခကြေးငွေနဲ့လိုက်ကုတဲ့ သမားတော် မဟုတ်ဘူးကွ။ အမှန်ကတော့ ဘယ်ကိုမှလိုက်ကုတာ မဟုတ်ဘူး။ တို့ဆီကိုသာ ဖုန် ဇူယင်နဲ့ ပတ်သက်လို့ ကြွလာတာ။ အင်း ဒီ အတိုင်း ဆိုယင် တော့ တို့ချွေးမလေး မကြာခင် ပြန်ကျန်းမာလာမယ်လို့ မျှော်လင့်ရတာပဲကွာ။ သူ့ဆေးညွှန်းထဲမှာ ကောလိသိမ်လဲ တွေ့လိုက်တယ်။ တို့တစ်နေ့က ဝယ်ခဲ့တဲ့ ကောလိသိမ် အကောင်းစားတွေ ရှိတယ်မဟုတ်သား။ အတော် ပဲပေါ့ကွာ"

ကျီယုန်သည် ဆေးမည်များဝယ်ရန် ထွက်သွား၏။ ထို့နောက် ဆေးတစ်ဖုံဖော်ပြီးလျှင် ဇနီးသည်ကျင်ကို့အား တိုက်၏။ ထိုဆေး၏ အာနိသင်ကို သိလိုပါမူ နောက်တစ်ခန်းကို ဖတ်ပါလေ။





PDF CREATOR - NYEYADHAMMA@GMAIL.COM

## အခန်း ၁၁

### နိန်စံအိမ်ကြီးတွင် ကျီချင်၏မွေးနေ့ ကျင်းပခြင်း။
### ကျီယွီသည် နတ်ငှက်မယ်ကို မြင်၍ တပ်မက်ခြင်း။

(နိန်စံအိမ်ကြီးမှ ကျီချန်၏ ခမည်းတော်ကြီး) ကျီချင်၏ မွေးနေ့သို့ရောက် လာခဲ့လေပြီ။ ကျီချန်သည် ကောင်းပေ့ဆိုသည့် စားသောက်ဖွယ်များ၊ ရှားပါးသည့် သစ်သီးများကို လက်ဆောင်ခြင်းကြီး ခြောက်လုံး တွင် အပြည့်ထည့်၍ သား ကျီယုန်နှင့် လက်ပါးစေများကို ခမည်းတော် ကြီးထံ အပို့ လွှတ်လိုက်၏။

"မင်းအဘိုး စိတ်လက်ကြည်လင်တဲ့အချိန်မှာ ဝင်ပြီး ကန်တော့ နော်။ အဘိုးပြောလိုက်လို့ အဖေတော့ မလာတော့ဘူးလို့။ ဒါပေမယ့် အဘိုးမွေးနေ့အတွက် အိမ်မှာ အကျေးအမွေးတို့ ဘာတို့လုပ်ပြီး ကန် တော့ကြတယ်လို့လဲ ပြောခဲ့"

ကျီယုန်ထွက်သွားသည့်အခါတွင် ဧည့်သည်များလည်း တဖွဲဖွဲ ရောက်လာကြ၏။ ကျီလျံနှင့် ကျီချိန်တို့ ပထမဆုံး ရောက်လာကြလေ၏။ ဝင်းထဲတွင် ကုလားထိုင်များ ချထားသည်ကို မြင်သည့်အခါတွင် ဇာတ် ပွဲတို့ ဘာတို့ ပါသေးသလောဟု မေးမြန်းကြ၏။

"အစတုန်းကတော့ ဘိုးဘိုးကြီး လာလိမ့်မယ်ထင်လို့ သခင်ကြီး က ပွဲတို့ ဘာတို့ မထည့်ဘူးခင်ဗျ။ ဒါပေမယ့် တစ်မြန်နေ့ကတော့ ဘိုး

ဘိုးကြီး မလာနိုင်ဘူးဆိုတာနဲ့ သခင်ကြီးက အငြိမ့်နဲ့ တူရိယာဝိုင်း ဝိုင်း ငှားခိုင်းလိုက်တယ်။ ဥယျာဉ်ထဲမှာ အဆင်သင့်ဖြစ်နေပါပြီ'' အစေတော်များက ပြောကြ၏။

ဓဏကြာလျှင် သခင်မဆင့်၊ သခင်မဝမ်၊ နတ်ငှက်မယ်နှင့် ပေါ ယုတို့လည်း ရောက်လာကြ၏။ ၎င်းတို့အား ကျိချန်နှင့် မမယုတို့က ကြိုကြ၏။ မွေးနေ့အတွက် မမယု၏ မိခင်လည်း ရောက်လျက်ရှိလေ၏ ဧည့်သည်များအား နှုတ်ဆက်၍ နေရာချပေးပြီးလျှင် ကျိချန်နှင့် မမယု တို့ကိုယ်တိုင် လက်ဖက်ရည်ကို တည်ခင်းကြ၏။

ကျိချန်က ပြုံးလျက်

''မယ်မယ်က ကျွန်တော်တို့ရဲ့ လက်ရှိ ဆွေမျိုးထဲမှာ အသက် အကြီးဆုံးခင်ဗျ။ ဖေဖေဆိုတာ မယ်မယ်ရဲ့တူ မဟုတ်လား။ အသက် ကြီးတဲ့အတွက် ကရိကထများမှာစိုးလို့ မယ်မယ်ကို မဖိတ်တော့ဘူးလို့ ဒါပေမယ့် ရာသီဥတုကလဲကောင်း၊ ဥယျာဉ်ထဲမှာလဲ မယ်မယ်ကြိုက်တဲ့ ဂန္ဓမာတွေပွင့်နေတာနဲ့ အတော်ပဲဆိုပြီး ဖိတ်လိုက်တာ။ ပြီးတော့ မြေးတွေ၊ မြစ်တွေ ပျော်ကြ ပါးကြတာကို မြင်ရတော့ မယ်မယ်လဲ စိတ် အပြောင်းအလဲ ရအောင်လို့ လာမှာပဲလို့ ထင်နေတာ။ ဒါပေမယ့် မယ် မယ် မလာဘူးခင်ဗျာ'' ဟု ကျိချန်က ပြော၏။

သခင်မဝမ်က မည်သို့မျှ မပြောရသေးမီ နတ်ငှက်မယ်က

''မနေ့က အထိတော့ လာဖို့အစီအစဉ်ရှိတယ် အစ်ကိုကြီး ဒါပေမယ့် မနေ့က ညနေပိုင်းမှာ ပေါက်ယုက မက်မုံသီးစားတာ မြင် တော့ ငါလဲစားဦးမယ်ဆိုပြီး နည်းနည်းရယ်လို့ စားလိုက်တာ သုံး နီးပါး ကုန်သွားတယ်။ ဒါနဲ့ ညကတော့ နှစ်ကြိမ်လောက်ထရတယ် အိပ်ရေးပျက်တော့ ဒီနေ့မနက်မှာ မလိုက်နိုင်တော့ဘူးပေါ့။ သူမလာနိုင် ဘူးဆိုတာလဲ ပြောလိုက်ပါလို့ ငှက်မယ်ကို သေသေချာချာ မှာလိုက်ပါ တယ်။ ဒါပေမယ့် အစာကြေလွယ်တဲ့ စားစရာ သောက်စရာ ရှိရင် တော့ ပို့လိုက်ပါတဲ့''





''ဩော် ဒါကြောင့်ကိုး။ နို့မို့ယင် မယ်မယ်က ဒီလိုပွဲလမ်း မျိုးကို တယ်သဘောကျတာ။ မလာတော့ တစ်ခုခုတော့ ဖြစ်လို့ပဲလို့ အောက်မေ့လိုက်မိပါရဲ့''

''နို့ နေစမ်းပါဦး။ ကျိယုန့်ရဲ့မိန်းမ ကျင်ကို့ကော။ နေ မကောင်းလို့ဆို။ မနေ့က ငါ့ကို ငှက်မယ်ပြောတယ်'' ဟု သခင်မဝမ်က မေး၏။ မမယုက

''သူ့ရောဂါကလဲ ဘာမှန်းမသိပါဘူး ဒေါ်လေးဝမ်ရယ်။ နှစ် သစ်ကူးပွဲတော်တုန်းကဆိုယင် မယ်မယ်ရယ်၊ ဒေါ်လေးဝမ်ရယ်၊ သူရယ် ညဉ့်နက်မှ ပြန်လာကြတယ် မဟုတ်လား။ အဲဒီတုန်းက ဘာမှမဖြစ်ဘူး။ ဒါပေမယ့် ပြီးခဲ့တဲ့ လပြည့်ကျော် ငါးရက်လောက်ကစပြီး ဒေါ်လေး ရဲ့မြေး ဘာဖြစ်မှန်းမသိပါဘူး။ တစ်နေ့တခြား အားနည်းလာပြီး အစားအသောက်ပျက်လာတာပဲ။ ပြီးတော့ ဓမ္မတာ မလာတာကလဲ နှစ် လလောက်ရှိပြီ''

ကျိရှဲ၏မိန်းမ ဒေါ်လေးဆင့်က

''ကိုယ်ဝန်ရှိလို့များလား မှ မသိဘဲအေ့'' ဟု ပြောလေ၏။

ထိုစဉ် ကျိရှဲ၊ ကျိချိန်နှင့် အခြားဧည့်သည်များလည်း ရောက် လာ၏။ ဧည့်သည်များမှာ အိမ်ရှေ့ခန်းတွင် ရောက်နေကြလေပြီ။ ကျိ ချန်သည် ဧည့်သည်များဆီသို့ ထွက်သွားလေ၏။ မမယုက ဆက်၍

''တချို့ သမားတော်များကလဲ ဒီလိုပဲ ပြောကြတာပဲ ဒေါ် လေးရဲ့။ ဒါပေမယ့် မနေ့ကတော့ ဖုန်ဇူယင်နဲ့ခင်တဲ့ သမားတော်ကြီး တစ်ယောက် လာကြည့်တယ်။ သူကတော့ ကိုယ်ဝန်ရှိတာ မဟုတ်ဘူး တဲ့။ ရောဂါတဲ့။ သူပေးသွားတဲ့ ဆေးကို သောက်လို့ ဒီနေ့တော့ နည်း နည်းမူးတာ မော်တာ သက်သာပါရဲ့။ ဒါပေမယ့် သိပ်တော့ မထူးလှ သေးဘူး''

''တော်တော်တန်တန်ဆိုယင်တော့ ဒီပွဲကိုသူလာမှာပါ'' ဟုနတ် ငှက်မယ်က ပြော၏။

"လုဆန်းသုံးရက်နေ့က သူနဲ့ငှက်မယ် ဒီမှာ တွေ့သွားကြသေးတယ် မဟုတ်လား။ ငှက်မယ်နဲ့ တစ်နေကုန် ရှိနေတာပဲ။ သူက ငှက်မယ်ဆိုယင် တကယ်ချစ်တာ။ ငှက်မယ်လာယင် သူ တော်တော်နဲ့ မခွဲနိုင်တော့ဘူး"

နတ်ငှက်မယ်၏ မျက်လုံးများတွင် မျက်ရည်တွေ ဝေ့လာကြ၏။ ဖောကြခသည့်အခါတွင် နတ်ငှက်မယ်က

"ဒါကြောင့် ရှေးလူကြီးများ ပြောကြတာပဲနော်။ မုန်တိုင်းဆိုတာ သတိမပေးဘဲလာတတ်တယ်တဲ့။ ကြမ္မာဆိုတာလဲ ညတွင်းချင်းရောက်လာတတ်တယ်တဲ့။ တယ်မှန်တဲ့စကားပဲ။ ဒီလို ငယ်ငယ်ရွယ်ရွယ် ချောချောလှလှကလေးတောင် မကျန်းမမာ ဖြစ်ရတယ်ဆိုတော့ လောကကြီးမှာ နေချင်စရာတောင် မကောင်းတော့ပါဘူး မမယုရယ်"

ထိုသို့ ပြောဆိုနေကြစဉ် ကျိယုန် ရောက်လာလေ၏။ ကျိယုန်က သူ့အမေ မမယုဘက်သို့လှည့်၍

"ဘိုးဘိုးကြီးဆီကို စားစရာတွေသွားပို့တာ။ ဖေဖေလဲ ညီအစ်ကို မောင်နှမတွေ၊ ဆွေမျိုးသားချင်းတွေကို ညှော်ခံနေတယ်။ ဘိုးဘိုးကြီးက သူ့ဆီလာပြီး ကန်တော့မနေကြနဲ့ပြောလို့ မလာတော့ဘူးလို့ပြောလိုက်တော့ ကျေနပ်သွားတယ်။ ကျွန်တော်တို့က လူငယ်တွေကို ညှော်ခံနေ တုန်းမှာ ဖေဖေက သက်ကြီးရွယ်အိုတွေကို ကောင်းကောင်း ညှော်ခံပါတဲ့၊ ပြီးတော့ သူရေးတဲ့ 'ဝိဝဋ္ဋသံခိပ်ကျမ်း' ကိုလဲ အုပ်ရေ တစ်သောင်း ရိုက်ပြီး အမြန်ဆုံးဒါနပြုချင်တယ်တဲ့။ ဒီအကြောင်းကို ဖေဖေ့ကိုတော့ ပြောပြီးပါပြီ။ အဲဒီတော့ အဘိုးလေးတွေ၊ ဦးကြီး၊ ဦးလေးတွေကို လိုက်ညှော်ခံလိုက်ဦးမယ်"

နတ်ငှက်မယ်က

"ဩော် ကျိယုန်ရေ ဖောကလေး။ ကျင်ကို့အခြေအနေ ဘယ်လို နေသေးသလဲဟင်" ဟု မေး၏။

ကျိယုန်၏မျက်နှာသည် မှုန်မှိုင်းသွားကာ





"သိပ်တော့ မကောင်းသေးဘူး ဒေါ်လေး၊ ဒေါ်လေးပြန်ခါနီးတော့ ဝင်ကြည့်သွားပါဦးလား" ဟုဆိုကာ ထွက်သွားလေ၏။

မမယုက ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့ ဘက်သို့ လှည့်၍

"ဒေါ်လေးတို့ ဒီမှာပဲ သုံးဆောင်ကြမလား၊ ဥယျာဉ်ထဲမှာ သုံးဆောင်ကြမလား၊ ဥယျာဉ်ထဲမှာတော့ အဖြိမ့်လဲကတော့မယ်။ ပြင်နေကြပြီ"

"ကောင်းတာပေါ့အေ။ ဒီမှာ ဘာလို့စားမလဲ။ ဥယျာဉ်ထဲက ပိုကောင်းတာပေါ့" ဟု ဒေါ်လေးဝမ်က ပြောလေ၏။

ဒေါ်လေးဆင့်ကလည်း ထိုအကြံကို သဘောတူ၏။

ထို့ကြောင့် မမယုသည် ဥယျာဉ်ထဲတွင် စားသောက်ဖွယ်များကို အပြင်ခိုင်းလိုက်၏။ အပြင်ဘက်မှ ဟုတ်ကဲ့ဟု တညီတညာတည်း အော်သံကို ကြားလိုက်ရပြီးနောက် အစေတော်များသည် ပန်းကန်များကို ပြင်ဆင်လျက်ရှိကြလေ၏။ ဖောကြာလျှင် အားလုံးအဆင်သင့်ဖြစ်နေလေပြီ။ မမယုသည် ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်နှင့် သူ့အမေကို အထူး ညှော်သည်များအဖြစ် နေရာကောင်းတွင် ထိုင်စေပြီးသော် သူနှင့် နတ်ငှက်မယ်တို့က ဘေးက စားပွဲကလေးတစ်လုံးတွင်ထိုင်ကြ၏။

ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့က

"အမှန်ကတော့ ဦးကြီးကို ကန်တော့ဖို့ လာကြတာအေ့။ ဒါပေမယ့် သူမလာတော့ တို့ဘာသာတို့ပဲ မွေးနေ့ပွဲကျင်းပရတော့မှာပေါ့"

"ဘိုးဘိုးကြီးက အေးအေးဆေးဆေး နေရတာကို သိပ်ကြိုက်တာ ဒေါ်လေးရဲ့။ ကြည့်ပါလား။ ခုလို ဘုန်းကြီးကျောင်း သွားနေရတာကိုက ဘယ်လောက် ကြာပလဲ။ ခုလောက်ဆိုယင် ဉာဏ်စဉ်တွေ တာတွေရပြီး ဒေါ်လေးတို့ ပြောတာတွေကို အလိုလိုသိချင်သိနေမှာ" ဟု နတ်ငှက်မယ်က ပြောလေ၏။

သူ့စကားကြောင့် အားလုံးက ဝိုင်းရယ်လိုက်ကြ၏။ အမျိုးသမီးများမှာ စားသောက်ပြီးကြသည့်အတွက် ပလုတ်ကျင်းကာ လက်ဆေးလျက်ရှိကြ၏။ သူတို့တစ်တွေ ဥယျာဉ်သို့ ဆင်းမည် ပြုသည့်အခါ၌ ကျိယုန်ရောက်လာကာ

''ဘိုးလေးတို့ ဦးကြီးတို့ ဦးလေးတို့နဲ့ ကျွန်တော်တို့တွေကတော့ စားလို သောက်လို ပြီးကုန်ကြပြီမေမေ။ ဦးလေး ကျိုရဲ့ကတော့ အိမ်မှာ လုပ်စရာလေးရှိလို့ ပြန်တော့မယ်တဲ့။ ဦးလေးကျိုချိန်ကလဲ ပွဲတွေဘာတွေ ကိုသူဝါသနာမပါလို့ပြန်တော့မယ်တဲ့။ ဦးလေးကျိုလျှံနဲ့ အစ်ကိုကျိုကျန်း ကတော့ ပွဲလာကြည့်လိမ့်မယ်''

''နာနန်း မင်းသား၊ တုန်ပင်းမင်းသား၊ ဆီနင်းမင်းသားနဲ့ ပေကျင်း မင်းသားတို့ဆီကရယ်၊ နီယူမြို့စား၊ ချင်ကူမြို့စားနဲ့ တခြားမြို့စား ငါးဦးဆီကရယ်၊ ချွန်ချင်းက မြို့စားကဲတော်ကြီး ရှိနဲ့ တခြားမြို့စားကတော်ကြီး ၇ ဦးဆီကရယ် လက်ဆောင်ထုပ်တွေနဲ့ နှုတ်ဆက်ထားတောင်း ကတ်ပြားတွေ ပို့လိုက်တယ် မေမေ။ ဖေဖေကိုလဲ ပြောပြီးပါပြီ။ လက်ဆောင် ပစ္စည်းတွေကတော့ ဂရို့ရှံထဲကို သွားထားလိုက်ပြီ။ စာရင်းကိုလဲ မှတ်ထားပြီးပါပြီ။ ကျေးဇူးတင်စွာဖြင့် ရရှိပါသည်လို့ ရေးပြီး ဖေဖေ့လက်မှတ်ထိုးထားတဲ့ ကတ်ပြားတွေကိုလဲ လက်ဆောင် ပစ္စည်းလာပို့တဲ့ အစေတော်များကို အားလုံးပေးပြီးပါပြီ။ ပစ္စည်းလာပို့တဲ့ အစေတော်များကိုလဲ ထိုက်သင့်တဲ့ဆုကြေးများပေးပြီး ထမင်းတို့ ဘာတို့လဲ ကျွေးပြီးပါပြီ။ ဒီတော့ မေမေက ဟောဒီက ဧည့်သည်တွေကို ဥယျာဉ်ထဲမှာ နေရာယူဖို့ ခေါ်သွားပေတော့''

''ငှက်မယ်ကတော့ ကျင်ကို့ကို ဓာဝင်ကြည့်ချင်တယ်။ နောက်မှ လိုက်လာခဲ့မယ်နော်'' ဟု နတ်ငှက်မယ်က ပြော၏။

''အေး အေး၊ ကောင်းတယ်။ အမှန်ကတော့ တို့အားလုံးသွားမေးဖို့ ကောင်းတာ။ သူ အနေ့ခင့်အယုက် ဖြစ်နေမှာစိုးလို့။ ညည်း တစ်ယောက်တည်းပဲ သွားမေးလိုက်တော့။ အားလုံးက မေးလိုက်တယ် ဆိုတာလဲ ပြောခဲ့နော်''ဟု ဒေါ်လေးဝမ်က ပြော၏။

မမယုက

''ဟုတ်တယ်၊ ငှက်မယ်သွားတာ ကောင်းတယ်။ ကျင်ကို့က ငှက်မယ်ကို သိပ်ချစ်တာ။ ငှက်မယ်သွားမေးတယ်ဆိုယင် မမယုလဲ ဝမ်း အေးရတာပေါ့။ ဒါပေမယ့် ဥယျာဉ်ထဲကိုလဲ လာခဲ့ဦးနော်''





ပေါက်ယုက သူလည်း နတ်ငှက်မယ်နှင့် အတူလိုက်မည်ဟု ပြော၏။ ပေါက်ယု၏ အမေ ဒေါ်လေးဝမ်က

''လိုက်သွားချင်ယင် လိုက်သွားလေ။ ဒါပေမယ့် သိပ်တော့ မကြာနဲ့နော်။ ကျင်ကို့ဟာ ကိုယ့်တူရဲ့ မိန်းမဆိုတော့ တူမလို့ပြောယင်လဲ ရတာပေါ့ကွယ်''

မမယုသည် ဒေါ်လေးဝမ်၊ ဒေါ်လေးဆင့်နှင့် သူ့အမေကို ပန်းပေါင်းနံ့သာ ဥယျာဉ်သို့ ခေါ်သွားပြီး နတ်ငှက်မယ်နှင့် ပေါက်ယုတို့မှာမူ ကျင်ကို့ကိုကြည့်ရန် ကျိုယုန်နှင့်အတူ လာခဲ့ကြ၏။

သူတို့သည် ကျင်ကို့၏ အခန်းဆောင်သို့ အသာဝင်လာခဲ့ကြရာ ကျင်ကို့က ထထိုင်မည် ပြုသည့်အခါတွင် နတ်ငှက်မယ်က ''မထနဲ့လေ ကျင်ကို့။ မူးနေလိမ့်မယ်'' ဟု ဆိုကာ ခုတင်နားသို့ ကပ်လာပြီး ကျင်ကို့၏လက်ကို ကိုင်လိုက်လျက်

''တော်တော်လေးတော့ ကျသွားတယ်နော်'' ဟု ပြောလေ၏။

နတ်ငှက်မယ်သည် ခုတင်စွန်းတွင် ဝင်ထိုင်လိုက်ကာ ပေါက်ယုမှာမူ ကျင်ကို့၏ ကျန်းမာရေးအကြောင်းကို မေးမြန်းပြီးလျှင် ကုလားထိုင်တစ်လုံးတွင် မျက်နှာချင်းဆိုင် ဝင်ထိုင်လိုက်လေ၏။

''လက်ဖက်ရည် ယူခဲ့ကြစမ်းပါ'' ဟု ကျိုယုန်က လှမ်းပြောလိုက်လေ၏။

ကျင်ကို့သည် နတ်ငှက်မယ်၏လက်ကို ကိုင်ကာ ကြုံးစား၍ပြုံးလိုက်ရင်းက

''ဒီလို မိသားစုထဲမှာ ကျင်ကို့ရောက်လာရတာဟာ ကံထူးပါတယ် ငှက်မယ်ရယ်။ တကယ်ကတော့ ကျင်ကို့နဲ့တောင် မထိုက်တန်ပါဘူး။ ယောက္ခမတွေကလဲ ကျင်ကို့ကို သမီးရင်းလို ဂရုစိုက်ကြပါတယ်။ ကျိုယုန်ဟာ ငယ်ပါသေးတယ်။ ဒါပေမယ့် ကျင်ကို့တို့ နှစ်ယောက်ဟာ တစ်ယောက်ကိုတစ်ယောက် အပြန်အလှန် လေးစားကြလေတော့ ခွန်းကြီးခွန်းငယ် များခဲ့ရတာရယ်လို့ မရှိခဲ့ပါဘူး။ တကယ်ကတော့ ဒီမိသားစု အားလုံး လူကြီးလူငယ်မရွေး ကျင်ကို့အပေါ်မှာ ကောင်းခဲ့ကြပါတယ်။ ငှက်မယ်ကတော့ အထူးပြောစရာတောင် လိုမယ်

မထင်တော့ပါဘူး။ ကျင်ကို့အပေါ်မှာ ကြင်ကြင်နာနာ ရှိပါတယ်။ ဒါပေမယ့် ကျင်ကို့ဟာ မကျန်းမမာဖြစ်ပြီး စိတ်ဓာတ်ကလဲ လျော့ ပါးနေတော့ ချွေးမကောင်း တစ်ယောက် မဖြစ်နိုင်တော့ဘူး ငှက်မယ် ပြီးတော့ ငှက်မယ် ကျင်ကို့အပေါ်မှာ ဆောင်းခဲ့တာတွေကို ကျေးဇူး ဆပ်ချင်ပေမယ့် ကျင်ကို့မှာ ကျေးဇူးဆပ်နိုင်တဲ့ အားမရှိတော့ဘူး။ ကျင်ကို့အထင်တော့ ကျင်ကို့ဟာ ဒီနှစ်ကုန်အောင်တော့ ခံပါတော့ မလားမသိဘူး”

ပေါက်ယုကား နံရံတွင်ချိတ်ထားသည့် “နွေဦး၌ ပန်းသီးချ ပင်ရိုင်းပင်အောက်တွင် အိပ်ပျော်ခြင်း” ဟူသော ပန်းချီကားကြီးကို ငေးကြည့်နေ၏။ ပန်းချီကားအောက်တွင် ရှေးခေတ်စာဆို ကျင်ကွမ်း၏ ကဗျာတိုလေး တစ်ပုဒ်ကို ရေးထားလေ၏။

နွေဦးပေါ်စ၊ ချမ်းမြမြကြောင့်
အလုအိပ်မက်၊ နိုးတစ်ဝက်၌
အရက်မွှေးကြည်၊ ရိတီတီနှံ့
သင်းပျံ့အေးကြူ၊ ငါ့ကိုချူလျက်။ ။

ပေါက်ယုသည် မာယာဒေဝီ ခေါ်သွားသည့် အိပ်မက်ထဲက ဘုံဗိမာန်ကို အမှတ်ရနေလေ၏။ ယခု ကျင်ကို့၏စကားများသည် လူ့ အသည်းကိုမြားအ်စင်းပေါင်း တစ်သောင်းဖြင့် ပစ်သကဲ့သို့ စူးဝင်သွား၏။ ပေါက်ယု၏မျက်လုံးတွင် မျက်ရည်တွေ အလိုလိုဝဲလာ၏။ နတ်ငှက် မယ်ကိုယ်တိုင်မှာလည်း ထိုစကားများကြောင့် စိတ်ထိခိုက်သွားသည့် တိုင် လူမမာ စိတ်ထိခိုက်မည် စိုးသည့်အတွက် နှစ်သိမ့်သည့် စကားများ ကို ပြောကာ အာရုံပြောင်းအောင် ကြိုးစားလေ၏။ နတ်ငှက်မယ်သည် ပေါက်ယုဘက်သို့ လှည့်လိုက်၏။

“မောင်လေးကလဲ ဘာဖြစ်လို့ ငိုနေရတာလဲ။ ရောဂါက ပြောသလောက်လဲ ဆိုးတာ မဟုတ်ပါဘူး”ဟု ငေါက်လိုက်ပြီး ကျင်ကို့ဘက်သို့လှည့်ကာ





“ကျင်ကို့ရောဂါက အသေးအဖွဲ့ပါကွယ်။ ဘာမှ မဖြစ်လောက် ပါဘူး။ ဒီအရွယ်နဲ့ ဒီလောက်ဖြစ်တာကတော့ ဘာမှမဖြစ်ပါဘူး။ အဲဒီလို မဟုတ်က ဟုတ်ကတွေ လျှောက်တွေးနေမှ ရောဂါပိုဆိုးလာလိမ့်မယ်”

“အစာမဝင်လို့ပါ။ အစာဝင်သွားယင် ကောင်းလာမှာပါ”ဟု ကျိယုန်က ပြောလေ၏။

နတ်ငှက်မယ်က ပေါက်ယုဘက်သို့လှည့်၍

“မောင်လေးကို ဒေါ်လေးဝမ်က ကြာကြာမနေနဲ့လို့ မှာလိုက် တယ် မဟုတ်လား။ ပြန်တော့လေ။ ဒီမှာ မောင်လေးရှိနေယင် ကျင် ကို့လဲ မောင်လေးငိုတာမြင်ပြီး စိတ်မကောင်းဖြစ်နေလိမ့်မယ်။ ဒေါ် လေးဝမ်လဲ စိတ်ပူနေလိမ့်မယ်။ ခု သမားကောင်းနဲ့ တွေ့ပြီဆိုတော့ မကြာခင် နာလန်ထလာတော့မှာပါ။ သိပ်လဲ စိတ်ပူမနေပါနဲ့”

ထို့နောက် ကျိယုန်ဘက်သို့ လှည့်၍

“မောင်လေး ဥယျာဉ်ထဲကိုလိုက်ပို့လိုက်ပါလား၊ ငှက်မယ်တော့ ဒီမှာစောင့်နေရစ်ခဲ့ဦးမယ်”ဟု ပြော၏။

သို့ဖြင့် ကျိယုန်သည် ပေါက်ယုကို ပန်းပေါင်းနံ့သာ ဥယျာဉ်သို့ ခေါ်သွားသည့်အခါတွင် နတ်ငှက်မယ်သည် ကျင်ကို့အား အားပေး နှစ်သိမ့်လျက်ရှိရင်း နားနားသို့ကပ်၍ အကြံပေးလျက် ရှိလေ၏။

မမယုက အစေတော်တစ်ယောက်ကို လွှတ်၍ တတိယအကြိမ် အခေါ်ခိုင်းသည့်အခါ၌ နတ်ငှက်မယ်က

“ကိုယ့်ကိုယ်ကို ဂရုစိုက်နော်။ ငှက်မယ်လဲ မကြာခင်တစ်ခေါက် လာခဲ့ဦးမယ်။ ဆရာကောင်း သမားကောင်းနဲ့ တွေ့နေပြီပဲကွယ်။ မကြာ ခင် နာလန်ထလာမှာပါ။ ဒီလောက်လဲ စိုးရိမ်မနေပါနဲ့”

ကျင်ကို့ကပြုံးလျက်

“ငှက်မယ်ပြောတဲ့ သမားတော်က သိကြားမင်း ဖြစ်ယင်တော့ ရောဂါကိုပျောက်အောင် ကုချင်ကုနိုင်မှာပေါ့ ငှက်မယ်ရယ်။ ဒါပေ မယ့် ကျင်ကို့ရဲ့ကံကြမ္မာကို တစ်မျိုးတစ်ဖုံ ပြောင်းအောင်တော့ သူလဲ တတ်နိုင်မှာ မဟုတ်ပါဘူး။ ကျင်ကို့ကတော့ အချိန်ကိုပဲ စောင့်နေ တာပါပဲ။ သိပ်မကြာတော့ပါဘူး”

"ဒီလိုသာ အားလျှော့နေယင် ဘယ်လိုလုပ်ပြီး နေ ကောင်းနိုင်မလဲ။ အပျက်ဘက်ကိုချည်း တွေးနေတာ။ အကော ဘက်ကိုလဲ တွေးဦးမှပေါ့။ ဘယ်လိုပဲ ဖြစ်ဖြစ် ကျင်ကို့ ရောဂါ လုံးဝ မပျောက်သည့်တိုင် နွေဦးပေါက်အထိတော့ ဘာမှ မစိုးရိမ်ရ လို့ သမားတော်ကြီးက ပြောတယ်တဲ့။ ခုပဲ နဝမ လကို ရောက်နေပြ နောက်ထပ် လေးငါးလ ကျန်ပါသေးတယ်။ ဒီ လေးငါးလမ ကောင်းကောင်း စားလိုက်သောက်လိုက်ယင် နာလန်ပြန်ထလာမှာပေ ကောလိသိမ်မြစ်လို ဆေးကောင်းဝါးကောင်းကို မဝယ်နိုင်ဘူးဆို တော့ တစ်မျိုးပေါ့လေ။ ခုတော့ ဆေးဖိုးဝါးခအတွက်ဆိုလို့လဲ တာ ပူစရာမရှိဘူး။ ကျင်ကို့ရဲ့ ယောက္ခမများဟာ တစ်နေ့ကို ကောလိသိ တစ်မူးသား တစ်မတ်သားလောက် တိုက်ဖို့မပြောနဲ့။နှစ်ပိသာသုံးပိသာ လောက် တိုက်ဆိုယင်လဲ ဝယ်တိုက်နိုင်တဲ့ အင်အားရှိတယ်။ ကဲ ကော ကောင်းသာ အနားယူပါ။ ငှက်မယ်လဲ ဥယျာဉ်ထဲကို ဈေးဆင်းလိုက် မယ်"

ကျင်ကို့က

"ငှက်မယ်နဲ့အတူ လိုက်မကြည့်နိုင်လို့ စိတ်မကောင်းလိုက်တာ အားယင်လာခဲ့ဦးနော် ငှက်မယ်။ အဲဒီတော့မှ စကားတွေ ပြောရအောင်"

ထိုစကားကြောင့် နတ်ငှက်မယ်၏ မျက်လုံးတွင် မျက်ရည်ဝေ ဝဲလာပြန်လေ၏။

"လာမှာပါကွယ်။ အားတိုင်းလာခဲ့မယ်၊ စိတ်ချ"

နတ်ငှက်မယ်သည် သူ့အစေတော်များ၊ နိန်စံအိမ်ကြီးမှ အစေ တော်များနှင့်တကွ ကွေ့ကောက်နေသည့် လမ်းကလေးအတိုင်း ဥယျာ မလှယ်ပေါက်ဆီသို့ လာခဲ့၏။ ထိုနေရာသို့အရောက်တွင် ရှားပါးသ မြင်ကွင်းကို မြင်လိုက်ရလေ၏။





အပွင့်ဝါဝါ၊ ဂန္ဓမာတို့
မြေမှာသက်ဆင်း၊ ကော်ဇောခင်းသို့။
ဝင်းလဲ့စိမ်းမြ၊ မိုးမခတို့
မှိုင်းပျအုပ်ဖုံး၊ တောင်ကုန်းအဆင်း
ပင်ခြေရှင်းလျက်။ ။

စီးဆင်းသွယ်ကျ၊ စမ်းရေစ,တွင်
လှုပတံတား၊ ဖြတ်သန်းထားလျက်။ ။

ကွေ့ကောက်လမ်းငယ်၊ အသွယ်သွယ်လျှင်
ပြေးဝင်ခိုလှုံ၊ အေးရိပ်မြုံသို့။ ။

ယိုစီးထွေထွေ၊ စိမ့်စမ်းရေလည်း
စိမ့်မြေကျောက်မှ၊ ဖြာသွန်ကျလျက်။ ။

ရိဝေသင်းပျံ့၊ ပန်းရနံ့လည်း
စိမ်းဖန့်နွယ်ချုံ၊ ထိုပန်းရုံမှ
သုန်သုန်လေညင်း၊ တသင်းသင်းတည့်။ ။

တောအုပ်ပျိုမှ၊ စိမ်းညိုရိမှိုင်း
အကိုင်းအခက်၊ ယိမ်းလျက်လှုပ်ရှား
ပန်းချီကားသို့။ ။

ဆောင်းဦးလေက၊ အေးစိမ့်မြလျက်
ဂီတာသံနှော၊ ရွှေညိုဩလည်း
ရင့်နှောသံအေး၊ ထံတျာတေးကို
ရင့်ကြွေးရာမှ၊ ဆိတ်ခဲ့ပြီ။ ။

နေခြည်သစ်ဦ၊ ပုရစ်တေးသီ
ဇီဇီမြည်လျက်။ ။

အရှေ့တောင်ဘက်၊ ကုန်းမိုထက်ဦ
ပြိုပျက်တဲ့အိုး၊ မှိုတွဲခိုလျက်။ ။

အနောက်တောင်တွင်၊ သစ်လွင်ခန်းမ
ကန့်ရေစတွင်၊ အလှဆင့်လျက်။ ။

သဲ့သဲ့ကြားပြန်၊ ပလွေသံလျှင်
ကာရန်မပီ၊ တေးနွဲ့သီလျက်။ ။

ပြုံးပြက်ပိုးနီ၊ စိန်ကတ္တီပါ၈
ဝတ်ရုံလှဖြင့်၊ လှပနုနယ်
လုံမငယ်တို့၊ လှည့်လည်သွားလာ
မြင်ရပါသည်၊ ဩော်.... ချစ်စရာရှုခင်းပါဘကား။ ။

နတ်ငှက်မယ်သည် သာယာလှပသည့် ရှုခင်းကို ငေးကြည့်နေစဉ်
အလှလုပ်ထားသည့် ကျောက်ဆောင် ကျောက်ခက်ကြီး တစ်ခုနောက်မှ
လူတစ်ယောက် ထွက်လာကာ "ညီမလေး နေကောင်းတယ်နော်" ဟု
နှုတ်ဆက်၏။ နတ်ငှက်မယ်သည် လန့်ဖျပ်သွားကာ နောက်သို့ ခြေ
တစ်လှမ်း ဆုတ်လိုက်မိလေ၏။

"ဟင် ကျီယွမ်လား"

"ဒါပေါ့ကွယ်။ အစ်ကို့ကိုတော့ မှတ်မိပါတယ်နော်"

"မှတ်မိပါတယ်။ ရုတ်တရက်ဆိုတော့ ဘယ်သူများလဲလို့"

ကျီယွမ်သည် နတ်ငှက်မယ်၏ တစ်ကိုယ်လုံးကို စားတော့ဝါး
တော့ မတတ် သိမ်းကျုံးကြည့်လိုက်ရင်း

"အင်း အစ်ကိုတို့နှစ်ယောက် ကံဆုံလို့ လာတွေ့ကြတာပေါ့
ဟုတ်လား။ အစ်ကိုကလဲ ညှော်ခံပွဲမှာ ငြီးစီစီရှိတာနဲ့ အပြင်ကိုထွက်ပြီး
ပန်းခြံထဲမှာ လျှောက်ကြည့်နေတာ။ ဒီလိုနေတုန်းမှာ ညီမလေးနဲ့ လာ
တွေ့ရတာ။ ဒါဟာ ကံတရားကြောင့် မဟုတ်ယင် ဘာကြောင့်လို့
ပြောဦးမှာလဲ"

နတ်ငှက်မယ်သည် ကျီယွမ်၏ အကဲကို နားလည်လိုက်လေပြီ။
နတ်ငှက်မယ်သည် ပြုံးလိုက်ကာ





"ဒါကြောင့်မို့ အစ်ကို့အကြောင်းကို ကျိုလျှံက မကြာခဏ
ပြောပြောနေတာကိုး။ အစ်ကို့ကို ကျိုလျှံက သိပ်လေးစားတာ။ ဒီနေ့
အစ်ကိုနဲ့တွေ့ပြီး အစ်ကို့စကားတွေကို ကြားလိုက်ရတော့ အစ်ကို ဘယ်
လောက် တော်တယ်ဆိုတာ ကိုယ်တွေ့ကြုံရတာပေါ့။ သွားလိုက်ဦးမယ်
နော် အစ်ကို။ ဒေါ်လေးဝမ်တို့ စောင့်နေကြတယ်။ နောက် များမှ
တွေ့ကြသေးတာပေါ့"

"အစ်ကိုလဲ ညီမတို့ဆီလာချင်နေတာ ကြာလှပြီ။ လာယင် ညှော်မှ
ခံပါ့မလား မသိဘူး။ မောင်းများထုတ်နေဦးမှာလား"

"ကြုံကြိုးစည်ရာ အစ်ကိုရယ်။ ငှက်မယ်တို့နဲ့ အစ်ကိုတို့ဟာ ဆွေ
မျိုးစု တစ်စုထဲမှာ ရောက်နေကြတဲ့လူတွေပဲ။ ဒီလို မရှိင်းတတ်ပါဘူး"
ဟု နတ်ငှက်မယ်က ကြိုးစား၍ ပြုံးရင်းပြော၏။

ထိုစကားကို ကြားရသည့်အခါတွင် ကျီယွမ်မှာ ရွှေအိုးကြီးတွေ့
သကဲ့သို့ ဝမ်းသာသွားကာ နောက်ထပ်အတင့်ရဲလိုသည့် ဟန်အမူအရာ
မျိုး ပေါ်လာသည်ကို မြင်ရ၏။ သို့ရာတွင် နတ်ငှက်မယ်က

"ကဲ အစ်ကိုလဲ ဟိုကလိုက်ရှာနေကြလိမ့်မယ်။ တော်တော်ကြာ
အရက်မသောက်ချင်လို့ တမင်ရှောင်ထွက်သွားတယ် ထင်ပြီး နောက်ထပ်
အတင်းတိုက်နေကြလိမ့်မယ်နော်။ စောစောစီးစီး ပြန်သောက်ထား"

ဤတွင် ကျီယွမ်မှာလည်း မငြင်းသာတော့ပဲ လှည့်ကြည့်လှည့်
ကြည့်ဖြင့် ရှေ့မှထွက်သွား၏။ နတ်ငှက်မယ်သည် မျက်စိမှ သူပျောက်
ကွယ်သွားသည်အထိ ခပ်နွေးနွေးလှမ်း၍ လိုက်လာကာ တစ်ယောက်
တည်း တွေးတောလျက် လာခဲ့လေ၏။

"အင်း လူတစ်ယောက်ရဲ့ မျက်နှာကို ကြည့်ရုံနဲ့ သိနိုင်တယ်။
ဒါပေမယ့် အတွင်းစိတ်ကိုတော့ သိဖို့ မလွယ်ဘူး။ ငါ့ကို ဒီလိုလုပ်လို့
ဘယ်ရမလဲ။ နောက်တစ်ခါ ငါ့ကို လာပြီး ရိုးတီးရားတားလုပ်ယင်တော့
ငါ့လက်ထဲမှာ သေပြီသာ အောက်မေ့ပေတော့။ ငါ့အကြောင်းကို
မြလိုက်ရဦးမှာပေါ့"

ထိုသို့စဉ်းစားရင်း တောင်ကမူကလေး တစ်ခုကို ကွေ့ပတ်လာခဲ့စဉ် မိမိထံသို့ အမောတကော ပြေးလာနေသော အထိန်းတော်များကို တွေ့ရ၏။

"သခင်မဝမ် ကျွန်မတို့ကို ဆူနေတယ်။ နတ်ငှက်မယ်သခင်မလေး မရောက်လာသေးဘူးလားလို့ တမေးတည်း မေးနေတယ်"

"အထိန်းတော်ကြီးတို့ သခင်မဝမ်က စိုးရိမ်တတ်ရန်ကော"

နတ်ငှက်မယ်သည် လျှောက်လာရင်း ဇာတ်ပွဲအခန်း ဘယ်နှစ်ခန်းလောက် ပြီးပြီနည်းဟု မေးမြန်းစုံစမ်းခြင်း ပြု၏။ ရှစ်ခန်းကိုးခန်းလောက် ပြီးပြီဟု ဖြေကြ၏။ သူတို့တစ်သိုက်သည် မာလာဂန္ဓခန်းဆောင်သို့ နောက်ဖေးပေါက်မှ ဝင်လာခဲ့သည်တွင် အစေတော်များနှင့် နောက်ပြောင် ကစားနေသည့် ပေါက်ယုကိုတွေ့ရလေ၏။

"မောင်လေး ကောင်းကောင်း နေနော်"ဟု နတ်ငှက်မယ်က သတိပေး၏။

"အပေါ်ထပ်ဆောင်မှာ သခင်မကြီးတို့ရှိတယ်"ဟု အစေတော် တစ်ယောက်က ပြော၏။

နတ်ငှက်မယ်သည် ဝတ်ရုံကိုမကာ လှေကားသို့တက်မည်အပြုတွင် လှေကားထိပ်တွင် သူ့ကိုစောင့်နေသည့် မမယုကို တွေ့ရလေ၏။

"ငှက်မယ်နဲ့ ကျင်ကိုတို့နှစ်ယောက် တွေ့ယင် ဒီလိုကြာမယ်ဆိုတာ မမယုသိသားပဲ။ ခုလဲ ပေါ်မှလာပေသေးတာကိုး။ မနက်ဖြန်ကျယင် ကျင်ကို့ဆီကို တစ်ခေါက်လောက် လာခဲ့ပါဦးလွှား။ ဒီကိုပြောင်းလာပြီး ကျင်ကို့နဲ့ နေပါလား။ ကဲ ထိုင်စမ်းပါဦး။ မွှေးနေ့ဆုတောင်းလေး ဘာလေး တောင်းကြဦးစို့ရဲ့"

နတ်ငှက်မယ်သည် ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့ကို ခွင့်တောင်း၍ ထိုင်လိုက်ပြီးလျှင် မမယု၏အမေနှင့် စကားပြောလျှက်ရှိ၏။ ထိုနောက် မမယုဘေးတွင်ထိုင်ကာ အရက်ချိုကိုသောက်ရင်း ဇာတ်ပွဲကို ကြည့်လျက်ရှိ၏။ မမယုသည် ဇာတ်ပွဲအစီအစဉ်ကို တောင်းခိုင်းလိုက်ပြီးလျှင် မည်သည့်အစီအစဉ်ကို အထွက်ခိုင်းမည်နည်းဟု အရွေးခိုင်း၏။





"အမယ်လေး မလုပ်ပါနဲ့။ ဒေါ်လေးတို့ရှိလျက်သားနဲ့ ကျော်ပြီး မရွေးရဲပါဘူး။ သူတို့ရွေးပါလိမ့်မယ်"ဟု နတ်ငှက်မယ်ကပြော၏။

ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့ နှစ်ယောက်စလုံးက

"မမယုရဲ့ အမေကတော့ ရွေးပေးပြီးပြီ။ ဒေါ်လေးတို့ကိုယ်စား ငှက်မယ်ပဲရွေးပေးလိုက်ပါကွယ်"ဟု ပြောလေ၏။

နတ်ငှက်မယ်သည် နားထောင်သည့်သဘောဖြင့် မတ်တတ်ရပ်၍ ဦးညွှတ်လိုက်ပြီးနောက် အစီအစဉ်ကို ဖတ်ကြည့်ကာ (မင်မင်းဆက်ခေတ် ပြဇာတ်တစ်ပုဒ်ဖြစ်သည့် 'ပန်းမှုန်ရေပဆောင်' ပြဇာတ်မှ အခန်းတစ်ခန်းဖြစ်သည့်) 'ပြန်လည်မွေးဖွားခြင်း'ဆိုသည့် အခန်းနှင့် (ချင်မင်းဆက်ခေတ် ပြဇာတ်တစ်ပုဒ် ဖြစ်သည့် 'ထာဝရနန်းမျှိခြင်း ဘုံဗိမာန်' ဆိုသည့် ပြဇာတ်ထဲမှ) 'မဟာဂီတ' အခန်းကို ရွေးပေးလိုက်၏။ စာရွက်ကို လှမ်းပေးရင်း နတ်ငှက်မယ်က

"ခု ကနေတဲ့အခန်းက 'နှစ်ထပ်ကွမ်း ရာထူးတိုးခြင်း' ဆိုတဲ့ ဇာတ်တိုကလေး။ အဲဒီအခန်းပြီးယင် နှစ်ခန်းလောက်တော့ ကချိန်ရပါသေးတယ်။ တော်လောက်ရောပေါ့"

ဒေါ်လေးဝမ်က

"အေး ဟုတ်တယ်၊ အိမ်ရှင်တွေလဲ ပင်ပန်းလှရောပေါ့။ နားကြပါစေဦး။ ပြီးတော့ အိမ်မှာလဲ လူမမာနဲ့ဆိုတော့ အားနာစရာ"

မမယုက

"ဒေါ်လေးတို့က လာခဲပါတယ် ဒေါ်လေးရယ်။ နည်းနည်းကြာကြာလေးတော့နေပါဦး။ စောပါသေးတယ်"

နတ်ငှက်မယ်က မတ်တတ်ရပ်လိုက်ကာ ဦးညွှတ်၍

"အမျိုးသားတွေကို ဘယ်မှာဧည့်ခံပါသလဲ မမယု"

"အဲရှေ့ဦးခန်းဆောင်မှာ နည်းနည်းပါးပါးသောက်စားနေကြပါတယ်။ သူတို့မှာ ပန်တျာသည်တွေ ရှိပါတယ်"ဟု အစေတော်များက ပြောကြ၏။

"ငှက်မယ်တို့ရှိယင် သူတို့မှာ အနှောင့်အယှက် ဖြစ်နေမှာ ငှက်မယ်တို့မရှိတုန်း သူတို့ယောကျ်ားတွေ ဘယ်လိုများ ဖြစ်နေကြမလဲ မသိဘူး" ဟု နတ်ငှက်မယ်က ပြော၏။

"ဒါကတော့ လူတိုင်း ငှက်မယ်လို ငြိမ်ငြိမ်ကလေး ဘယ်နေနိုင်ပါ့မလဲကွယ့်" ဟု မမယုက နောက်နေလေ၏။

သို့ဖြင့် မိန်းမတစ်သိုက်သည် ပြဇာတ်ကြည့်ရင်း စကားပြောလျက်ရှိကြ၏။ ခဏကြာလျှင် ပြဇာတ်ပြီး၍ အရက်ချိုခွက်များ သိမ်းသွားကာ ထမင်းပွဲများ ရောက်လာလေ၏။ ထိုနောက်တွင် လက်ဖက်ရည်သောက်ရန် ဧည့်ခန်းသို့လာခဲ့ကြ၏။ ဧည့်သည်များသည် မမယု၏အမေကို နှုတ်ဆက်ပြီးနောက် ရထားများဖြင့်ပြန်သွားကြ၏။ မမယုနှင့် အစေတော်များက ဧည့်သည်များကို ရထားသို့အရောက် လိုက်ပို့ကြ၍ ဝင်းဝတွင် သူတို့ကိုစောင့်နေသော ကျွန်နှင့်လူငယ်များကိုတွေ့ရ၏။ ကျွန်က နောက်တစ်နေ့တွင် ထပ်လာရန် ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့ကို ထပ်၍မှာနေလေ၏။ သို့ရာတွင် ဒေါ်လေးဝမ်က

"အမယ်လေး ကျုပ်တို့ ဒီမှာတစ်နေ့လုံး လာထိုင်နေတာ မကျေနပ်သေးဘူးလား။ မနက်ဖြန်တော့ မလာနိုင်ဘူးတော့။ နားရဦးမယ်" ဟုပြော၏။

ဧည့်သည်များက ရထားပေါ်တက်နေစဉ်တွင် ကျွယ့်မှာ နတ်ငှက်မယ်ကိုသာ တစ်ချိန်လုံး စိုက်ကြည့်လျက်ရှိ၏။ ကျွန်နှင့် အိမ်မှ အိမ်သားများ အိမ်ထဲသို့ ပြန်ဝင်လာသည့်အခါ၌ လီကွေ့က ပေါက်ယု၏မြင်းကို ယူလာလေရာ ပေါက်ယုသည်း မြင်းပေါ်သို့တက်ကာ ရထား၏နောက်မှ စီးလိုက်လာခဲ့၏။ ညစာ ထမင်းစားသောက်ပြီးသည့် အခါ ကိုယ့်အဆောင်သို့ကိုယ် ပြန်ကုန်ကြသဖြင့် လူစု ကွဲသွားကြလေ၏။ နောက်တစ်နေ့တွင် သူတို့ တပည့်လက်သားများအား မည်သို့ကျေးမွေးကြသည်ကိုမူ အကျယ်မရေးတော့ပြီ။

ကျင်ကို့၏ ကျန်းမာရေးမှာ သိသိသာသာကြီးကောင်းလာခြင်း မရှိသည့်တိုင် အနည်းငယ် သက်သာသယောင်ရှိ၏။ နတ်ငှက်မယ်သည် ကျင်ကို့ထံ မကြာခဏ ရောက်လာတတ်၏။ မိဘများနှင့် ယောကျ်ား





ဖြစ်သူ ကျွန်တို့မှာ ကျင်ကို့၏ အခြေအနေကိုကြည့်၍ အားလျော့စပြုလာခဲ့ကြလေပြီ။ ကျွယ့်သည် နတ်ငှက်မယ်ကိုတွေ့ရန် ယွန်းစံအိမ်ကြီးသို့ မကြာခဏ လာလေ့ရှိသည့်တိုင် နတ်ငှက်မယ်မှာ ကျင်ကို့ထံ သွားနေတတ်သဖြင့် မတွေ့ရချေ။

ကေဒသမလ၏ လဆန်း တစ်ဆယ့်သုံးရက်မှာ မကာရရာသီသို့ ကူးပြောင်းသည့် သမယဖြစ်၏။ နီးကပ်လာသောအခါတွင် မယ်မယ်၊ ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်နှင့် နတ်ငှက်မယ်တို့သည် ကျင်ကို့၏ ကျန်းမာရေးကို နေ့စဉ်နေ့တိုင်း လူလွှတ်၍ မေးမြန်းစုံစမ်း၏။ မေးမြန်းသည့်အခါတိုင်းလည်း ကျင်ကို့၏ ကျန်းမာရေးအခြေအနေမှာ ထူး၍လည်းမကောင်း၊ ထူး၍လည်းမဆိုးလှဘဲ တန့်နေသည်ကို တွေ့ရ၏။

ဒေါ်လေးဝမ်က "ခုလိုရာသီမှာ ရောဂါဆိုးမလာဘူးဆိုယင်တော့ မျှော်လင့်ချက်ရှိပါသေးတယ်။ မဆိုးလှသေးပါဘူး" ဟု မယ်မယ့်ကို ပြောပြ၏။

"အင်း၊ ဟုတ်တာပေါ့၊ ကျင်ကို့သာ တစ်ခုခုဖြစ်သွားယင် ငါ ရင်ကျိုးရချည်ရဲ့အေ" ဟု မယ်မယ်အပြော၏။ မယ်မယ်သည် နတ်ငှက်မယ်ကို သူ့အဆောင်သို့ အခေါ်လွှတ်ပြီးလျှင်

"ငှက်မယ်၊ ညည်းနဲ့ကျင်ကို့ဟာ သိပ်ချစ်ကြတဲ့ သူငယ်ချင်းတွေ။ မနက်ဖြန်ဆိုယင် ဒွါဒသမလ လဆန်းတစ်ရက်နေ့ပဲ။ နှစ်ရက်နေ့ကျယင်တော့ ကျင်ကို့ကို သွားကြည့်ချည်စမ်းပါ။ အခြေအနေကောင်းတယ်ဆိုယင် ငါ့ဆီကို မြန်မြန်လာပြောလှည့်စမ်း။ ဒါမှ ငါ စိတ်ငြိမ်အေးမယ်။ ပြီးတော့ သူကြိုက်တတ်တဲ့ အစားအသောက်တွေကိုလဲ လုပ်ပြီး အပို့လွှတ်လိုက်"

နတ်ငှက်မယ်သည် ခိုင်းသည့်အတိုင်း လုပ်ပါမည်ဟု ကတိပေးပြီးနောက် လဆန်းနှစ်ရက်နေ့သို့ ရောက်လျှင် ကျင်ကို့ကိုကြည့်ရန် နိန်စံအိမ်ကြီးသို့ လာခဲ့၏။ လူမမာမှာ ဆိုးလာခြင်းမရှိသော်လည်း လွန်စွာ ချုံးကျသွားခဲ့လေပြီ။ နတ်ငှက်မယ်သည် လူမမာအနီးတွင် ထိုင်ကာ အတန်ကြာမျှ စကားပြောဆိုရင်း ဘာမျှ စိုးရိမ်ဖွယ်မရှိကြောင်း အားပေးလျက်ရှိ၏။

“နေ့ဦးပေါက်လောက် ရောက်ယင်တော့ ကျင်ကို့ပြန်ပြီး နေကောင်းမကောင်း သိရမှာပေါ့ ငှက်မယ်ရယ်။ ကောင်းလိမ့်မယ်လို့တော့ မျှော်လင့်ရတာပဲ။ မကာရ ရာသီကျော်လာပြီပဲ။ သိပ်တော့ မစိုးရိမ်ရတော့ပါဘူး။ မယ်မယ်နဲ့ ဘွားလေး ဝမ်တို့ကို ပြောလိုက်ပါ။ ဒီလောက်လဲ စိတ်ပူမနေကြပါနဲ့လို့။ မနေ့ကဆိုယင် မယ်မယ်ပို့လိုက်တဲ့ စွန်ပလွံယိုဌာပနာထားတဲ့ မုန့်က သိပ်ကောင်းတာပဲ။ နှစ်ခုတောင် ကုန်သွားတယ်။ မယ်မယ်တို့ ဘွားလေးဝမ်တို့ဟာ ကျင်ကို့အပေါ်မှာ ကောင်းရှာကြပါတယ်။ အဲဒီမုန့်တွေ စားလိုက်လို့ ဒီလောက် အားရှိသွားတာပေါ့”

“ဒီလိုဆိုယင် မနက်ဖြန်မှာ လုပ်ပြီးပို့လိုက်ဦးမယ်လေ။ ကဲ ငှက်မယ်လဲ မမယုကို နှုတ်ဆက်ပြီး မြန်မြန် ပြန်မှဖြစ်မယ်။ မယ်မယ်တို့ ဒေါ်လေးဝမ်တို့က ကျင်ကို့အကြောင်းကို သိချင်လှရော့မယ်”

“မယ်မယ်နဲ့ ဘွားလေးဝမ်တို့ကို ကျင်ကို့က ကန်တော့လိုက်တယ်လို့ ပြောလိုက်နော်”

သူ မှာသည့်အတိုင်း ပြောမည်ဟု ကတိပေးပြီးနောက် နတ်ငှက်မယ်သည် ပြန်လာခဲ့လေ၏။ မမယုနှင့်တွေ့ရာတွင် မမယုက

“ကဲ ငှက်မယ်။ ဘယ်လိုထင်သလဲ။ မမယုကို ပွင့်ပွင့်လင်းလင်း ပြောစမ်းပါ” ဟု မေးလေ၏။

နတ်ငှက်မယ်က ခေါင်းကို ငုံ့လိုက်လျက်

“ငှက်မယ်အထင် ပြောရမယ်ဆိုယင်တော့ အခြေအနေ သိပ်မကောင်းဘူးလို့ ထင်တာပဲ။ အသုဘအတွက် ပြင်စရာရှိတာကို ပြင်ထားယင်ကောင်းမယ်။ ဒီလိုလုပ်ယင် ယတြာချေပြီးသား ဖြစ်ပြီး ကျိန်းကြေသွားနိုင်တာပေါ့”

“အင်း မမဘာသာ ကျိတ်ပြီး လုပ်တော့လုပ်ပြီးပါပြီကွယ်။ ဒါပေမယ့် ပျဉ်က စိတ်တိုင်းကျကျ မရလို့ ခုလောလောဆယ်တော့ ရပ်ထားလိုက်ရတယ်”

လက်ဖက်ရည် အနည်းငယ် သောက်၍ စကားအနည်းငယ် ပြောဆိုပြီးသည့်နောက်တွင် နတ်ငှက်မယ်က ကျင်ကို့၏အကြောင်းကို မယ်မယ်နှင့် ဒေါ်လေးဝမ်တို့အား ပြောပြရန် ပြန်မည်ဟု ပြော၏။





“ဒီအကြောင်းကို မယ်မယ့်ကိုတော့ ဖွင့်မပြောလိုက်နဲ့ဦးနော်။ အဘွားကြီး စိတ်ထိခိုက် သွားလိမ့်မယ်”

နတ်ငှက်မယ်သည် ကတိပေးပြီးနောက် အိမ်သို့ပြန်လာခဲ့၏။ အိမ်သို့ ပြန်ရောက်လျှင် နတ်ငှက်မယ်က

“ကျင်ကို့က မယ်မယ်ကို ဆန်တော့လိုက်ပါတယ်တဲ့။ သေသေချာချာ ပြောပြပါလို့ မှာလိုက်ပါတယ်။ တော်တော်လဲ သက်သာလှပါပြီတဲ့။ မယ်မယ်တို့ သိပ်လဲ့ စိတ်မပူပါနဲ့တဲ့။ နည်းနည်းနေကောင်းသွားယင် သူကိုယ်တိုင် လာပြီး ကန်တော့ပါဦးမယ်တဲ့”

“ကြည့်ရတာကကော ဘယ့်နှယ်နေသေးသလဲ”

“လောလောဆယ်တော့ သိပ်စိုးရိမ်စရာ မရှိလှပါဘူး မယ်မယ်။ လန်းလန်းဆန်းဆန်းပါ”

နတ်ငှက်မယ်သည် မယ်မယ့်ထံမှ ထွက်လာခဲ့ကာ သူ့အဆောင်သို့ မပြန်မီ ဒေါ်လေးဝမ်ကိုလည်း ဝင်ပြောခဲ့၏။ အဆောင်သို့ရောက်လျှင် အစေတော်ပင်အဲသည် မီးလင်းဖိုတွင် ကင်ထားသည့် အဝတ်အစားများကို လဲပေးလေ၏။ နတ်ငှက်မယ်သည် မီးလင်းဖိုအနီးတွင် ဝင်ထိုင်လိုက်လျက် မိမိမရှိသည့် အတောအတွင်း စံအိမ်တွင် ဘာထူးသေးသနည်းဟု မေးမြန်းလေ၏။

ပင်အဲက လက်ဖက်ရည် တစ်ခွက်ကို ပေးရင်း

“ဘာမှတော့ သိပ်မထူးလှပါဘူး သခင်မလေး။ လိုင်ဝမ်းရဲ့ မိန်းမတော့လာပြီး သုံးရာချေးထားတဲ့အတွက် အတိုးလာပေးသွားပါတယ်။ ကျွန်မ သိမ်းထားပါတယ်။ ဩော် ကျိယွီတော့ တစ်ခေါက်လာသွားသေးတယ်။ သခင်မလေး ရှိသလားတဲ့၊ တွေ့ချင်လို့တဲ့”

နတ်ငှက်မယ်က စိတ်ဆိုး မာန်ဆိုးဖြင့်

“အလကားလူ၊ မြန်မြန်သေသွားယင် ကောင်းတယ်။ ဒီတစ်ခါလာရဲယင်လာစမ်းပေ့စေ။ တစ်ခုခုဖြစ်အောင် လုပ်လွှတ်လိုက်ဦးမယ်”

“သူက ဘာဖြစ်လို့ ခဏခဏ လာနေတာလဲ သခင်မလေး”

နတ်ငှက်မယ်က သူနှင့် ကျိယ္ဒိတို့ နိုနိုစံအိမ်ကြီးထဲက ဥယျာဉ်ထဲတွင် တွေ့ခဲ့ကြပုံ၊ ထိုစဉ်က ကျိယ္ဒိမည်သို့ ရိသဲ့သဲ့ပြောဆိုခဲ့ပုံတို့ကို ပြန်ပြောပြလေ၏။

ပင်အဲက

"အမယ်လေး သူကများ ရာရာစစ။ ဖားပြုပ်က ငန်းကို စားချင်သတဲ့လား။ ကြည့်ရတာ နည်းနည်းမှ ဣန္ဒြေမရှိဘူး။ အမဲရိုးနှုယ် ဟင်းအိုးမှ အားမနာ။ မတော်တာတွေ လျှောက်မှန်းလို့ ဒုက္ခရောက်မယ်"

"ဒီတစ်ခါ လာစမ်းပေ့စေပေါ့အေ။ အကြောင်းပြလိုက်ရဦးမှာပေါ့"

ကျိယ္ဒိ ရောက်လာသည့်အခါတွင် မည်သို့ဖြစ်သည်ကို နောက်အခန်းတွင် ဖော်ပြထားလေ၏။



## အခန်း ၁၂

**နတ်ငှက်မယ်သည် ကြာသမားကို ထောင်ချောက်ဆင်၍ ဖမ်းခြင်း။**

**ကျိယ္ဒိသည် ရတနာ့ကြေးမုံမှန်ကို ပြောင်းပြန်ကြည့်မိခြင်း။**

နတ်ငှက်မယ်က ပင်အဲအား ထိုသို့ပြောဆိုလျက်ရှိစဉ် ကျိယ္ဒိ ရောက်လာကြောင်းကို အစေတော်တစ်ယောက်က လာရောက်ပြောဆို၏။ နတ်ငှက်မယ်က ဧည့်ခန်းထဲသို့ ချက်ချင်းခေါ်လာရန် အမိန့်ပေးလိုက်၏။

ကျိယ္ဒိကား သူ့ကို ချက်ချင်းလက်ခံတွေ့ဆုံသည့်အတွက် ဝမ်းမြောက်လွန်းလှသဖြင့် တပြုံးပြုံးဖြစ်လျက်ရှိကာ ရွှန်းရွှန်းဝေအောင် စကားပြောလျက်ရှိ၏။ နတ်ငှက်မယ်သည် ကျိယ္ဒိအား လေးစားဟန်ပြကာ နေရာထိုင်ခင်းများ ပေးပြီးလျှင် လက်ဖက်ရည်ဖြင့် ဧည့်ခံ၏။ ကျိယ္ဒိကား အိမ်တွင်းတွင်ဝတ်သည့် အဝတ်အစားဖြင့် နတ်ငှက်မယ်ကို မြင်ရသည့်အတွက် အကြီးအကျယ်ဘဝင်ခိုက်လျက် ရှိလေပြီ။ ကျိယ္ဒိသည် နတ်ငှက်မယ်ကို စားတော့ဝါးတော့မလို စူးစိုက်ကြည့်လျက်ရှိရာမှ

"ကျိလျံကော အိမ်မှာမရှိဘူးလား"

"ငှက်မယ် မသိပါဘူး"

"မသိဘူး လုပ်မနေနဲ့နော်။ တစ်ယောက်ယောက်က အမိဖမ်းထားလို့ မခွဲနိုင်မခွာရက် ဖြစ်နေသလားမှ မသိတာ"

"မပြောတတ်ဘူးလေ။ ဟုတ်ချင် ဟုတ်မှာပေါ့။ ယောကျ်ား ဆိုတာ ဒီလိုချည်းပါပဲ။ မိန်းမ ခပ်ချောချောမြင်ယင် ကြိုက်လိုက်ကြ တာပဲ မဟုတ်လား"

"အမယ်လေး ညီမရယ်။ ယောကျ်ားတိုင်းတော့ မဟုတ်ပါဘူး။ အစ်ကိုတို့က ဒါမျိုးမဟုတ်ပါဘူး"

"အစ်ကိုတို့လို ယောကျ်ားမျိုးကတော့ ရှားပါတယ်လေ။ ဆယ် ယောက် တစ်ယောက်လောက် ရှိတာပါ"

ကျိယွမ်သည် ကျေနပ်လွန်းသဖြင့် သူ့နားရွက်များကို လိမ်ဖဲ့ ပါးများကို ပွတ်လျက်ရှိရာမှ

"ညီမလဲ အိမ်မှုကိစ္စတွေကို စိမ်အုပ်ချုပ်နေရတာ နေ့စဉ်နဲ့အမျှ ဆိုတော့ မငြီးငွေ့ဘူးလား"

"ဘယ့်နှယ်ပြောပါလိမ့် အစ်ကိုရယ်။ ငြီးငွေ့တာပေါ့။ ဒါ့ ကြောင့် ပျင်းယင် စကားပြောမယ့်ဆွေသည်ကိုပဲ မျှော်နေရတာပဲ"

"အစ်ကို့မှာ အချိန်တွေ အများကြီး ရှိပါတယ်။ ဒီလိုဆိုယင် ငှက်မယ် အပျင်းပြေအောင် အစ်ကို နေ့တိုင်း ဝင်လာခဲ့မယ်လေ"

နတ်ငှက်မယ်က မူနွဲ့ဟန်ဖြင့်

"အမယ်လေး ယုံရမှာတဲ့လား။ အစ်ကိုတို့က ငှက်မယ်တို့ဆီကို လာမှာမဟုတ်ပါဘူး"

"တကယ်ပြောတာပါ။ မိုးကြိုးကြီး ပစ်ရစေရဲ့။ အယင်တုန်း ကတော့ သိပ်မလာရဲဘူးလေ။ ငှက်မယ်က သိပ်စည်းကမ်းကြီးတယ်တဲ့။ နည်းနည်းလေးမှ အမှားမခံဘူးတဲ့။ ခုတော့လဲ သူတို့ပြောသလိုမဟုတ် ပါပဲလား။ ကြည့်စမ်း ငှက်မယ်ဟာ ဘယ်လောက် ချစ်စရာကောင်း သလဲ၊ တစ်ဖက်သားအပေါ်မှာ ဘယ်လောက်ညှာတာသလဲ။ စိတ်ချပါ ငှက်မယ်ရယ်။ အစ်ကိုလာမှာပေါ့။ ငှက်မယ်ဆီလာရမယ်ဆိုယင် အသက် စွန့်ပြီးတောင် လာရဲပါတယ်။ တကယ်ပါ"





"အစ်ကိုက ကျိယွန့်တို့တစ်တွေထက် အလိုက်သိတတ်တယ်နော်။ ကျိယွန့်တို့တစ်တွေက ကြည့်လိုက်ယင်တော့ တကယ်အလိုက်သိ၊ အကောင်း ပါးတဲ့ ပုံပဲ။ ဒါပေမယ့် အူတူတူ အတတာတွေ။ သူများအရိပ်အကဲကိုလဲ နားမလည်ဘူး"

ကျိယွမ်သည် ထိုစကားကြောင့် အတင့်ရဲလာကာ အနီးသို့ တိုးလာ၏။ နတ်ငှက်မယ်၏ ခါးစည်းကြိုးမှ တွဲလောင်းကျနေသည့် နံ့သာအိတ်ကို စိုက်ကြည့်လျက်ရှိရာမှ လက်တွင်စွပ်ထားသည့် လက်စွပ် ကို ကြည့်ချင်သည်ဟု ပြော၏။

"ဟဲ့ အစ်ကိုကလဲ။ သိပ်အတင့်မရဲနဲ့လေ။ အစေတော်တွေ မြင်သွားယင် မကောင်းဘူး"

ကျိယွမ်သည် ဘုရင်မင်းမြတ်၏ အမိန့်ပြန်တမ်းကို နာခံလိုက်ရ သကဲ့သို့လည်းကောင်း၊ သိကြားစက်တွင် စက်ကွင်းမိသူကဲ့သို့ လည်း ကောင်း ကျိုးနွံစွာနာခံကာ နောက်သို့ ချက်ချင်းဆုတ်လိုက်၏။

နတ်ငှက်မယ်က ပြုံးလိုက်လျက်

"ကဲ အစ်ကိုပြန်တော့လေ"

"ရက်စက်တော့မှာလား ငှက်မယ်ရယ်။ ခဏလောက် နေပါရ စေဦး"

"ဒီနေရာမှာ ကြာကြာထိုင်စကားပြောနေလို့ မကောင်းဘူး အစ်ကိုရဲ့။ လူတွေက ဥဒဟို သွားလာနေကြတာ။ ခု ပြန်တော့နော်။ ညတစ်ချက်တီးလောက်မှာ တိတ်တိတ်လာခဲ့၊ ငှက်မယ် ထွက်လာခဲ့မယ်။ အနောက်ဝင်းတံခါးမုခ်က စောင့်"

ကျိယွမ်အဖို့တော့မူ ထိုစကားသည် လွန်စွာတန်ဖိုးရှိသော ပုလဲ ကြီး တစ်လုံးကို ရရှိသည်နှင့် တူပေ၏။

"တကယ်ပြောတာနော် ညီမ။ ဒါပေမယ့် ဝင်းဝကအဆောင် ဆိုတော့ လူတွေက ဥဒဟိုသွားနေတာ။ အစ်ကို့ကို လူတွေမြင်ကုန်မှာ ပေါ့။ ဘယ်မှာ သွားပုန်းနေရမှာလဲ"

"ဒါအတွက် မပူပါနဲ့။ ညအိပ်ဖန်လှည့်ကျတဲ့ သူငယ်တော်တွေကိုတခြား အသွားခိုင်းထားမယ်။ ဝင်းတံခါးကြီးကို ပိတ်လိုက်ပြီဆိုယင် ဘယ်သူမှဝင်လို့ထွက်လို့ မရတော့ဘူး"

ထိုစကားကို ကြားသည်၌ ကျိယွီသည် ဝမ်းမြောက်ဝမ်းသာဖြစ်လျက် ညကျလျှင် ဆန္ဒပြည့်တော့မည်ဟု အကြီးအကျယ်အူမြူးစွာ ခပ်သုတ်သုတ် ပြန်သွား၏။

ထိုနေ့ည၌ ကျိယွီသည် မှောင်ကြီးမည်းမည်းထဲတွင် ယွန်းစံအိမ်ကြီးဆီသို့ လာခဲ့ကာ ဝင်းတံခါးကြီးများမပိတ်မီတွင် အထဲသို့ ဝင်ခဲ့လေ၏။ ညသည် မည်းမှောင်လျက်ရှိကာ လူသူဆို၍ တစ်ယောက်မျှ မတွေ့ရချေ။ မယ်မယ်၏ အဆောင်ဘက်သို့သွားသည့် ဝင်းတံခါးမှာလည်း ပိတ်လျက်အားဖြစ်နေပြီး အရှေ့ဘက်တံခါး တစ်ခုတည်းသာလျှင် ပွင့်လျက်သားရှိလေ၏။

ကျိယွီသည် နားကိုစွင့်ကာ တစောင့်စောင့် ဖြစ်လျက်ရှိသော်လည်း မည်သူမျှပေါ်မလာချေ။ ထိုစဉ် ဝုန်းဆိုသောအသံကြီးနှင့်အတူ အရှေ့ဘက် ဝင်းတံခါးသည်လည်း ပိတ်သွားလေ၏။ ကျိယွီသည် ထိတ်လန့်တုန်လှုပ်လျက်ရှိကာ တုတ်တုတ်မျှ မလှုပ်ရဲဘဲ ငြိမ်နေ၏။ ထို့နောက် တွားသွားကာ ဝင်းတံခါးကြီးကို ဖွင့်ကြည့်သော်လည်း ဝင်းတံခါးကြီးမှာ တုတ်တုတ်မျှမလှုပ်ချေ။ အုတ်တံတိုင်းကြီးမှာ အလွန်မြင့်သည့်အတွက် ထွက်ပြေးဖို့ ဆိုသည်မှာလည်း လုံးဝ မဖြစ်နိုင်တော့ချေ။

အဝင်တံခါးမကြီးမှာ လူသူရှင်းကာ တိတ်ဆိတ်လျက် ရှိ၏။ ဆောင်းလယ်ကြီးဖြစ်သဖြင့် ညတာရှည်ရှုံမျှမက အရှေ့မြောက် လေကလည်း တသုန်သုန် တိုက်ခတ်လျက်ရှိလေရာ ရိုးတွင်းခြင်ဆီထိ အောင်အေးလှပေ၏။ ကျိယွီမှာ သေသွားခဲ့၍ မသေရုံတစ်မည်သာ ကျန်တော့သည်။

အရုဏ်တက်ခါနီးလောက်တွင် အစေတော်တစ်ယောက် ရောက်လာကာ ဝင်းတံခါးကြီးဖို့ရှု၏။ အနောက်ဘက် တံခါးကြီးကိုဖွင့်ရန်ထွက်သွားသည့်အခါ၌ ကျိယွီသည် မီးခိုးတန်းတစ်ခုသဖွယ် လှစ်ခနဲ





ထွက်ပြေးလာခဲ့၏။ ကံကောင်းထောက်မသဖြင့် မည်သူနှင့်မျှ ရင်ဆိုင်မတိုးခဲ့ချေ။ သို့ဖြင့် ကျိယွီသည် နောက်ဖေးမလွယ်တံခါးမှ လွတ်မြောက်လာခဲ့၏။

ကျိယွီသည် ငယ်ငယ်ကလေးတည်းက မိဘနှစ်ပါး ဆုံးခဲ့ပြီးနောက် အဘိုးဖြစ်သူ ကျိထိုက်ရူ၏ အုပ်ထိန်းမှုအောက်တွင် ကြီးပြင်းလာခဲ့ရသူဖြစ်၏။ သူ့အဘိုး ကျိထိုက်ရူမှာ စည်းကမ်းကြီးသူဖြစ်၍ အပြင်တွင် အလေလွင့်အစား၊ အပျော်အပါး လိုက်စားမည် စိုးသည့်အတွက် တစ်ချက်ကလေးမျှ လွတ်လပ်ခွင့်မပေးဘဲ ကုပ်ညှပ်ထားကာ စာကိုလည်း ကောင်းစွာသင်မပေးခဲ့ချေ။ ယခုမူ ကျိယွီ တစ်ညလုံး ပျောက်ချက်သားကောင်းလျက်ရှိသဖြင့် အကြီးအကျယ် ဒေါပွလျက်ရှိကာ အဖြစ်မှန်ကိုမသိဘဲ သူ့မြေးသည် အရက်သေစာ သောက်စားနေလေသလော၊ လောင်းကစားခြင်း ပြုနေလေသလော၊ မကောင်းသောမိန်းမတို့နှင့် ပျော်ပါးနေလေသလောဟု အမျိုးမျိုး တွေးလျက်ရှိ၏။

ကျိယွီသည် ချွေးစေးကြီးတွေပြန်ကာ အမျိုးမျိုး လည်ဆယ်ပြောဆိုလျက်ရှိ၏။

"ဦးလေးတို့အိမ် သွားတာပါအဘိုး။ ညဥ့်နက်တာနဲ့ မပြန်နဲ့တော့ဆိုလို့ သူ့အိမ်မှာ အိပ်နေတာပါ"

"နင် အယင်တုန်းက ငါ့ကိုမတိုင်ဘဲ အိမ်က ထွက်ဖူးလို့လားဟင်။ နင့်ကို ငါရိုက်ချင်တယ်။ ဒီလောက် လျှောက်လည်နေတဲ့ကောင်ရိုက်သတ်ပစ်ဖို့ပဲကောင်းတယ်။ ဒီအထဲမှာ လိမ်ပြီးပြောလိုက်သေးတယ်"

ဟု အဘိုးက ဒေါသတကြီးဖြင့် အော်ဟစ်ဆူပူလျက်ရှိ၏။

အဘိုးသည် ကြိမ်ဖြင့် အချက် သုံးလေးဆယ်ခန့် ရိုက်ပြီးလျှင် အစာလည်းမကျွေးဘဲ ဝင်းထဲတွင်ဒူးထောက်ထိုင်ခိုင်းကာ ဆယ်ရက်စာစာများကို အကျက်ခိုင်းလေ၏။ ကျိယွီမှာ တစ်ညလုံး နှင်းတောထဲတွင် ချမ်းချမ်းစီးစီး နေခဲ့ရပြီးနောက် အစာမစားဘဲ အရိုက်ခံရခြင်း၊ လေတိုက်ကြီးထဲတွင် ဒူးထောက်၍ စာများကို ကျက်ရခြင်းတို့ကြောင့် အကြီးအကျယ် ခံလိုက်ရ၏။

သို့ရာတွင် နတ်ငှက်မယ်ကို အရှုးအမူးဖြစ်လျက် ရှိသည့်အတွက် ဘာကိုမျှ မစဉ်းစားနိုင်ဘဲ နောက်ရက်အနည်းငယ်ကြာသည်နှင့် အလစ်တွင် နတ်ငှက်မယ်ဆီသို့ ရောက်လာခဲ့ပြန်၏။ နတ်ငှက်မယ်က သူချိန်းထားသည်ကို မလာရကောင်းလေဟု အပြစ်တင်လျက်ရှိ၍ ကျိယ္ဘက လည်း မိမိတွင် အပြစ်ရှိကြောင်းကို ပြောဆိုလျက်ရှိ၏။ ကျိယ္ဘသည် မိမိလက်ထဲတွင် ရောက်နေပြီဖြစ်သည့်အတွက် နတ်ငှက်မယ်သည် သူ့ကို ဆုံးမရန် အကြံရ၏။

"ဒါဖြင့် ဒီနေ့ညလာခဲ့။ ဒီတစ်ခါတော့ တခြားနေရာကို ချိန်းမယ်။ ဒီခန်းဆောင်ရဲ့ နောက်ဘက်စကြံနားမှာ အခန်းလွတ် တစ်ခန်းရှိတယ်။ ဒီတစ်ခါတော့ လာဖြစ်အောင်လာနော်"

"တကယ်ပြောနေတာလား ငှက်မယ်ရယ်"

"တကယ်ပေါ့ အစ်ကိုရဲ့။ အစ်ကိုမယုံယင်လဲ မလာနဲ့ပေါ့"

"လာပါ့မယ်ဗျာ။ လာပါ့မယ်။ သေမယ်ဆိုဦးတော့ ငှက်မယ် အတွက်ဆိုယင် လာမှာပါ"

"ကဲ ဒါဖြင့်ပြန်တော့"

ဤတစ်ကြိမ်တွင်မူ မည်သည့်နည်းနှင့်မျှ လွဲနိုင်တော့မည် မဟုတ်ဟု အောက်မေ့ကာ ကျိယ္ဘသည် အိမ်သို့ပြန်လာခဲ့၏။

ကျိယ္ဘပြန်သွားသည့်အခါ၌ နတ်ငှက်မယ်လည်း သူ့အကြံကို အိမ်သားများအား ဖွင့်ပြောပြီးလျှင် ညအတွက်စီမံကိန်းချလျက် ရှိ၏။ ထိုအချိန်၌ကျိယ္ဘမှာ အိမ်တွင် ဧည့်သည်တစ်ယောက်ရောက်လာသော ညစာ စားနေသည့် အတွက် ဖင်တကြွကြွဖြစ်နေလေပြီ။ အိမ်မှထွက်လာသည့် အခါတွင် မိုးများပင်ထွန်းကုန်ကြလေပြီ။ သူ့အဘိုး အိမ်ထဲသို့ဝင်သွားသည်နှင့် ကျိယ္ဘသည် ယွန်းစံအိမ်ကြီးသို့ ခပ်သုတ်သုတ်လာကာ ချိန်းဆိုထားသည့်နေရာတွင် စောင့်ဆိုင်းလျက် ရှိ၏။ အိုးကင်းပူပေါ်တွင် ရောက်နေသည့် ပုရွက်ဆိတ်တစ်ကောင်ကဲ့သို့ ကျိယ္ဘသည် ဂနာမငြိမ်နိုင်ဘဲ အခန်းလွတ်ထဲတွင် ခေါက်တုံ့ခေါက်ပြန်လျှောက်လျက် ရှိသော်လည်း လူရိပ်လူယောင်ကိုမျှ မမြင်ရ၊ အသံဗလံကိုမျှ မကြားရချေ။





"တကယ်ကော လာမှာဟုတ်ရဲ့လားမသိဘူး။ မလာယင်တော့ ဒီတစ်ညလုံး အအေးဒဏ် ခံနေရဦးမယ်"ဟု တွေးလျက်ရှိ၏။

ထိုအခိုက်တွင် လူရိပ်မည်းမည်း တစ်ခုကို လှမ်းမြင်လိုက်ရ၏။ သေချာပြီ။ နတ်ငှက်မယ် ဖြစ်ရမည်။ သတိကို ချုပ်တည်းခြင်း မပြုနိုင်တော့ဘဲ ထိုသဏ္ဌာန်အခန်းဝသို့ရောက်သည်နှင့်တစ်ပြိုင်နက် ဆာလောင်မွတ်သိပ်လျက်ရှိသည့် ကျားတစ်ကောင် ကဲ့သို့ လည်းကောင်း၊ ကြွက်တစ်ကောင်ကို ဖမ်းအုပ်လိုက်သည့် ကြောင်ဝတ်တစ်ကောင်ကဲ့သို့ လည်းကောင်း ကျိယ္ဘသည် ထိုသဏ္ဌာန်ကို ဖမ်း၍ ဆီးဖက်လိုက်ကာ

"အမယ်လေး အချစ်ရယ်။ ညီမလေးရယ်။ စောင့်လိုက်ရတာ သေတော့မယ်"

ကျိယ္ဘသည် နတ်ငှက်မယ်ကို ခုတင်မီးဖိုကြီးဆီသို့ ပွေ့ချီလာခဲ့၏။ ထိုနောက် ခုတင်မီးဖိုကြီးပေါ်သို့ချကာ နတ်ငှက်မယ်ကို အနမ်းမိုးရွာလျက်ရှိပြီး လက်ကလည်း ယောက်ယက်ခတ်လျက်ရှိ၏။ ပါးစပ်မှလည်း အချစ်ရယ်။ အသက်ရယ်။ ညီမရယ်ဟု တတွတ်တွတ် ခေါ်လျက်ရှိ၏။ လက်ထဲတွင် ပွေ့ထားသည့် သဏ္ဌာန်မှာမူ ဘာသံမျှမကြားရချေ။

ကျိယ္ဘသည် လုပ်ငန်းစရန်အတွက် သူ့ဘောင်းဘီကို ချွတ်လျက်ရှိစဉ် လက်ခနဲ အလင်းရောင်ကို မြင်လိုက်သည့်အတွက် မော့ကြည့်လိုက်၏။ လက်ထဲတွင် မီးတုတ်တစ်ချောင်းကိုကိုင်၍ ရပ်နေသော ကျိကျုန်းကို တွေ့ရလေ၏။

"ဟေ့ ဘာဖြစ်နေတာလဲ။ ဘယ်သူလဲ"

ခုတင်မီးဖိုပေါ်မှ သဏ္ဌာန်သည် တခစ်ခစ်ရယ်လိုက်ကာ

"ကျိယ္ဘရယ် ကျွန်တော့်ကို ကိုးရိုးကားရားလုပ်မလို့"

သူပွေ့ယူလာသည့် သဏ္ဌာန်သည် ကျိယွန်ဖြစ်နေသည်ကို တွေ့သည့်အခါ၌ ကျိယ္ဘသည် မြေမျိုခံချင်စိတ် ပေါက်သွားလေ၏။ ကျိယ္ဘသည် ရှက်ရှက်ဖြင့် ထွက်ပြေးရန် ပြင်လိုက်၏။

ကျိကျုန်းက သူ့ကိုဖမ်းဆွဲထားလိုက်ကာ

"ဒီလိုလုပ်လို့ ဘယ်ရမလဲ။ သူ့ကို အတင်းရည်းစားစကားလို ပြောနေတယ်လို့ ငှက်မယ်က ဒေါ်လေးဝမ်ကို တိုင်ထားတယ်။ ခုတေ နောက်ကို ဒီလိုမလုပ်ရဲအောင် တောင်းပန်းရတာ။ ဒေါ်လေးဝမ် ဒီသတင်းကိုကြားတော့ ယုံတောင် မယုံနိုင်ဘူး။ ခု ငါ့ကို အဖမ်းခိုင လိုက်တာ။ ကဲ ခုတော့ လက်ပူးလက်ကျပ်မိပြီ။ ကွယ်မနေနဲ့တော့ လာ ဒေါ်လေးဝမ်ဆီလိုက်ခဲ့"

ကျီယွှိက လေပျော့ကလေးဖြင့်

"မင်းတို့နဲ့ ငါဟာ စပ်ယှင် တူဝရီး တော်ပါတယ်ကွာ။ ဒီတေ ငါ့ကို ချောက်မတွန်းပါနဲ့။ ငါ့ကို မတွေ့ခဲ့ဘူးလို့ ပြောပါ။ မနက်ဖြ ကျယင် မင်းတို့ကို ငါ ပိုက်ဆံပေးပါ့မယ်"

"ငါတာ ဘယ်လိုလုပ်ပြီး ယုံရမှာလဲ။ ပေးမယ်ဆိုယင် စာနဲ့ရေ ပြီး လက်မှတ်ထိုးပေးထား"

"ဒါကကွာ ဒီလိုဖြစ်တဲ့အတွက် ပိုက်ဆံပေးပါ့မယ်လို့ လက်မှတ် ထိုးရတာ ဘယ်ကောင်းပါ့မလဲ"

"ဒါက အကြောင်းမဟုတ်ပါဘူး။ ဖဲရှုံးလို့ ရွှေတိုက်က ငွေ တွေကို ချေးထားရတယ်လို့ပဲ ရေးပေါ့"

"ရေးဖို့ စုတ်တံမရှိ။ စက္ကူမရှိနဲ့ကွာ"

"ဒါက လွယ်ပါတယ်" ဟု ဆိုကာ ကျိကျန်းသည် ထွက်သွားပြ စာရေး ကိရိယာများကို ယူလာ၏။ သူတို့နှစ်ယောက်သည် ငွေစင် ငါး ဆယ်ကျပ်သား အကြွေးပေးဆပ်စရာရှိကြောင်း ကျီယွှိကို ရေးပေးစေ လက်မှတ်အထိုးခိုင်းပြီး စာရွက်ကို ယူထားလိုက်၏။ ထိုအထဲက ငွေယူ ဆိုသည့်အခါတွင် ကျီယုန်ကလက်မခံဘဲ သူ့ကိုမပေးလျှင် ထိုအကြော ကို မနက်ဖြန်တွင် တစ်ဝင်းလုံးသိအောင် ပြောမည်ဟု ပြော၏။ ကျီယွှိ သည် ရှိခိုးမတတ် တောင်းပန်သော်လည်း ကျီယုန်က လက်မခံချေ ထို့ကြောင့် ကျီယွှိသည် သူ့ကိုလည်း ငွေစင် ငါးဆယ်ကျပ်သား ပေး ပါမည်ဟု လက်မှတ်ထိုးပေးရ၏။





"ဒီဝင်းထဲက မင်းထွက်သွားတာကို တခြားလူတွေမြင်ယင် ငါ့ ကို အဆူခံရလိမ့်မယ်။ မယ်မယ့်အဆောင် ဝင်းတံခါးကလဲ ပိတ်ပြီ။ ဦးကြီးကျိချိန်ကလဲ ချင်လင်းက ညွှံသည်တွေလာလို့ အလုပ်များနေ တယ်။ ဒီတော့ ဒီကထွက်လို့ မရဘူး။ နောက်ဖေးပေါက်ကထွက်မှ ဖြစ် မယ်။ ဒါတောင် တစ်ယောက်ယောက်မြင်သွားယင် ငါ့အဆူခံရဦး မယ်။ ဒီတော့ လူရှင်းမရှင်း ငါသွားကြည့်မယ်။ မင်းက တစ်နေရာရာ ကစောင့်။ ဒီနေရာကတော့ စောင့်လို့ မဖြစ်ဘူး။ တော်တော်ကြာယင် အစေတော်တွေ ပစ္စည်းတွေကို လာထားကြလိမ့်မယ်။ လာ လိုက်ခဲ့"

ကျိကျန်းသည် မီးတိုင်ကိုမှုတ်လိုက်ပြီးလျှင် လှေကားတစ်ခုဆီ သို့ ခေါ်သွား၏။

"ဒီနေရာက စိတ်ချရတယ်။ ဒီမှာ ထိုင်စောင့်နေခဲ့။ တို့ ပြန် မလာမချင်း ဘယ်ကိုမှ မသွားနဲ့နော်။ ဘာသံမှလဲ မကြားပေ့စေနဲ့"

သူတို့နှစ်ယောက် ထွက်သွားသည့်အခါ ကျီယွှိသည် လှေကား ရင်းတွင် ငုတ်တုတ်ထိုင်၍ ကျန်ရစ်ခဲ့၏။ ကျီယွှိသည် သူ့အဖြစ်ကို သူ ပြန်၍ စဉ်းစားနေစဉ် အပေါ်ဘက်ဆီမှ ရေသွန်သံနှင့်အတူ သူ့ခေါင်း ပေါ်သို့ အညစ်အကြေးတွေ သွန်ချလိုက်သည်ကို တွေ့ရ၏။ ကျီယွှိ သည် စိတ်ပျက် လက်ပျက်ဖြင့် အသံထွက်၍ အော်လိုက်မိ၏။ သို့ရာတွင် ချက်ချင်း ပါးစပ်ကို ပြန်ပိတ်လိုက်ပြီး တိတ်တိတ်နေရ၏။ သူ့တစ်ကိုယ် လုံးမှာကား ခိုက်ခိုက်တုန်ကာ အညစ်အကြေးတို့ ဖုံးလျက်ရှိလေပြီ။ ထို စဉ် ကျိကျန်းရောက်လာကာ "ပြေး မြန်မြန်ပြေး" ဟု ပြောလေ၏။

ဤတွင် ကျီယွှိလည်း နောက်ဖေး မလှယ်တံခါးမှနေ၍ တအား စွတ်ပြေးခဲ့လေ၏။ ထိုအချိန်၌ကား သန်းခေါင်ယံ တိုင်လုလေပြီ။ ကျီယွှိသည် တံခါးကိုခေါက်၍ နှိုးရလေ၏။ တံခါးဖွင့်ပေးသည့် အစေ ခံတော်သည် အညစ်အကြေးတို့ စိုရွှဲနေသည့် ကျီယွှိကို မြင်သည့်အခါ တွင် အကျိုးအကြောင်းကို မေးမြန်း၏။

"အမှောင်ထဲမှာ ချော်လဲလာလို့ပါကွာ" ဟု ပြော၏။

သူ့အခန်းထဲသို့ ပြန်ရောက်သည့်အခါတွင် ကျိယွမ်သည် အဝတ်အစားများကို ချွတ်၍ လျှော်ရ၏။ ထိုအခါကျမှ နတ်ငှက်မယ်သည် မိမိကို ချောက်တွန်းခြင်းဖြစ်ကြောင်း ရိပ်မိကာ ဒေါပွလျက်ရှိလေ၏။ သို့ရာတွင် နတ်ငှက်မယ်၏ လှပချောမောပုံကို မြင်ယောင်မိသည့် အခါတွင် ပွေ့ဖက်ယုယလိုသော စိတ်တို့သည် တဖွားဖွား ပေါ်ပေါက်လျက်ရှိ၏။ ကျိယွမ်သည် ထိုညက အိပ်၍ မပျော်တော့ချေ။ ထိုနောက်တွင်မူကား ကျိယွမ်သည် နတ်ငှက်မယ်ကို တွေ့လို မြင်လိုသည့်တိုင် ယွန်းစံအိမ်ကြီးအနားသို့ မသိတော့ချေ။

ကျိယုန်နှင့် ကျိကျန်းတို့သည် သူတို့ရစရာရှိသည့် ပိုက်ဆံကို နေ့စဉ်နှင့်အမျှ တောင်းလျက် ရှိသည့်အတွက် နဂိုကမှ အဘိုးသိမည်ကို ကြောက်ရခြင်း၊ နတ်ငှက်မယ်အတွက် ရူးမူး တပ်မက်ရခြင်းတို့ကြောင့် နောက်ကျိလျက် ရှိသည့်အထဲတွင် အကြွေးတာဝန်တလည်း တက်လာပြန်၏။ ထိုအထဲတွင် သင်ခန်းစာများကိုလည်း ကျက်လိုက်ရသေး၏။ နတ်ငှက်မယ်ကို အရူးအမူး စွဲလမ်းလျက်ရှိသည့် အသက်နှစ်ဆယ်ရွယ် လူပျိုလူလွတ် ကျိယွမ်သည် နတ်ငှက်မယ်အကြောင်းကို တွေးတောကာ "လက်ကစားခြင်း"ဖြင့် ထိုစိတ်ကို ဖြေဖျောက်ရလေ၏။ ထိုဒဏ်များပိခြင်း၊ အအေးထဲတွင် နှစ်ညတိုင်တိုင် နေခဲ့ရခြင်းတို့ကြောင့် မကြာမီ ကျိယွမ်သည် မကျန်းမမာဖြစ်ကာ အိပ်ရာထဲသို့ လဲခဲ့၏။ တစ်နှစ်မကျမီမှာပင် ကျိယွမ်မှာ အော့အန်မူးဝေခြင်း၊ ခံတွင်းပျက်ခြင်း၊ ဆီးထဲတွင် သုက်ပါခြင်း၊ သလိပ်ထဲတွင် သွေးပါခြင်းတို့ ဖြစ်လာခဲ့လေပြီ။ ခြေထောက်များသည် တုန်ချည့်လျက်ရှိကာ မျက်စိတွေ မှုန်သီပြာဝေ၍ လာကြလေ၏။ ညတွင် အဖျားတက်ကာ နေ့တွင် အားကုန်မောပန်းလျက်ရှိ၏။ ထိုနောက်တွင်ကား ငန်းသန္ဒိပယ်လိုက်ကာ အိပ်ရာထဲတွင် ဗုန်းဗုန်းလဲခဲ့လေ၏။

သမားတော်များသည် ကျိယွမ်အား သစ်ကြမ်းပိုး၊ လိပ်ခွံ၊ လင်းနေမြစ်၊ ဘုတ်ကောင် စသည်တို့ကို ပိဿာနှင့်ချိန်၍ တိုက်ကျွေးကြသည့်တိုင် အကျိုးမထူးချေ။ နွေဦးပေါက်တွင်မူ ကျိယွမ်၏ ရောဂါမှာ ဆိုးသည်ထက် ဆိုးလာခဲ့လေပြီ။





သူ့အဘိုးသည် သမားတော်များကို တစ်ယောက်ပြီးတစ်ယောက် ပင့်၍ ကုသော်လည်း အချည်းနှီးသာ ဖြစ်ပေ၏။ ကောလိသိမ်ဆေးမြစ် စစ်စစ်ကို တိုက်ရမည်ဟု ပြောသည့်အခါတွင် သူ့အဘိုးလည်း ထိုမျှတန်ဖိုးကြီးသော ဆေးမြစ်ကို မတတ်နိုင်ပြီ။ ဤတွင် ယွန်းစံအိမ်ကြီးသို့ သွား၍ အကူအညီ တောင်းရ၏။ သခင်မ ဝမ်သည် ကောလိသိမ့် နှစ်ကျပ်သားကို ချိန်ပေးလိုက်ရန် နတ်ငှက်မယ်ကို ပြောလိုက်၏။

"မရှိတော့ဘူး ဒေါ်လေး။ ကျန်တာကို မယ်မယ့်အတွက် ဆေးဖော်ဖို့ မနေ့က ပေးလိုက်ပြီလေ။ ပြီးတော့ ပိုတာကို ဗိုလ်ချုပ်ယန်းဇနီးအတွက် ပေးလိုက်ဆိုလို့ မနေ့ကပဲ အပို့လွှတ်လိုက်တယ်"

"တို့မှာမရှိတော့ယင် ညည်း ယောက္ခမ ဒေါ်လေးဆင့်ဆီမှာကော မရှိတော့ဘူးတဲ့လား။ ဒါမှမဟုတ်ယင်လဲ ကျိချန်တို့ဆီမှာ ရှိဦးမလား မသိဘူး။ တောင်းပေးလိုက်ပါကွယ်။ သူငယ်လေးသနားစရာပါတယ်။ လူတစ်ယောက် အသက်ဆိုတာ ဈေးကောင်းပါတယ်"

သို့ရာတွင် နတ်ငှက်မယ်သည် မည်သည့်အိမ်ကိုမျှ အတောင်းမလွှတ်တော့ဘဲ အိမ်တွင်ရှိသည့် အကြွင်းအကျန်ကလေးထဲမှ ခြစ်ယူရသည့် အညစ်စား ဆေးမြစ် တစ်ကျပ်သားခန့် ရသည့်အတွက် မိမိတို့အိမ်တွင် သည်မျှသာ ရှိတော့သည်ဟု ဆိုကာ ပေးလိုက်၏။ သို့ရာတွင် ဒေါ်လေးဝမ်ကိုမူ နှစ်ကျပ်သားခန့် ရသဖြင့် ပေးလိုက်ပြီဟု ပြောပြလေ၏။

ကျိယွမ်မှာ ပြန်၍ ကျန်းမာချင်လှပြီ ဖြစ်သဖြင့် တိုက်သမျှဆေးကို အကုန်သောက်၏။ သို့ရာတွင် ငွေသာကုန်ပြီး ရောဂါမှာ ပျောက်ကင်းခြင်း မရှိချေ။

တစ်နေ့တွင် ခြေကျိုးနေသည့် တာအို ကိုရင်ကြီးတစ်ပါးသည် သူတို့အိမ်သို့ အလှူခံ ရောက်လာ၏။ ထိုကိုရင်ကြီးမှာ ဝဋ်နာကံနာကို ကုသရာတွင် တော်ကောင်းသည်ဟု နာမည်ကြီး၏။ ကျိယွမ်သည် ထိုသို့ပြောဆိုနေသံကို အိပ်ရာထဲမှ ကြား၏။ ဤတွင် ကျိယွမ်သည် ခေါင်းအုံးကို မှီ၍ ဝတ်ပြုရင်း ထိုကိုရင်ကြီးကို ပင့်ပေးရန် အစေတော်များကိုပြော၏။

အစေတော်များက ကိုရင်ကြီးကို ပင့်လာသည့်အခါတွင် ကျိယ္
သည် ဦးချလျက်

"ကိုရင်ကြီး ဘုရား၊ တပည့်တော်ကို ကယ်ပါ။ ဒီအတိုင်း
မနေပါနဲ့။ တပည့်တော်ကို မကယ်နိုင်တော့ဘူးလား"

ကိုရင်ကြီးသည် ကြီးစွာသော ဂရုဏာဖြင့်ကို ဆောင်လျက်

"ဒကာလေး ရောဂါကို ကုနိုင်တဲ့ ဆေးမရှိဘူး။ ဒါပေမယ့်
ဒကာလေးကို ငါ အလှန်အဖိုးတန်တဲ့ ပစ္စည်းတစ်ခု ပေးခဲ့မယ်။
ပစ္စည်းကို နေ့တိုင်းကြည့်။ ဒီလိုကြည့်ယင် ဒီပစ္စည်းက ဒကာလေး
အသက်ကို ကယ်လိမ့်မယ်"

ကိုရင်ကြီးသည် လွယ်လာသည့် လွယ်အိတ်ထဲမှ နှစ်ဖက်စလုံး
ပြောင်လက်အောင် တိုက်ထားသည့် ကြေးမုံတစ်ချပ်ကို ထုတ်ပေး၏
လက်ကိုင်တွင်မူ ရတနာ့ မေတ္တာကြေးမုံဟူ စာတန်း ထိုးထားလေ၏

"ဒီကြေးမုံဟာ နှယ်နှယ်ကြေးမုံမဟုတ်ဘူး ဒကာလေး။
ပြည်ကလာတဲ့ ကြေးမုံ၊ တဏှာရမ္မက်ကြောင့် ဖြစ်တဲ့ ရာဂဥမ္မတ္တ
တွေကို ကုသဖို့ မာယာဒေဝီနတ်သမီးက သွန်းလုပ်ပေးထားတဲ့ ကြေးမုံ
နှယ်နှယ်မမှတ်လိုက်နဲ့။ ဒီကြေးမုံဟာ လူ့အသက်ကို ကယ်နိုင်တဲ့အတွက်
အသိဉာဏ်ထက်မြက်ပြီး စိတ်နှလုံးကောင်းရှိတဲ့ လူငယ်တွေကို ကယ်
ငါယူလာခဲ့ခြင်း ဖြစ်တယ်။ ဒါပေမယ့် ဒကာလေး ဒီကြေးမုံ ရှေ့ဘက်
ကို မကြည့်ရဘူး။ နောက်ကျောဘက်ကိုသာ ကြည့်ရမယ်။ ကြေးမုံ
ရှေ့ဘက်ကိုတော့ ယောင်လို့မှ မကြည့်လိုက်လေနဲ့နော်။ အဲဒါကို မြဲ
မှတ်ထား။ ရော့။ ဒီကြေးမုံကို ယူထားလိုက်။ နောက်သုံးရက်အတွင်း
ငါလာယူလှည့်မယ်။ အဲဒီအချိန်လောက်ဆိုယင် ဒကာလေးရဲ့ ရောဂါ
ပျောက်လောက်ကရော့ပေါ့"

ထိုသို့ ပြောဆိုပြီးနောက် ကိုရင်ကြီးသည် မည်သို့မျှ ဆက်မပြော
တော့ဘဲ ချာခနဲ လှည့်၍ ပြန်ကြွသွားလေ၏။

"အင်း ကိုရင်ကြီးနဲ့ သူ့စကားတွေက တော်တော်ဆန်းတာပဲ
ကိုရင်ကြီး ပေးပစ်ခဲ့တဲ့ ကြေးမုံကို ကြည့်ပြီး ကုကြည့်ဦးမှပဲ။ ဘာမျှ
ထူးမလဲ မဆိုနိုင်ဘူး" ဟု အောက်မေ့လျက် ကြေးမုံကို ကောက်၍





ကျောဘက်ကို ကောက်ကြည့်လိုက်လေ၏။ သို့ ကြည့်လိုက်ရာတွင် အရိုး
စု ကမ္ဗဋ္ဌစန်းရုပ်ကြီးကို မြင်လိုက်ရသဖြင့် ကျိယ္မှာ ပြင်းစွာ တုန်လှုပ်
ခြင်း ဖြစ်ရလေ၏။ကျိယ္သည် ကြေးမုံကို လျင်မြန်စွာ ပြန်ဖုံးလိုက်
ပြီးလျှင်

"အင်း ဒီကိုရင်ကြီးဟာ တော်တော်ဆိုးတဲ့ ကိုရင်ကြီးပဲ။ သက်
သက်မဲ့ ငါ့ကို ကြောက်စရာ လန့်စရာတွေဖြစ်အောင် လာလုပ်တယ်။
ဒီလောက်တောင် ရှိလှတာ၊ နောက်တစ်ဖက်ကို ကြည့်လိုက်ဦးမှပဲ"ဟု
အောက်မေ့မိ၏။

ကျိယ္သည် မှန်ကြေးမုံနောက်တစ်ဖက်ကို လှန်ကြည့်လိုက်သည်
တွင် သူ့ကို လက်ယပ်ခေါ်လျက်ရှိသော နတ်ငှက်မယ်ကို မြင်ရ၏။
ကျိယ္သည် အကြီးအကျယ်ပီတိဖြစ်သွားကာ မှန်ထဲတွင် သူ့ကိုလက်
ယပ်ခေါ်နေသည့် နတ်ငှက်မယ်ကိုကြည့်ရင်း နတ်ငှက်မယ်နှင့်အတူ တိမ်
တိုက်နှင့် မိုးစက်ကစားနည်းကို ကစားမြူးတူးလျက် ရှိလေရာ ကစား
ပြီးသည့်အခါ၌ မှန်ထဲမှနတ်ငှက်မယ်၏ ရုပ်သွင်သည်လည်း ပျောက်
ကွယ်သွားလေ၏။

သတိရ၍ ကြည့်လိုက်သည့်အခါတွင် မိမိသည် အိပ်ရာပေါ်တွင်
လှဲလျက်ရှိသည်ကို တွေ့ရသည့်အတွက် ယောင်၍အော်ကာ မျက်လုံးကို
ဖွင့်ကြည့်လိုက်လေ၏။ ထိုအခါ၌ မှန်ကြေးမုံသည် သူ့လက်ထဲမှ လွတ်
ကျသွားကာ အရိုးစုကြီးပေါ်နေသည့်ဘက်ကို မြင်ရလေ၏။ ကျိယ္
သည် အိပ်မက်မက်ရင်း သုက်သွေးတို့ထွက်ခဲ့ရသည့်အတွက် တစ်ကိုယ်
လုံး ချွေးတွေပြန်လျက်ရှိသည့်တိုင် ကျေနပ်ရောင့်ရဲခြင်း မရှိသေးချေ။
ထို့ကြောင့် မှန်ကြေးမုံ ရှေ့ဘက်ကို ကောက်၍ ကြည့်လိုက်ပြန်လေ၏။
ထိုအခါတွင် နတ်ငှက်မယ်သည် ယခင်ကကဲ့သို့ပင် သူ့အား လက်ယပ်
ခေါ်နေသည်ကို တွေ့သည်တွင် သူကလည်း နောက်တစ်ခေါက် လိုက်
သွားပြန်လေ၏။

သို့ဖြင့် အိပ်မက်ထဲတွင် နတ်ငှက်မယ်ခေါ်ရာသို့ လေးကြိမ် လိုက်သွားပြီးနောက် ခွဲခွာ၍ပြန်တော့မည်ပြုစဉ် လူမည်းမည်းကြီးနှစ်ယောက်ရောက်လာကာ သူ့ကို ကြိုးများဖြင့်တုပ်နှောင်ကြပြီး ဆွဲခေါ်သွားကြလေ၏။

"နေပါဦးဗျ။ ကျွန်တော့်မှန်ကို ကျွန်တော်ယူခဲ့ပါရစေဦး" ဟု ကျိယွီက အော်လေ၏။

ဤစကားများကား ကျိယွီ နောက်ဆုံးပြောသွားသည့် စကားလုံးများပေတည်း။

ကျိယွီသည် မှန်ကလေးကို ဆုပ်ကိုင်၍ကြည့်နေသည်ကို မြင်ရ၏။ မှန်လွတ်ကျသွားသည့်အခါတွင် ကျိယွီသည် မျက်လုံးကြီးပွင့်လာကာ မှန်ကို ပြန်ကောက်လေ၏။ သို့ရာတွင် ယခုတစ်ကြိမ် လက်မှ လွတ်ကျသွားသည့်အခါတွင်မူ ကျိယွီသည် လှုပ်ရှားခြင်း မရှိတော့ချေ။ အစေတော်များက စမ်းသပ်ကြည့်ကြသည့်အခါ၌ ကျိယွီတွင် အသက်မရှိတော့ချေ။ သူ့တင်ပါးအောက်ရှိ အိပ်ရာခင်းမှာ စိုရွှဲစေးထန်းနေသည်ကို တွေ့ရလေ၏။

အစေတော်များသည် ကျိယွီ၏အလောင်းကို ပြင်ဆင် ကာ ခေါင်းသွင်းရန် အဆင်သင့် ပြင်ထားကြလေ၏။ ကျိယွီ၏ အဘိုးနှင့် အဘွားတို့မှာ အကြီးအကျယ် စိတ်ထိခိုက်လျက်ရှိကာ ကြေးမုံပေးသွားသည့် တာအိုကိုရင်ကြီးကို အပြစ်တင်လျက်ရှိကြလေ၏။

ကျိယွီ၏ အဘိုးက

"ဒီမှန်ဟာ မင်္ဂလာမရှိတဲ့မှန်။ နောက်မှာ ဘယ်လောက်ဂြိုဟ်မွှေဦးမလဲ မသိဘူး။ သွားရိုက်ခွဲပစ်လိုက်စမ်း" ဟု ဆိုကာ မီးပုံထဲသို့ရိုက်ခွဲလွှင့်ပစ်ခိုင်းလိုက်လေ၏။

ထိုစဉ် "အစကတည်းက ငါပြောခဲ့သားပဲ။ ရှေ့ဘက်ကို မကြည့်နဲ့။ နောက်ဘက်ကိုသာ ကြည့်လို့။ ငါ သေသေချာချာမှာခဲ့တယ်။ ကိ အတုကို အစစ်ထင်တော့ နင်တို့ဒုက္ခရောက်ပြီမဟုတ်လား။ ပေး ငါ့မှန်၊ ဘာဖြစ်လို့ ရိုက်ခွဲပစ်ရမှာလဲ" ဟူသော အသံတစ်သံ မှန်ထဲမှပေါ်ထွက်လာလေ၏။





ထိုအသံနှင့် မရှေးမနှောင်းမှာပင် ခြေတစ်ဖက် ကျိုးနေသည့် ကိုရင်ကြီးသည် ဝင်းဝမှ ချက်ချင်းပေါ်လာကာ "ဟဲ့ ဒီမှန်ကို ရတနာ့မေတ္တာကြေးမုံ လို့ ခေါ်သတဲ့။ ဘယ်အကွဲခံနိုင်ပါ့မလဲ။ ပေး ငါ့မှန်" ဟူဆိုကာ မှန်ကို လက်ထဲမှ ဖျတ်ခနဲယူသွားပြီးနောက် ချက်ချင်း ပြန်ထွက်သွားလေ၏။

ကျိယွီ၏အဘိုး ကျိထိုက်ရှသည် အသုဘအတွက် ပြင်ဆင်ကာ သုံးရက်တိုင်တိုင် တရားတော်များကို ရွတ်ဖတ်သရဇ္ဈာယ်ရန် ဘုန်းတော်ကြီးများကို ပင့်၏။ အသုဘကိုလည်း ၇ ရက် ထားလေ၏။ တလားကိုလည်း သံသေဘုရားဝတ်ကျောင်းတွင် အဆင်သင့်ပြင်ထားလေ၏။

ကျိဆွေမျိုးစုအားလုံး အသုဘကို လာရောက် မေးမြန်းကြလေ၏။ ယွန်နီးစံအိမ်မှ ကျိရှဲနှင့် ကျိချိန်တို့က အသုဘအတွက် ငွေစင် နှစ်ဆယ်ကျပ်သားစီ ကူပြီး၊ နိန်စံအိမ်မှ ကျိချန်ကလည်း ထိုနည်းအတိုင်း ကူလေ၏။ အချို့ဆွေမျိုးများကလည်း သူတို့ တတ်နိုင်သလောက် ငွေစင် သုံးကျပ်သား၊ နှစ်ကျပ်သား စသည်ဖြင့် ထည့်ဝင်ကြလေ၏။ ကျိယွီ၏ ကျောင်းနေဘက်များက ငွေစင်နှစ်ဆယ် သုံးဆယ်ကျပ်သားခန့် စုဆောင်းထည့်ဝင်ကြလေ၏။ သို့ဖြင့် ကျိထိုက်ရှသည် ငွေကြေး မတတ်နိုင်သည့်တိုင် အသုဘကို စည်ကားသိုက်မြိုက်စွာ ချနိုင်ခဲ့လေ၏။

ထိုနှစ် ဆောင်းရာသီအကုန်လောက်တွင် မိမိသည် ကောင်းစွာ ကျန်းမာခြင်း မရှိသည့်အတွက် သမီးထိုက်ယုအား ပြန်လွှတ်လိုက်စေလိုကြောင်းဖြင့် လင်ယုပိုက်ထံမှ စာတစ်စောင်ရောက်လာခဲ့လေ၏။ ထိုစာကို ရသည်တွင် မယ်မယ်မှာ စိတ်ပူလျက်ရှိသည့်တိုင် ထိုက်ယုကိုမလွှတ်၍ မဖြစ်တော့ဘဲ အမြန်ပြန်လွှတ်ရန် စီစဉ်ရလေ၏။ ပေါက်ယုသည် ထိုက်ယုပြန်တော့မည်ဖြစ်သဖြင့် စိတ်ထိခိုက်လျက်ရှိသော်လည်း သမီးနှင့်အဖေကြားတွင် ဝင်၍မဖြစ်သဖြင့် ဘာမျှမပြောသာတော့ချေ။

မယ်မယ်သည် ထိုက်ယုကို လိုက်ပို့ရန်အတွက် ကျိလျံကို ထည့်လိုက်လေ၏။ ထိုက်ယုအပြန်တွင် လိုလေသေးမရှိရအောင် လက်ဆောင်များ ပေးလိုက်ပုံ၊ ခရီးအတွက် မည်သို့ပြင်ဆင်ကြပုံကိုမူ အကျယ်ဖော်

ပြခြင်း မပြုလိုတော့ပြီ။ ကျီလျှံနှင့် ထိုက်ယုတို့ ထွက်ခွာရန်အတွက် နေ့ကောင်းရက်သာ ရွေးပြီးသည်နှင့် သူတို့သည် အစေတော်များနှင့် အတူ ယန်ကျိုမြို့သို့ လှေဖြင့် စုန်ဆင်းခဲ့ကြလေ၏။

အကျယ်ကိုသိလိုမူ နောက်တစ်ခန်းကို ဖတ်ပါလေ။







## အခန်း ၁၃

ကျင်ကို့ ကွယ်လွန်ခြင်းနှင့် ဘုရင့်ကိုယ်ရံတော် ဗိုလ်တစ်ဦးခန့်အပ်ခြင်း။
နတ်ငှက်မယ်သည် နိန်စံအိမ်ကြီးမှ ကိစ္စများကို စီမံအုပ်ချုပ်ပေးခြင်း။

မိမိ၏ ခင်ပွန်းသည်ဖြစ်သူ ကျီလျံမှာ ထိုက်ယုကို ယန်ကျိုမြို့သို့ လိုက်ပို့ မရသည့်အတွက် နတ်ငှက်မယ်သည် တစ်ယောက်တည်း ပျင်းကျန်ရစ် ခဲ့လေ၏။ ညနေတိုင်လျှင် အစေတော် ပင်အဲနှင့် စကားပြောခြင်းဖြင့် သာ အချိန်ကိုကုန်စေပြီးနောက် ယောင်တီးယောင်နဖြင့် အိပ်ရာသို့ဝင် ခဲ့ရလေ၏။

တစ်ညသ၌ နတ်ငှက်မယ်သည် ပန်းထိုးနေရာမှ ညောင်းညာ လာသည့်အတွက် ခဏနားကာ မီးအိမ်အနီးတွင် လက်ဆွဲမီးဖိုကလေးကို ချ၍ မီးထည့်နေစဉ် မိမိ၏ ရွှေချည်ထိုးစောင်ကို မီးကင်၍ နွေးအောင် လုပ်ထားရန် ပြောပြီးနောက် အိပ်ရာသို့ဝင်ခဲ့လေ၏။ ည ဆယ်ချက်တီး သည့်တိုင် နတ်ငှက်မယ်သည် အိပ်မပျော်နိုင်သေးဘဲ သည်အချိန်ဆိုလျှင် သူ့ယောကျ်ားကျီလျှံသည် မည်သည့်မြို့ရွာသို့ရောက်လေခက်ပြီ စသည် ဖြင့် တွေးတောလျက် ရှိလေ၏။ ခဏကြာလျှင် ပင်အဲလည်း အိပ်ပျော် သွားလေ၏။ နတ်ငှက်မယ်မှာလည်း အိပ်ချင်လာသဖြင့် သိမေ့သိမေ့ ဖြစ်နေစဉ် သူ့ခန်းဆောင်ထဲသို့ ကျင်ကို့ဝင်လာသဖြင့် အံ့အားသင့် လျက် ရှိလေ၏။

ကျင်ကို့ဏာ နေခက်ပြောင်ကျီစယ်ဟန်ဖြင့်

"ငှက်မယ်ကလဲကွယ်။ သိပ်ပြီးအအိပ်မက်တာပဲ။ ဒီနေ့ ကျင်ကို့ အိမ်ကိုပြန်တော့မလို့လေ။ လာပြီးနှုတ်ဆက်ဖော်တောင် မရတော့ဘူးပေါ့။ ဒါပေမယ့် ကျင်ကို့ကတော့ ငှက်မယ်ကို ခင်မင်ရင်းစွဲရှိလေတော့ နှုတ်မဆက်ဘဲ မပြန်ရက်ပါဘူး။ လာဖြစ်အောင်လာပြီး နှုတ်ဆက်ပါတယ်။ ပြီးတော့ ငှက်မယ်ကို မှာပစ်ခဲ့ချင်တာလေး တစ်ခုလဲ ရှိလို့။ တခြားဘယ်သူ့ကိုမှ စိတ်မချတာနဲ့ သူတို့ကို မမှာချင်ဘူး"

"ဘာများလဲကွယ်။ ငှက်မယ်လုပ်ပေးမှာပေါ့"ဟု နတ်ငှက်မယ်က ဝေခွဲမရဟန်ဖြင့် ပြောလေ၏။

"ငှက်မယ်ဟာ တကယ့်အရည်အချင်းရှိတဲ့ မိန်းကလေး။ ဗောင်းတော်ရ အရာကမ်း ပိုးခါးပတ် စည်းထားတဲ့ ယောကျ်ားတွေတောင် ငှက်မယ်ကိုလိုက်လို့ မမီနိုင်ပါဘူး။ 'လ ဆိုတာ ဆန်းယင် ဆုတ်ရတယ်' 'ရေဆိုတာ ပြည့်ယင် စီးရတယ်'၊ 'အမြင့်ကိုတက်လေလေ အကျနာလေလေ ဖြစ်တတ်တယ်' ဆိုတဲ့ စကားပုံတွေကို ငှက်မယ်လဲ သိမှာပေါ့။ ခုဆိုယင် ကျင်ကို့တို့စံအိမ်က ဆွေမျိုးစု ကြီးပွားခဲ့တာဟာ အနှစ်တစ်ရာလောက် ရှိခဲ့ပြီ။ 'သစ်ပင်ကြီး လဲတော့ မျောက်တွေ သင်းကွဲကြတယ်' ဆိုတဲ့စကားလို တစ်နေ့မှာ ကျင်ကို့တို့ စည်းစိမ်ချမ်းသာတွေ ပျက်ပြားသွားခဲ့ယင် ကျင်ကို့တို့ရဲ့ မိသားစုကြီးဟာ ဘယ်လိုဖြစ်သွားမယ် ထင်သလဲ"

နတ်ငှက်မယ်သည် အကင်းပါးသူပီပီ ထိုအချက်ကို ချက်ချင်းသဘောပေါက်လိုက်ကာ အထိတ်တလန့်ဖြစ်လျက်

"အင်း ကျင်ကို့ပြောတာ စဉ်းစားစရာပဲ။ ဒါပေမယ့်ကွယ် ဒီလိုဖြစ်လာတာကို ဘယ်သူတားဆီးနိုင်ပါ့မလဲ"

ကျင်ကို့က ခပ်ကျယ်ကျယ်ရယ်လိုက်ကာ

"ငှက်မယ်ကလဲ သိပ်အသေးတာကိုး။ ချီးမွမ်းခြင်းနောက်မှာ ကဲ့ရဲ့ခြင်း လိုက်လာတယ်တဲ့။ ချမ်းသာခြင်းရဲ့နောက်မှာ ပျက်စီးခြင်းလိုက်တယ်တဲ့။ ဒါဟာ နိယာမ တရားပဲ မဟုတ်လား ငှက်မယ်ရဲ့။ ဒီနိယာမတရားကို လူတွေ ဘယ်မှာလွန်ဆန်လို့ ရနိုင်ပါ့မလဲ။ ကျင်ကို့တို့ တတ်နိုင်





တာက ရှားပါးတုန်းမှာ အဆင်သင့်ဖြစ်နေအောင် ပေါများတုန်းမှာ စုဆောင်းသိုမှီးထားရမယ်။ ဒီတော့ ခုနေက စုဆောင်းသိုမှီးထားတယ်ဆိုယင် ရှေ့ရေးအတွက် စိတ်ချရတာပေါ့ ငှက်မယ်ရယ်"

နတ်ငှက်မယ်က အကျိုးအကြောင်းကို ရှင်းလင်းပြောရန် ပြော၏။

"ဘိုးဘွားစဉ်ဆက်တို့ရဲ့ သင်္ချိုင်းမှာ အခါရာသီအလိုက် ပူဇော်ကန်တော့ပွဲတွေ အကြီးအကျယ် လုပ်နေကြပေမယ့် ဒီပူဇော်ပွဲတွေအတွက် သတ်မှတ်ထားတဲ့ပိုက်ဆံကြေးငွေ မရှိဘူး။ ကျင်ကို့တို့မှာ ဆွေမျိုးစုတွေအတွက် ကျောင်းထောင်ထားပေမယ့် ဒီကျောင်းအတွက် ရန်ပုံငွေ မရှိဘူး။ ခုတော့ ကျင်ကို့တို့မှာ ပစ္စည်းဥစ္စာရှိတုန်းမို့ ပူဇော်ပွဲတွေလုပ်တာ မထောင်းတာပေမယ့် နွမ်းပါးသွားတဲ့အခါမှာ ဘယ်လိုလုပ်ကြမလဲ။

"ဒီတော့ ကျင်ကို့အကြံပေးချင်တာက ကျင်ကို့တို့မှာ စည်းစိမ်ချမ်းသာတွေရှိတုန်း၊ အမြင့်ကိုရောက်တုန်းမှာ ဘိုးဘွားစဉ်ဆက် သင်္ချိုင်းတွေနားမှာ မြေယာတွေဝယ်ထားပြီး အဲဒီလယ်မြေတွေကရတဲ့ ဝင်ငွေနဲ့ ပူဇော်ပွဲတွေလုပ်ယင် မကောင်းပေဘူးလား။ ဆွေမျိုးစုကျောင်းကိုလဲ အဲဒီကိုရွှေ့ယင် မကောင်းပေဘူးလား။

"ဆွေမျိုးစုထဲမှာရှိတဲ့ သားချင်းအားလုံး ကြီးသည်ငယ်သည်မဟူ အဲဒီလယ်မြေတွေကို တစ်လှည့်စီ ကြီးကြပ်အုပ်ချုပ်ခိုင်း၊ ဝင်ငွေတွေ၊ ပူဇော်ပွဲတွေကို တစ်နှစ်တစ်ခါ တစ်လှည့်စီ အကြီးကြပ်ခိုင်းယင် မကောင်းပေဘူးလား။ ဒီလို တစ်လှည့်စီ ကြီးကြပ်အုပ်ချုပ်မယ်ဆိုယင် အချင်းချင်းလဲ စကားမများရတော့ဘူး၊ ရောင်းတာတို့ ပေါင်တာတို့ စတဲ့ အလွဲသုံးစားလုပ်မှုတွေလဲ မရှိတော့ဘူး။

"တကယ်လို့ ရာဇဝတ်မှုတစ်ခုခုကြောင့် ပစ္စည်းတွေကို ဘဏ္ဍာတော်အဖြစ် သိမ်းယူခံရယင်လဲ ဘိုးဘွားစဉ်ဆက် သင်္ချိုင်းအတွက် လှူထားတဲ့ မြေယာတွေကတော့ ကျန်ခဲ့မှာပဲ။ ဒီလိုလုပ်ထားယင် နွမ်းပါး

သွားတဲ့အခါမှာတောင် လူငယ်တွေ အဲဒီသွားပြီး လယ်ယာလုပ်နိုင်တယ်၊ စာသင်နိုင်တယ်။ သူတို့မှာ ကျောထောက်နောက်ခံ ရှိလေတော့ ပူဇော်ပွဲတွေကို အဆက်မပြတ်ကျင်းပနိုင်တယ်။

"ကျင်ကို့တို့ရဲ့ စည်းစိမ်ဥစ္စာတွေဟာ ဘယ်တော့မှ ပျက်ပြုန်းတော့မှာ မဟုတ်ဘူးထင်ပြီး နောင်ရေးအတွက် ဒီလိုလုပ်မထားယင် အမြင်တိုရာကျလိမ့်မယ်။ မကြာခင်မှာ ရေများရာမိုးရွာ၊ မီးလောင်ရာဆီလောင်း၊ ဖဲပွင့်ပေါ် ပန်းထိုးတဲ့ကိန်းတစ်ခုဆိုက်ပြီး အဆန်းတကြယ်တစ်ခုခုတော့ ဖြစ်တော့မယ်။ ဒါပေမယ့် ဒါဟာ ကျင်ကို့တို့အဖို့ ဒယ်အိုးထဲမှာ မီးတစ်ချက် ဝင်ဟပ်တာလောက်ပါပဲ။ ယာယီ သုခတွေရတာလောက်ပါပဲ။ ဘာပဲဖြစ်ဖြစ် အကြီးကျယ် အခမ်းနားဆုံး ပျော်ပွဲကြီးတောင်မှ တစ်နေ့မှာ အဲဆုံးသတ်ရတယ်ဆိုတဲ့စကားပုံကို မမေ့ပါနဲ့နော်။ အချိန်မနှောင်းခင်မှာ နောင်ရေးကို ထည့်စဉ်းစားပါ၊"

"ဘယ်လို အဆန်းတကြယ်တွေများ ဖြစ်မှာလဲ ကျင်ကို့ရယ်၊ ပြောစမ်းပါဦး"

"ကောင်းကင်ဘုံရဲ့ လျှို့ဝှက်ချက်ကို မသိအပ်ဘူးတဲ့ ငှက်မယ်ရဲ့။ ဒါပေမယ့် ကျင်ကို့နဲ့ ငှက်မယ်ကတော့ တစ်ယောက်ကို တစ်ယောက် ချစ်ကြတဲ့အတွက် နှုတ်ဆက်တဲ့အနေနဲ့ အကြံ ပေးပါရစေနော်"ဟုဆိုကာ ကဗျာလေးတစ်ပုဒ်ကို ရွတ်ပြလေ၏။

နွေဦးလည်းကုန်၊ ပန်းလည်းမြုံသော်
လူ့ဘုံလောက၊ ဤဘဝ၌
လမ်းစကိုယ်စီ၊ ရှာရမည်တည့်။ ။

တစ်စုံတစ်ရာကို မေးမည်အပြုတွင် နတ်ငှက်မယ်သည် အရှေ့တံခါးရှိ နာရီသံချောင်းမှ လေးမောင်းရိုက်သံကြောင့် နိုးလာ၏။ ခဏကြာလျှင် အစေတော်တစ်ယောက် ရောက်လာကာ အရှေ့အိမ်မှ သခင်မလေးကျင်ကို့ ကွယ်လွန်သွားပြီဖြစ်ကြောင်းဖြင့်လာရောက်အကြောင်းကြားလေ၏။





နတ်ငှက်မယ်၏ တစ်ကိုယ်လုံးတွင် ချွေးစေးတွေ ပြန်လာ၏။ သတိပြန်ရလာသည့် အခါတွင် နတ်ငှက်မယ်သည် အဝတ်အစားကို ကပျာကယာလဲကာ ဒေါ်လေးဝမ်၏အဆောင်သို့ ကူးလာခဲ့၏။

ထိုအချိန်၌ကား ထိုသတင်းကြောင့် တစ်အိမ်လုံး ပူဆွေးငိုယိုလျက် ရှိကြလေပြီ။ လူကြီးများက လူကြီးမိဘများကို ကျင်ကို့ ရိုသေကိုင်းရှိုင်းတတ်ပုံတို့ကို ပြောဆိုလျက်ရှိပြီး လူငယ်များကမူ ကျင်ကို့ ချစ်စရာကောင်းပုံ၊ ကလေးများက ကျင်ကို့သနားတတ်ပုံတို့ကို ပြောဆိုလျက်ရှိကြ၏။ ဆင်းရဲနွမ်းပါးသူတို့ကို ကျင်ကို့ သနားညှာတာတတ်ပုံ၊ လူကြီးလူငယ်မရွေး ကျင်ကို့ မေတ္တာထားတတ်ပုံတို့ကို အစေတော်များအားလုံးပင် တသသပြောဆို၍ ငိုကြွေးလျက်ရှိကြလေ၏။

သို့ရာတွင် ထိုအကြောင်းကို ခဏထား၍ ထိုက်ယု ပြန်သွားသည့်အခါတွင် ပေါက်ယု မည်သို့ခံစားနေရပုံကို ပြန်ကောက်ကြဦးစို့။

ထိုက်ယု ပြန်သွားသည့်အခါတွင် ပေါက်ယုသည် သူငယ်ချင်းများနှင့်လည်း ကစားခြင်းမပြုတော့ဘဲ အိပ်ရာသို့ ဝင်ခဲ့ရသော်လည်း ရင်ထဲတွင် မကြည်မသာဖြစ်လျက်ရှိ၏။ ကျင်ကို့ ကွယ်လွန်ကြောင်းကို ကြားရသည့်အခါတွင် ပေါက်ယုသည် အိပ်ရာမှ ဝုန်းခနဲ ထထိုင်လိုက်မိ၏။ ရင်ထဲတွင် နင့်ခနဲ ဖြစ်သွားပြီး တစ်ချက်မျှ ငိုလိုက်ကာ ပါးစပ်မှ သွေးတွေ အန်ကျလာလေ၏။

မာလာနှင့် အစေတော်များသည် ပေါက်ယုဆီသို့ ပြေးသွားကာ အိပ်ရာပေါ်သို့ တွဲတင်ပေးကြ၏။ အကျိုးအကြောင်းကိုလည်းမေးမြန်းကြ၏။ မယ်မယ်ကို ပြောပြကာ သမားတော် ခေါ်သင့် မခေါ်သင့် ပြောဆိုလျက်ရှိကြ၏။

"ကိစ္စမရှိပါဘူး။ မခေါ်ပါနဲ့။ ဘာမှမဖြစ်ပါဘူး။ ရင်ကြပ်ပြီး ရုတ်တရက်မို့ သွေးအန်တာပါ"

ပေါက်ယုသည် အိပ်ရာမှထကာ မယ်မယ်ဆီသို့ သွားမည်၊ ထို့နောက် အရှေ့ဘက်စံအိမ်သို့ သွားမည်ဟုဆိုကာ အဝတ်အစားလဲပေးရန် ပြောဆိုလျက်ရှိ၏။

မာလာသည် ပေါက်ယုအတွက် စိုးရိမ်သည့်တိုင် ဤသို့သော အခြေအနေမျိုးတွင် ပေါက်ယုကို မတားရဲအောင်ဖြစ်လျက်ရှိ၏။

မယ်မယ်ကမူ ခွင့်မပြုချေ။

"အသုဘအိမ်ဆိုတာ သေပြီးခါစမှာ မသန့်ရှင်းဘူးကွယ့်၊ ပြီးတော့ လေကလဲ သိပ်တိုက်နေတယ်။ ဒီတော့ သွားချင်ယင် ငါ့မြေး မနက်ဖြန်မှသွားပါ"

ပေါက်ယုကအတင်းပူဆာသည့်အခါတွင် မယ်မယ်သည် ရထားတစ်စင်းကို အပြင်ခိုင်းကာ အစေတော် အများအပြားကိုလည်း ထည့်လိုက်၏။ နိုန်စံအိမ်ကြီးရှိ ဝင်းတံခါးကြီးများမှာ ဖွင့်ထားလျက်ရှိပြီး ဘေးတစ်ဖက်တစ်ချက်တွင်လည်း မီးတွေ ထိန်နေအောင် ထွန်းထားသည်ကို တွေ့ရ၏။ စံအိမ်ကြီးတွင် အဝင်အထွက် ရှုပ်ယှက်ခတ်လျက်ရှိပြီး ငိုကြွေးနေသံများကိုလည်း ကြားရလေ၏။

ပေါက်ယုသည် ရထားမှဆင်းကာ ကျင်ကို့၏အလောင်းရှိသည့် ခန်းဆောင်သို့ ခပ်သုတ်သုတ်လာခဲ့လေ၏။ ထိုနောက် ငိုပြီးလျှင် မမယုဆီသို့လာခဲ့၏။ မမယုမှာလည်း လေရောဂါထသဖြင့် မအီမသာဖြစ်လျက်ရှိပေ၏။ ထိုနောက် ပေါက်ယုသည် ကျီချန်ကို သွား၍နှုတ်ဆက်လေ၏။

ထိုအချိန်၌ကား ကျီထိုက်ရှ နှင့်တကွ ကျီတိုက်ရှု၊ ကျီရှောင်၊ ကျီကွန်၊ ကျီရှဲ၊ ကျီချင်း၊ ကျီဆုန်၊ ကျီပြန့်၊ ကျီယွမ်၊ ကျီဟုန်၊ ကျီကွမ်၊ ကျီရှင်၊ ကျီချုံ၊ ကျီလင်၊ ကျီကျန်း၊ ကျီချန်း၊ ကျီလင်း၊ ကျီယွန်၊ ကျီချင်၊ ကျီဆင်၊ ကျီပင်၊ ကျီဆောက်၊ ကျီဟုင်၊ ကျီဖင်၊ ကျီဖန်၊ ကျီလန်၊ ကျီချွန်နှင့် ကျီချိတို့ အားလုံးလည်း ရောက်လာကြလေပြီ။

ယောက္ခမဖြစ်သူ ကျီချန်သည် မျက်ရည်စက်လက်ဖြင့်

"ကျွန်တော့်ချွေးမလေးဟာ အလိမ္မာအိုးလေးဗျ၊ လိမ္မာလိုက်သမှ ကျွန်တော့်သားနဲ့တောင် မထိုက်ဘူး။ ကြီးကြီးငယ်ငယ်၊ ဝေးဝေးနီးနီး သူ့ကို လူတိုင်းက ချစ်ကြတယ်။ ခု ကျွန်တော့်ချွေးမကလေးမရှိတော့ဘူးဆိုတော့ ကျွန်တော့်ဆွေမျိုးစုထဲက အကိုင်းအခက်ကြီး တစ်ခု ပြိုတက်ကျသွားတာနဲ့ အတူတူပေါ့"ဟု ကျီတိုက်ရှုကို ပြောဆိုလျက်ရှိ၏။





"အေးလေ။ တရားနဲ့ဖြေပေါ့။ သေတဲ့လူကသေပြီပဲ။ ငိုနေလို့လဲ ပြန်ရှင်လာတော့တာမှ မဟုတ်တော့တာ။ အသုဘကိစ္စကို စီစဉ်ဖို့က အရေးကြီးတယ်"ဟု ကျီချန်ကို နှစ်သိမ့်ကြ၏။

"အမယ်လေး ကျွန်တော့်ချွေးမကလေး လှလှပပ ဖြစ်အောင်ဆိုယင် ကျွန်တော့်မှာရှိသမျှ စည်းစိမ်တွေကုန်ပါစေဗျာ။ ကိစ္စမရှိပါဘူး"ဟု ပြော၏။

ထိုသို့ပြောဆိုနေကြစဉ် ကျင်ယေ့၊ ကျင်ချွန်းနှင့်တကွ မမယု၏ ဆွေမျိုးသားချင်းများအပြင် သူ့ညီမငယ်များပါ ရောက်လာကြ၏။ ယောက္ခမဖြစ်သူ ကျီချန်သည် ဧည့်သည်များကို ဧည့်ခံရန် ကျီချွန်၊ ကျီရှန်၊ ကျီလင်းနှင့် ကျီယန်းတို့ကို တာဝန်ပေးခဲ့ပြီးနောက် အသုဘရက်ကိုရွေးရန် အခါတော်ဆက် နက္ခတ်ဗေဒင်ဆိုင်ရာဌာနသို့ လွှတ်လိုက်လေ၏။

အသုဘကို ၄၉ ရက်ထားရန် ဆုံးဖြတ်ပြီး ကွယ်လွန်ပြီးသည့် သုံးရက်မြောက်နေ့မှစ၍ အသုဘ ကြော်ငြာထုတ်ရန်နှင့် အောက်မေ့တသသည့်နေ့အဖြစ် သတ်မှတ်ရန်လည်း စီစဉ်၏။ ၄၉ ရက် လုံးလုံး သံဃာတော်များကို ပင့်ဖိတ်၍ အဆောင်ဦးတွင် ပရိတ်ရွတ်ကာ ၃၁ ဘုံတွင် ကျင်လည်ကြကုန်သော သတ္တဝါတို့အား အမျှအတန်းဝေရန် စီစဉ်၏။ မဟာသစ္စဂိုဏ်းမှ တာအိုရဟန်း ၉၉ ပါးကို ပင့်ဖိတ်ကာ ဂန္ဓမာဆောင်တွင် အမျှအတန်းဝေရန် စီစဉ်၏။ အလောင်းထည့်သည့် တလားကို ပန်းပေါင်းနံ့သာ ဥယျာဉ်သို့ရွှေ့၍ အသုဘ ၄၉ ရက်အတွင်း ၇ ရက်မြောက်နေ့တိုင်း သူတော်အပါးငါးဆယ်နှင့် တာအိုရဟန်း အပါးငါးဆယ်တို့က တရားတော်များကို ရွတ်ဖတ်ရန် စီစဉ်၏။

သူတို့အထဲတွင် များစွာ စိတ်ထိခိုက်ခြင်း မရှိလှသူဆို၍ အဘိုး ကျီချင်တစ်ယောက်သာ ရှိလေ၏။ ကျီချင်ကား အကြီးဆုံးမြေး ကျီယုန်၏ ဇနီး ကွယ်လွန်သည့်အတွက် မည်သို့မျှ စိတ်ထိခိုက်ဟန် မရှိချေ။ မိမိကိုယ်တိုင် တရားပေါက်အောင် အပြင်းအထန် အားထုတ်လျက်ရှိစဉ်

လောကီကိစ္စများတွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုလိုသည့်အတွက် ကျိ
ချင်သည် အသုဘအိမ်သို့လည်း ရောက်လာခြင်း မရှိချေ။ အသုဘကို
အဝဝကို သားဖြစ်သူ ကျိချန်နှင့်သာ လွှဲထားလေ၏။

ဖခင်ကြီးက ဝင်ရောက်စွက်ဖက်ခြင်း မပြုသည်နှင့် ကျိချန်မှာ
ချွေးမ၏ အသုဘအတွက် စိတ်တိုင်းကျ အကုန်အကျခံလေ၏။ တလား
လုပ်ရန်အတွက် သစ်သားရှာရာတွင် ရှာဖွေထားသည့် ကျောက်ထင်းရှူး
သားကို မကြိုက်ဟုဆိုကာ ထို့ထက် ကောင်းသည့်ပျဉ်ကို ရှာနေရာ
ဆွေ့ဖန်က

"ကျွန်တော်တို့ သစ်စက်ထဲမှာ ကျင်းဆိုတဲ့ သစ်တစ်မျိုးရှိတယ်
ဦးကြီးရဲ့။ အဲဒီပျဉ်က တော်တော်ကောင်းတယ်။ တလားတို့ ဘာတို့လုပ်
ယင် တော်တော်နဲ့ မဆွေးဘူး။ အနှစ် တစ်သောင်းလောက်ခံတယ်။
သစ်မျိုးက နိုင်ငံခြားမှာရှိတဲ့ သံပိုက်ကွန် တောင်ပေါ်မှာ ပေါက်တာ
တဲ့။ ကျွန်တော့် ခမည်းတော်ကြီးကတော့ မင်းသားကြီး ယိကျုံး
အတွက် ဝယ်ထားတာ။ ဒါပေမယ့် မင်းသားကြီး အရာကျတော့ လူ
လဲ ဒီလက်ဆောင်ကို လက်မခံတော့ပါဘူး။ ခုထက်ထိ ကျွန်တော်တို့ဆိုင်
ထဲမှာ ရှိသေးတယ်။ မင်းသားကြီးဖို့ ရည်မှန်းပြီးဆိုတော့ ဘယ်သူမှ
ဒီပျဉ်ကို မဝယ်ရဲကြဘူး။ ဦးကြီး သဘောကျတယ်ဆိုယင် ကျွန်တော်
အပို့ခိုင်းလိုက်မယ်လေ"

ကျိချန်သည် ထိုသတင်းကိုကြားလျှင် ဝမ်းမြောက် ဝမ်းသာဖြစ်
လျက် ပျဉ်များကို ချက်ချင်း အယူခိုင်းလိုက်၏။ အားလုံးပင် ထိုပျဉ်
ကြည့်၍ တအံ့တဩ ဖြစ်ကြရလေ၏။ ဘေးကာနှင့် အောက်ခံပျဉ်များ
မှာ ရှစ်လက်မခန့်ထူ၍ တောင်ထန်းရွက်ကဲ့သို့ အကွက်အကွက် ပေါ်
လျက်ရှိပြီးလျှင် အနံ့မှာလည်း ကရမက်နံ့လိုလို၊ ကတိုးနံ့လိုလို
လျက်ရှိသဖြင့် အားလုံး တအံ့တဩဖြစ်လျက်ရှိကြ၏။ ခေါက်ကြည့်လိုက်
လျှင်လည်း သတ္တုကို လည်းကောင်း၊ ကျောက်စိမ်းသားကို လည်း
ကောင်း ခေါက်ရသကဲ့သို့ ချင်ချင်မြည်လျက် ရှိလေ၏။

ကျိချန်၏ မျက်နှာသည် ဝင်းထိန်သွားကာ အဖိုးကို မေး
၏။





ဆွေ့ဖန်က ပြုံးလိုက်ပြီးလျှင်

"ဝယ်မယ်ဆိုယင် ငွေဆယ်ပိသာပေးလို့တောင် ရမှာမဟုတ်ပါ
ဘူး ဦးကြီးရယ်။ အဖိုးကို မေးမနေပါနဲ့တော့။ ဒီတလားကို ကောင်း
ကောင်း ပြင်ဆင်မွမ်းမံသုံးတယ်ဆိုယင် ပြီးတာပါပဲ။ ကျွန်တော်ကပဲ့
ကူပါရစေ"

ကျိချန်သည် ကျေးဇူးစကား ထပ်တလဲလဲဆိုပြီးနောက် ပျဉ်တို့ကို
အရွေ့ခိုင်းကာ တလားစပ်စေလေ၏။ ကျိချိန်ကမူ

"မင်းညီမင်းသားမှ မဟုတ်ဘဲ၊ သာမန်မျိုးရိုးပဲကွာ။ ဒီလောက်
အဖိုးတန်တလား မလိုပါဘူး။ အကောင်းစား ကျောက်ထင်းရှူးသစ်
လောက်ဆိုယင် တော်လောက်ပါပြီ"ဟု ပြော၏။

သို့ရာတွင် ဖြစ်နိုင်လျှင် ကျင်ကို့ကိုယ်စားပင် ဝင်သေလိုက်ချင်
သည့် ကျိချန်သည် ထိုစကားကို လက်မခံချေ။

ကျင်ကို့ ဆုံးသည့်အခါတွင် သူ့ အစေတော် တစ်ယောက်ဖြစ်
သည့် ယွီချူသည် ခေါင်းကို တိုင်နှင့်ဆောင့်၍ သေလေ၏။ ဆွေမျိုးစု
တစ်ခုလုံးက ထိုအပြုအမူသည် သစ္စာရှိသည့် အပြုအမူဖြစ်ပါပေသည်ဟု
ကောင်းချီး ပေးကြ၏။ ကျင်ကို့သည် သူတို့ ဆွေမျိုးစုထဲမှ မဟုတ်ဘဲ
သား ကျိယုန်၏ဇနီး ဖြစ်သည့်တိုင် ကျိချန်က ကျင်ကို့အား မြေး တစ်
ယောက်၏ အခမ်းအနားဖြင့် သင်္ဂြိုဟ်ရမည်ဟု အမိန့်ပေးကာ ပန်းပေါင်း
နံ့သာ ဥယျာဉ်ထဲရှိ အဆောင်တွင် ကျကျနန ပြင်ထားလေ၏။

ကျင်ကို့တွင် သားသမီး မရှိသည့်အတွက် နောက် အစေတော်
တစ်ယောက်ဖြစ်သည့် ပေါက်ချူက သူပင်လျှင် အေးယဉ်ကျူးပြီး
ဝိုချင်းသည်လုပ်မည်ဟု ပြော၏။ ဤတွင် ကျိချန်သည် ပေါက်ချူကို
အကြီးအကျယ် သဘောကျသွားကာ နောင်တွင် ပေါက်ချူအား သူ့
သမီးအဖြစ် အသိအမှတ်ပြုပြီးနောက် သခင်မလေးဟုခေါ်ရန် အမိန့်
ထုတ်လိုက်၏။

သို့ဖြင့် ပေါက်ချုသည် အလောင်းအနီးတွင် ငိုချင်းသည်အဖြစ် တစ်ချိန်လုံး ငိုကြွေးလျက် ရှိလေရာ ဆွေမျိုးများ၊ အစေတော်များနှင့် ညော်သည်တို့မှာလည်း အသုဘများတွင် လိုက်နာရရိုး အစဥ်အလာ ထုံးစံ အတိုင်း ငိုချင်းသည် ပေါက်ချုငိုသည်ကို နားထောင်ကြရ၏။

အသုဘမှာ သူ့စိတ်တိုင်းကျ ခမ်းနားကြီးကျယ်သည့်တိုင် ကျီချန်သည် အားမရသေးချေ။ သူ့သား ကျီယုန်မှာ ရာထူးလက်ကိုင် မရှိသေးဘဲ သာမန် စာသင်သား တစ်ယောက်မျှသာဖြစ်၏။ သို့ဆိုလျှင် အသုဘစဉ်း၊ ယပ်မား စသည်တို့တွင် စာတန်းထိုးလျှင် ဤဂုဏ်ပုဒ်ဖြင့် ကြည့်၍ မတင့်တယ်။ ထို့ပြင် ဤဂုဏ်ပုဒ်လောက်သာရှိသည့် ပုဂ္ဂိုလ် တစ်ယောက်၏ ဇနီးအသုဘဖြစ်၍ အခြေအရံနောက်လိုက် နည်းတော့ မည်ဟု တွေးမိ၏။

သို့ရာတွင် ကျီချန် ကံကောင်းသည်ဟု ဆိုရချိမ့်မည်။ အသုဘ ခုနစ်ရက်နေ့မြောက်တွင် ရွှေနန်းတော်ဝင်းမှူးကြီးဖြစ်သည့် မိန်းမ စိုး တိုက်ချုန်းထံမှ အသုဘ လှူဖွယ် တန်းဖွယ်ပစ္စည်းများနှင့်အတူ အသုဘ အမေးလွှတ်လိုက်သည့် အစေတော်များ ရှေ့ပြေးရောက်လာကြပြီးလျှင် ခဏအကြာတွင် ဝင်းမှူးအဆောင်အယောင် ထီးမိုးလျက် ဝေါကြီး ဖြင့် ငွေမောင်းစည်တော်စုံတီး၍ တိုက်ချုန်းကိုယ်တိုင် ရောက်လာ၏။

ကျီချန်သည် အသုဘလာမေးသည့် ရွှေနန်းတော်ဝင်းမှူးကြီးကို ပျာပျာသလဲ ကြိုဆိုကာ ဘမယာဆောင်သို့ပို့ပြီး လက်ဖက်ရည်များ တည်ခင်းညော့ခံ၏။ ကျီချန်မှာ အကြံအစည်ရှိသူဖြစ်ရာ ခဏကြာလျှင် မိမိ၏သား ကျီယုန်အတွက် ရာထူးတစ်ခု ဝယ်ယူလိုကြောင်း ဝင်းမှူးကြီး ကို လျှောက်ထားရန် အခွင့်ရသွား၏။

“အသုဘကို ပို့ပြီးခမ်းနားကြီးကျယ်အောင်လို့ ဆိုပါတော့”ဟု ဝင်းမှူးကြီးက ပြုံး၍မေး၏။

“ဝင်းမှူးကြီး မိန့်တဲ့အတိုင်းပါ”

“အိမ်း၊ ဒီလိုဆိုယင်တော့ ကံကောင်းပေတယ်လို့ ဆိုရမှာပဲဗျ။ မကြာခင်မှာ ရာထူးတစ်နေရာ လစ်လပ်လိမ့်မယ်။ ရွှေနန်းတော် လက်ရွေး ကိုယ်ရံတော် ဗိုလ်သုံးရာအနက် ဗိုလ်ရာထူး နှစ်နေရာ လပ်နေ





တယ်။ မနေ့တုန်းကပဲ ရှန့်ယန်မြို့စားကြီးက သူတို့အထဲကတစ်ယောက် အတွက် တစ်နေရာခန့်ပေးဖို့ ကျုပ်ဆီကို ငွေ ဆယ့် ငါးပိသာ လက် ဆောင် ပို့လိုက်တယ်။ သူ့ အ ဘိုး နဲ့ ကျုပ်နဲ့ဆိုတာ မနိုင်ရင်းကာ ရောင်းရင်းကြီးတွေဆိုတော့ ဘယ်ငြင်းလို့ကောင်းပေမလဲဗျာ။ ချက်ချင်း တန်းခန့်ပေးလိုက်ရတာပေါ့။ ယုန်ရှင်းစစ်ဘုရင်ခံ ဖုန်းဆိုယင်လဲ သူ့ သားကို တခြားဘယ်မှာ အလုပ်သွင်းပေးချင်ပါ့မလဲ။ ဘုန်းတော်ကြီး ဘုရား၏ လက်ရွေးကိုယ်ရံတော်တပ်မှာ တပ်ဗိုလ်ပဲ ဖြစ်စေချင်မှာပေါ့။ သို့သော်လဲ ကျုပ် သူ့ကိုတော့ အဖြေမပေးရသေးဘူးဗျ။ ဒီတော့ မြို့စားကြီးရဲ့သားအတွက် လိုချင်ယင် မျိုးရိုးစဉ်ဆက်ဖော်ပြပြီး ခပ်မြန် မြန် လျှောက်လွှာရေး တင်လိုက်ပေတော့”

ကျီချန်သည် ချက်ချင်း အစေတော်များကိုခေါ်ကာ စာရေး များအား လျှောက်လွှာအရေးခိုင်းလိုက်၏။ စာရေးတစ်ယောက်သည် စက္ကူအနီပေါ်တွင် ရေးထားသည့် လျှောက်လွှာကို ယူလာလေ၏။ ကျီချန်သည် ဖတ်ကြည့်ပြီးနောက် လျှောက်လွှာကို ဝင်းမှူးကြီး လက်ထဲ သို့ ထည့်လိုက်သဖြင့် ဖတ်ကြည့်၏။

ကျီယုန်။ အသက်နှစ်ဆယ်၊ ချန်နင်းပြည်နယ်၊ ချန်နင်းခရိုင်၊ ဘုရင့်ရိက္ခာတော်ရ စာသင်သား။

အဘေး။ ကျီထိုက်ဟွာ၊ ရွှေမြို့တော်စောင့်တပ် သေနာပတိ၊ စိတ္တဗလဘွဲ့မည်ရ မျိုးရိုးစဉ် ပထမတန်း ဗိုလ်ချုပ်ကြီး။

အဘိုး။ ကျီချင်၊ ယိမောသက္ကရာဇ်နှစ်တွင် ရွှေမြို့တော်ပညာဗလ ဘွဲ့ရ သုခမိန်။

အဖေ။ ကျီချန်၊ သူရဗလဘွဲ့မည်ရ မျိုးရိုးစဉ် တတိယတန်း ဗိုလ်ချုပ်ကြီး။

ဝင်းမှူးကြီးထိုက်ချုန်းက နောက်လိုက်အရာထမ်းတစ်ယောက်ကို ခေါ်ကာ

"အခွန်တော်ဝန် ချောဆီကို ငါကပေးတယ်လို့ပြောပြီး သွား၊ ပေးလိုက်၊ ရွှေနန်းတော်လက်ရွေး ကိုယ်ရံတော်ဗိုလ်တပ်ဖွဲ့မှာ ပဋ္ဌမတန်း ဗိုလ်အဖြစ် ခန့်အပ်လှာ ထုတ်လိုက်ပါလို့ ပြော။ မနက်ဖြန်ကျယတ် ကျသင့်တဲ့ငွေတော်များကို ငါကိုယ်တိုင်ချိန်တွယ်ပြီး ပို့လိုက်မယ်လို့"

ထို့နောက် ဝင်းမှူးကြီးတိုက်ချွန်းလည်း ပြန်၍ လည် ထွက် ခွာ သွား၏။ ကျီချန်သည် ဝင်းမှူးကြီးကို မပြန်စေချင်သေးသည့်တိုင် တား ထားရန် မတတ်နိုင်တော့ချေ။ ဝင်းမှူးကြီး ဝေါပေါ်သို့မတက်မီတွင် ကျီချန်က

"ငွေတော်များကို ငွေတိုက်တော်ကို သွင်းရမလား၊ ဝင်းမှူး ကြီးဆီကို ပို့ရမလား အမိန့်ရှိပါ"

"ဆယ့်နှစ်ပိဿာချိန်ပြီး ကျုပ်အိမ်ကို ပို့လိုက်ဗျ။ ငွေတိုက် တော်ကို သွင်းယင် စာကလေး အမွေးနုတ်သလို ဘာမှကျန်တော့မှာ မဟုတ်ဘူး"

ကျီချန်သည် လိုက်လှဲစွာ ကျေးဇူးတင်စကားပြောဆိုကာ အိမ် တော်သို့ လာရောက်ပေးသွင်းမည်ဖြစ်ကြောင်း ကတိပေးလေ၏။

"အသုဘကိစ္စများပြီးယင် ကျွန်တော့်သားကိုလဲ ဝင်းမှူးကြီး ဆီ လွှတ်ပြီး ကန်တော့ခိုင်းလိုက်ပါဦးမယ်"

ထိုနောက် ဝင်းမှူးကြီးလည်း ထွက်ခွာသွားလေ၏။

ထိုစဉ် ချွန်ချင်း မြို့စားကတော်ကြီး ကြွလာကြောင်း ဖြင့် ရှေ့တော်ပြေးများက ရှေ့မှအော်၍ ပြေးလာကြ၏။ ဒေါ်လေးဝမ် ဒေါ်လေးဆင့်နှင့် နတ်ငှက်မှယ်တို့က မြို့စားကတော်ကြီး ရှိတင်ကို ညွှန်ခန်းဆောင်မှ ကြိုဆိုကြ၏။ ထို့နောက် ချင်ဆိုင်းနှင့် ချင်နန်းမြို့စား ကတော်ကြီးတို့၏ လှူဖွယ်ဝတ္ထုပစ္စည်းများ၊ ရှောက်ရှန်းမြို့စားကြီး၏ လှူဖွယ်ဝတ္ထုပစ္စည်းများကို တလားအနီးတွင် ခင်းကျင်းပြသထားလေ ၏။ မရှေးမနှောင်းမှာပင် ပုဂ္ဂိုလ်သုံးဦးတို့သည်လည်း ဝေါများ ပေါ်မှ ဆင်းသက်ခဲ့ကြသဖြင့် အလယ်ခန်းဆောင်ကြီးထဲသို့ ကြွ၍ လာကြလေ၏။





သို့ဖြင့် ဆွေမျိုးများ၊ မိတ်ဆွေများသည် အသုဘသို့လာရောက် မေးမြန်းကြ၏။ လေးဆယ့်ကိုးရက်တာပတ်လုံး နိန်စံအိမ်ကြီးရှေ့ လမ်း ပေါ်တွင် အဝတ်ဖြူဝတ်ထားသည့် အသုဘမေး လာကြသူများနှင့် အရာထမ်းဝတ်ရုံကြီးများကိုဝတ်၍ အသုဘမေးလာကြသူ မှူးမတ်တို့ သည် ပြည့်နှက်လျက် ရှိလေ၏။

နောက်တစ်နေ့တွင် ကျီယုန်သည် ဖခင်ကျီချန်၏ အမိန့်အရ နန်းတွင်းဝတ်စုံကိုဝတ်ကာ ရွှေနန်းတော်ကြီးသို့သွားရောက်၍ ရာထူးကို လက်ခံရယူပြီးနောက် တလားအနီးတွင် ပဋ္ဌမတန်း တပ်ဗိုလ်တစ်ဦး၏ အဆောင်အယောင်နှင့်အညီ ဝတ်စား၍နေရလေ၏။ အသုဘကြော်ငြာ စာနှင့် နဖူးစည်းစာတန်းတွင် 'ရွှေနန်းတော်ကြီးမှ အမိန့်ပြန်တမ်းဖြင့် ခန့်အပ်ခြင်းခံရသော ကျီဆွေမျိုးတော် ကျီယုန်၏ကြင်ရာတော် သခင် မလေး ကျင်ကို့၏ မသာတော်အခမ်းအနား' ဟူသော စာတန်းကို ရေးထား၏။

ပန်းပေါင်းနှံ့သာဥယျာဉ်မှ တံခါးများကို ဖွင့်ထားလိုက်ပြီး လျှင် တံခါးတစ်ဖက်တစ်ချက်၌ မဏ္ဍပ်များထိုးကာ အပြာရောင်ဝတ်စုံ ဝတ် သီချင်းသည်၊ ပန်တျာဆည်တို့က အခါအားလျော်စွာ တီးမှုတ် သီဆိုကြ၏။ အခြွေအရံများသည် နှစ်ယောက်တစ်တွဲ ရပ်လျက်ရှိကြကာ 'ဘုန်းတော်ကြီးသောဘုရား၏ အတွင်းနန်းမဆောင်တော် ရွှေနန်းတော် မင်းလမ်းမတော်စောင့် လက်ရွေးကိုယ်ရံတော် ဗိုလ်' ဟူသောစာလုံးကြီး များကို အနီရောင်တွင် ရွှေစာလုံးကြီးဖြင့် ရေးထားသောစာတန်းကြီး များကို တံခါးဝ တစ်ဖက်တစ်ချက်တွင် ထောင်ထား၏။

လမ်းတစ်ဖက်တစ်ချက် မျက်နှာချင်းဆိုင်တွင် သံဃာတော်များ နှင့် တာအိုရဟန်းတော်များအတွက် စင်မြင့်ကြီးများ ထိုးထားပြီးလျှင် "ဘုန်းတော်ကြီးသော ဘုရား၏ အတွင်းနန်းမဆောင်တော်ရှိ လမ်းမ တော်စောင့် ကိုယ်ရံတော်တပ်ဖွဲ့ လက်ရွေးကိုယ်ရံတော်ဗိုလ်၊ မျိုးရိုးစဉ် နိန်တူမြို့စားကြီး၏ မြစ်တော်ကြီး၏ ကြင်ရာတော်၊ ကျီဆွေမျိုးစုအနွယ် တော် သခင်မလေး ကျင်ကို့၏ မသာတော်အခမ်းအနား" ဟု နဖူး စည်းများတွင် ရေးထား၏။

"တရားတော် အလိုတော်တိုင်း ရင်ဝယ်ပိုက်ထုပ် အုပ်ချုပ်တော်မူသည့် ငြိမ်းချမ်းစည်ပင်သော ကျွန်းကြီးလေးကျွန်းအလယ်ဗဟိုရှိ ဤနိုင်ငံတော်ကြီး၌ ဗုဒ္ဓမြတ်စွာဘုရား၏ သာသနာတော် ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ စည်ပင်ပြန့်ပွားရန် အားထုတ်တော်မူကြကုန်သော မဟာသံဃာ့နာယက ကျောင်းထိုင်ဆရာတော်ကြီးဖြစ်သည့် ဆရာတော်ဝမ်ဆုနှင့် တြိပိဋကတ်တို့ကို စည်ပင်ပြန့်ပွားအောင် အားထုတ်တော်မူသော တာအိုဘုန်းတော်ကြီး ဆရာတော် ယေရှင့်တို့သည် ကာယကံ၊ ဝစီကံ၊ မနောကံတို့ကို သန့်စင် စင်ကြယ်စေပြီး၍ ဗုဒ္ဓမြတ်စွာဘုရားအား ရှိခိုးကော်ရော် ပူဇော်ကန်တော့ပါ၏ ဘုရား။ လေးဆယ့်ကိုးရက် ကာလပတ်လုံး ကျင်းပသည့် ဤအသုဘအလှူပွဲတွင် သမာဓေဝ နတ်ကောင်းနတ်မြတ်တို့သည် စောင့်ရှောက်ကြကုန်၍ ဘဝတစ်ပါးသို့ ပြောင်းသွားကွယ်လွန်လေပြီးသောသူသည် သံသရာမှလွတ်မြောက်သည် ဖြစ်၍...."

အသုဘကို လိုလေသေးမရှိအောင် ကြီးကျယ်ခမ်းနားစွာ ကျင်းပသည့်တိုင် မိမိ၏ဇနီးသည် မမယုမှာ နေထိုင်မကောင်းဖြစ်ကာ ထိုအခမ်းအနားများကို မကြည့်နိုင်သဖြင့် ကျွီချန်သည် စိတ်မကောင်းဖြစ်လျက်ရှိ၏။ ယခုကဲ့သို့ မှူးမတ်များ၊ မင်းစိုးရာဇာများ အစုံအညီလာကြသည့် အခါမျိုးတွင် ညှော်ခံပြုစုရာ၌ အမှားအယွင်း အချွတ်အချော်ရှိခဲ့လျှင် မိမိတို့မိသားစုတစ်ခုလုံး နာမည်ပျက်မည်ကို ကျွီချန် စိုးရိမ်လျက်ရှိ၏။

ပေါက်ယုသည် မျက်နှာမသာမယာ ဖြစ်နေသည့် သူ့အစ်ကိုတော်ကို မြင်သည့်အခါ၌

"အစစအရာရာ အဆင်ပြေသွားပဲ အစ်ကိုကြီးရယ်၊ ဘာဖြစ်လို့ ဒီလောက် စိုးရိမ်သောက ရောက်နေရတာလဲ"ဟု မေး၏။ အကျိုးအကြောင်းကို သိရသည့်အခါ ပေါက်ယုက





"ဒါက လွယ်ပါတယ် အစ်ကိုကြီးရယ်၊ အစ်ကိုကြီးကိုယ်စား တစ်ယောက်ယောက်ကို ကြီးကြပ်ခိုင်းလိုက်ယင် ပြီးတာပဲဟာ။ ဒီတစ်လမှာ သူ့ကို ကြီးကြပ်ခိုင်းလိုက်ပါ။ အစစအရာရာ အဆင်ပြေပါလိမ့်မယ်"

"ဘယ်သူ့ကို ကြီးကြပ်ခိုင်းယင် ကောင်းမလဲကွာ၊ ပြောစမ်းပါဦး"

ပေါက်ယုက အနီးသို့ကပ်၍ ခပ်တိုးတိုးပြောလိုက်၏။ ကျွီချန်သည် ဝမ်းမြောက်ဝမ်းသာဖြင့် ရုတ်တရက်မတ်တတ်ရပ်လိုက်ကာ

"အေး မဆိုးဘူးဟေ့၊ ကောင်းတယ်၊ ကောင်းဆို ချက်ချင်းပဲ ငါသွားပြီး စီစဉ်လိုက်မယ်"

ကျွီချန်နှင့် ပေါက်ယုသည် အတွင်းဆောင်ဘက်သို့ ဝင်လာခဲ့ကြ၏။

ထိုနေ့မှာ အသုဘရှုသည့် အဓိကနေ့ရက် မဟုတ်ဘဲ ကြားရက်ဖြစ်သည့်အတွက် အသုဘအိမ်တွင် ဆွေမျိုးရင်းချာထဲမှ အမျိုးသမီးအချို့သာ ရှိ၏။ ထိုအမျိုးသမီးများကို ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်နှင့် နတ်ငှက်မယ်တို့က ညှော်ခံလျက်ရှိ၏။ ထိုမိန်းမဆောင်ထဲသို့ ကျွီချန်နှင့် ပေါက်ယုတို့ ဝင်ရောက်လာသည့်အခါတွင် အမျိုးသမီးများမှာ တအံ့တဩဖြစ်လျက်ရှိကာ အချို့ကလည်း အတွင်းဘက်သို့ ဝင်ရောက်သွားကြ၏။ နတ်ငှက်မယ် တစ်ယောက်တည်းသာလျှင် ဣန္ဒြေမပျက် ကျန်ရစ်ခဲ့လေ၏။

ကျွီချန်မှာ ထိုအချိန်က ကောင်းစွာကျန်းမာခြင်း မရှိသည့်ပြင် သောကဖိစီးလျက်ရှိသဖြင့် အနည်းငယ် ချောင်ကျသွားကာ တောင်ဝှေး တစ်ချောင်းဖြင့် လမ်းလျှောက်နေရလေ၏။

ဒေါ်လေးဆင့်က

"ကျွီချန်လဲ ကိုယ့်ကျန်းမာရေးကို ဂရုစိုက်ဦးနော်။ ဒီလောက်တောင် လှုပ်ရှားရတာတွေ များယင် အနားလေးဘာလေး ယူယင်ကောင်းမယ်။ ဆိုစမ်းပါဦး၊ ခုဘာ ဘာကိစ္စနဲ့ အရေးတကြီး ပေါက်လာကြတာလဲ"

ကျီချန်က တောင်ဝှေးကို ကိုင်ထားရင်း အမျိုးသမီးများ ဦးညွတ်နှုတ်ဆက်လိုက်လေ၏။ ဒေါ်လေးဆင့်က ကျီချန်ကို တဲ့ပေ ကုလားထိုင်တစ်လုံး ချပေးရန် ပေါက်ယုကိုပြော၏။ သို့ရာတွင် ကျီ မထိုင်ချေ။

ကျီချန်သည် အားယူ၍ ပြုံးလိုက်ရင်း

"ဟောဒီက ဒေါ်ကြီးတို့၊ ဒေါ်လေးတို့၊ နှမတို့ဆီမှာ ကျွန်တော် အကူအညီတစ်ခု တောင်းချင်လို့ပါ"

"ဘာများပါလိမ့်" ဟု ဒေါ်လေးဆင့်က မေး၏။

"ကျွန်တော့် အခြေအနေကို ဒေါ်လေးဆင့် သိပါတယ်။ ကျွန်တော့်မှာ ချွေးမလဲဆုံး၊ ဇနီးကလဲ နေထိုင်မကောင်းလေ ကျွန်တော့် အိမ်မှာ အားလုံး ဖရိုဖရဲဖြစ်နေတယ်။ ဒီတော့ ဟော ငှက်မယ်က ကျွန်တော့် အိမ်ကို တစ်လလောက် လာပြီး စီမံကွပ်ကဲ ပါလို့ တောင်းပန်ချင်လို့ပါ။ ဒီလိုသာ ကူညီမယ်ဆိုယင် ကျွန်တော် အေးရမှာ"

"ဪ ဒီလိုလား။ ငှက်မယ်က မင်းဒေါ်လေးရဲ့ စံအိမ် လက်သည်း ခြေသည်း ဖြစ်နေလေတော့ ဒေါ်လေးဝမ်ဆီကို ပြော လေ" ဟု ဒေါ်လေးဆင့်က ပြုံးလျက်ပြော၏။

ဒေါ်လေးဝမ်က

"ငှက်မယ်က ငယ်လဲငယ်၊ အတွေ့အကြုံကလဲ နည်းတော့ လောက် ကြီးကျယ်တဲ့ အသုဘကိစ္စကြီးကို စီမံအုပ်ချုပ်လို့ ဖြစ်မှာမဟု သေးပါဘူးကွယ်။ တော်တော်ကြာ လုပ်မှားကိုင်မှားဖြစ်ယင် လူ စရာ ဖြစ်နေပါ့မယ်။ ဒီတော့ ဒီ့ပြင် တစ်ယောက်ကို ရှာတာ ပါလိမ့်မယ်"

"ဒေါ်လေးပြောတာကို ကျွန်တော်နားလည်နိုင်ပါတယ် ဒေါ်လေးက သူ ပင်ပန်းနေမှာ စိုးလို့ပြောတာ ဖြစ်မှာပါ။ လုပ်မှား ကိုင်မှား ဖြစ်စရာကတော့ သိပ်စိုးရိမ်စရာမရှိပ့ါဘူး။ တော်တော်တ မှားတာလောက်ကတော့ အရေးမကြီးပါဘူး။ ငှက်မယ်ဟာ ငယ် လေးကတည်းက သူ့စိတ်ကို သူနိုင်တဲ့ ကလေးမပါ။ လက်ထပ်ပြီး





ဒေါ်လေးဝမ်တို့ အိမ်ကြီးကို အုပ်ချုပ်လာတဲ့အခါကျတော့ အတွေ့ အကြုံ တော်တော် ရနေပြီပဲ။ ကျွန်တော် စဉ်းစားနေတာကြာလှပါပြီ။ ဒါပေမယ့် သင့်လျော်မယ့်လူကို တစ်ယောက်မှ စဉ်းစားလို့ မရသေး ဘူး။ ကျွန်တော်နဲ့ ကျွန်တော့်မိန်းမအတွက် မစဉ်းစားနိုင်ယင်တောင် သေသွားတဲ့ ကျွန်တော့် ချွေးမလေးကို ငဲ့ညှာသောအားဖြင့် ဒေါ် လေးစဉ်းစားပေးစေချင်ပါတယ်"

ပြောရင်းဆိုရင်း ကျီချန်၏ မျက်လုံးတွင် မျက်ရည်တွေ ဝဲလာ လေ၏။

ဒေါ်လေးဝမ် စိုးရိမ်ခြင်းမှာ အခြားကြောင့်မဟုတ်။ ကျီချန် ၏အိမ်သည် လေးဆယ့်ကိုးရက် လုံးလုံး အသုဘ ရှုနေရသည့် အိမ်ဖြစ် ၏။ နတ်ငှက်မယ်သည် အသုဘကိစ္စများကို ဘာမျှ နားလည်သည် မဟုတ်၊ လုပ်မှားကိုင်မှား ရှိလျှင် ပြောစရာဖြစ်မည်ကို စိုးရိမ်သည်။ ထို့ကြောင့် ဒေါ်လေးဝမ် စိတ်မချခြင်း ဖြစ်၏။ ယခု ကျီချန်က အတင်း အကျပ် မေတ္တာ ရပ်ခံနေသည့် အခါ၌ ဒေါ်လေးဝမ်သည် စိတ်ညွတ် သွားကာ နတ်ငှက်မယ်ကို လှမ်းကြည့်လျက် ရှိ၏။

နတ်ငှက်မယ်သည် အိမ်ထောင်မှု ကိစ္စများတွင် အအုပ်အချုပ် ကောင်းခြင်းကို အလွန် ဂုဏ်ယူသူ ဖြစ်၏။ နတ်ငှက်မယ်သည် ဒေါ် လေးဝမ်၏ ယွန်းစံအိမ်ကြီး တစ်ခုလုံးကို နိုင်နင်းစွာ အုပ်ချုပ်နိုင်ခဲ့ သည့်တိုင် မင်္ဂလာဆောင်ကိစ္စ၊ အသုဘကိစ္စ စသည့်ကိစ္စကြီးများကိုစီမံ ကွပ်ကဲရန် တစ်ခါမျှ အခွင့်မကြုံခဲ့ဖူးသေးချေ။ သို့ဖြင့် သူ့ အရည်အချင်း ကို ပြလိုလျက် ရှိသည့်အလျောက် ထိုအခွင့်အရေးမျိုးကို စောင့်မျှော် နေခဲ့သည်မှာ ကြာခဲ့လေပြီ။ ယခု ကျီချန်က မေတ္တာရပ်ခံသည့် အခါ တွင် နတ်ငှက်မယ်သည် ကျိတ်၍ ဝမ်းသာလျက်ရှိ၏။ ဒေါ်လေးဝမ် သည် ခပ်စောစောက ဆုတ်ဆိုင်းဆိုင်း ဖြစ်လျက်ရှိသည့်တိုင် ကျီချန်က အတင်းအကျပ် တောင်းပန်နေသည့်အခါတွင် စိတ် ယိုင်သွားသည်ကို မြင်သည်၌

"အစ်ကိုကြီး ကျီချန်ကို ကြည့်ရတာ တော်တော် အခက်အခဲ ရှိနေတဲ့ ပုံစံ ဒေါ်လေးဝမ်၊ ဒီတော့ ဒေါ်လေးသဘောတူတယ်ဆိုယင် လုပ်ပေးနိုင်ပါတယ်"

"ညည်း နိုင်ပါ့မလား" ဟု ဒေါ်လေးဝမ်က ခပ်တိုးတိုး မေး၏။

"မနိုင်စရာ မရှိပါဘူး ဒေါ်လေးရယ်။ အစ်ကိုကြီး ကျီချန်ရဲ့ အပြင်က ကိစ္စတွေလုပ်ပေါ့။ ငှက်မယ်က အိမ်တွင်း ကိစ္စလောက် စီမံရမှာပဲဟာ။ အခက်အခဲရှိယင်လဲ ဒေါ်လေးကို တိုင်ပင်ပြီး လုပ်ရမှာပေါ့"

ဤတွင် ဒေါ်လေးဝမ်လည်း မပြောသာတော့ဘဲ သဘောတူ လိုက်၏။ ကျီချန်က

"အစ်ကိုကြီးလဲ နေရာတကာကို လိုက်မကြည့်နိုင်ဘူးကွယ်။ ဒီတော့ အစ်ကိုကြီးကို ကူညီပါ။ ခုလဲ ကျေးဇူးတင်ပါတယ်။ နောင် ကိစ္စဝိစ္စ အားလုံးပြီးယင်လဲ ကျေးဇူးဆပ်ပါဦးမယ်"

ကျီချန်သည် ဦးညွှတ်နှုတ်ဆက်ပြီးနောက် အင်္ကျီလက်ထဲတွင် လိပ် လာသည့် နန်းစံအိမ်ကြီး၏ ပစ္စည်း အထုတ်အသွင်း စာရင်းကို ထုတ်ယူ ပြီးနောက် နတ်ငှက်မယ်ကို ပေးရန် ပေါက်ယုကို လှမ်းပေးလိုက်လေ၏။

"ငှက်မယ် သဘောကျ စီမံအုပ်ချုပ်နိုင်ပါတယ်။ ဒီစာရင်းထဲမှာ ပါတာတွေကို ငှက်မယ်ကြိုက်သလို သုံးပါ၊ အစ်ကိုကြီးကို တိုင်ပင်စရာ မလိုပါဘူး။ အဲ အစ်ကိုကြီး တောင်းပန်ချင်တာ နှစ်ချက်ပဲရှိတယ်။ တစ်ချက်က အသုဘ ကိစ္စတစ်ခုလုံး ပြီးမြောက်သည်အထိ ကျကျနန ခမ်းခမ်း နားနား၊ လှလှပပ ဖြစ်စေချင်တယ်။ ဒီလိုဖြစ်ဖို့အတွက် ကြိုက် သလို သုံးပါ။ မချွေတာပါနဲ့။ နောက်တစ်ချက်က ဒီအိမ်က အစေတော် တွေကို ငှက်မယ်တို့ စံအိမ်က အစေတော်တွေလို သဘောထားပြီး ကြိုက် သလို ခိုင်းပါ။ အားမနာပါနဲ့။ သူတို့ငြိုငြင်မှုကို မစိုးရိမ်ပါနဲ့။ ဒီနှစ်ချက်ကိုပဲ အစ်ကိုကြီး ပြောချင်တယ်။ ကျန်တာတွေကတော့ ဘာမှ ပြောစရာ မရှိပါဘူး"

နတ်ငှက်မယ်သည် ပစ္စည်းစာရင်းကို မကိုင်ရဲသေးဘဲ ဒေါ်လေး ဝမ်ကို လှမ်းကြည့်လျက် ရှိလေ၏။





"ကဲ ညည်းအစ်ကိုကြီး စိတ်ချမ်းသာသလို လုပ်ပေးလိုက်ပါ ကွယ်။ ဒါပေမယ့် နေရာတိုင်း ကိုယ့်သဘောနဲ့ကိုယ် လုပ်မနေနဲ့။ ဆုံး ဖြတ်စရာရှိယင် ညည်းအစ်ကိုကြီးနဲ့ ဖြစ်ဖြစ်၊ မမယုနဲ့ ဖြစ်ဖြစ် တိုင်ပင် ပြီးမှလုပ်"

ပေါက်ယုသည် ပစ္စည်းစာရင်းကို ကျီချန်ထံမှ ယူပြီးနောက် နတ်ငှက်မယ်ထံသို့ ထိုးပေး၏။ ကျီချန်က

"ဒီတော့ ငှက်မယ်က အစ်ကိုကြီးတို့ စံအိမ်မှာပဲ လာနေမှလား။ ဒါမှမဟုတ် နေ့တိုင်း ဟိုကနေပြီး လာမလား။ နေ့တိုင်းလာနေရမယ်ဆို ယင်တော့ တကူးတကမို့ အလုပ်ကြီးတစ်ခုလို ဖြစ်နေမှာပဲ။ ဒီတော့ ငှက်မယ်တို့ အခန်းဆောင်တစ်ခု အရှင်းခိုင်းထားလိုက်မယ်လေ။ ဘယ့် နှယ်လဲ။ ဒီလိုဆိုယင် ငှက်မယ်မှာလဲ ကူးရသန်းရတဲ့ ဒုက္ခမရှိတော့ဘူး ပေါ့"

နတ်ငှက်မယ်က ရှင်လန်းစွာဖြင့်

"ကိစ္စ မရှိပါဘူး အစ်ကိုကြီးရဲ့။ ဟိုမှာလဲ ငှက်မယ် မရှိယင် ဖြစ်မှာမဟုတ်ဘူး။ ငှက်မယ် နေ့တိုင်းပဲ လာခဲ့မယ်"

ကျီချန်သည် အတင်း တိုက်တွန်းခြင်း မပြုတော့ဘဲ စကား အနည်းငယ် ပြောဆိုပြီးနောက် ပြန်လာခဲ့၏။

ဧည့်သည်များ ပြန်သွားသည့်အခါ၌ ဒေါ်လေးဝမ်က မည်သို့ စီစဉ်မည်နည်းဟု ငှက်မယ်ကို မေး၏။

"ငှက်မယ်ကို မစောင့်နဲ့တော့လေ ဒေါ်လေး။ ပြန်နှင့်တော့။ အိမ်မပြန်ခင် တချို့ပစ္စည်းတွေကို လိုက်စစ်ကြည့်လိုက်ဦးမယ်"

သို့ဖြင့် ဒေါ်လေးဝမ်နှင့် ဒေါ်လေးဆင့်တို့သည် ရှေ့ဆင့် နောက်ဆင့် အိမ်သို့ ပြန်လာခဲ့ကြလေ၏။ သူတို့ ပြန်သွားသည့် အခါတွင် နတ်ငှက်မယ်သည် ခန်းဆောင်သုံးခုပါသည့် တိုးချဲ့ဆောင်ဘုက်တွင် အနားယူလျက်ရှိရာမှ

"အင်း ပထမအချက်က သူတို့စံအိမ်ကြီးက လူပေါင်းစုံနေတဲ့ စံအိမ်ကြီး။ ပစ္စည်း အပျောက်အရှ တော်တော် များနိုင်တယ်။ ဒုတိယ တစ်ချက်ကအစေတော်တွေကို တာဝန် သတ်သတ် မှတ်မှတ် ပေးထားမှ။

ပေးမထားယင် သူ့တာဝန်လိုလို ကိုယ့်တာဝန်လိုလိုနဲ့ ရှောင်နေကြလိမ့်မယ်။ တတိယ အချက်က စစ်စစ်စိစိ မလုပ်ယင် လူတွေက ဗိုးပေါလဲ့အောလုပ်လွှာကြလိမ့်မယ်။ ဖြုတ်စားလျှပ်စား လုပ်ကြလိမ့်မယ်။ စတုတ္ထအချက်ကအလုပ်အကိုင်ကြီးတွေနဲ့ အသေးအဖွဲ့ အလုပ်ကလေးတွေကို ခွဲထားမှ ဖြစ်မယ်။ ခွဲမထားယင် တချို့ သိပ်ပင်ပန်းပြီး တချို့က သက်သာနေလိမ့်မယ်။ ပဉ္စမအချက် အစေတော်တွေ ကြည့်ရတာကလဲ တစ်ယောက်တစ်ပေါက်နဲ့။ ဘယ်သူ့ဩဇာကိုမှ သိပ်နာခံချင်ပုံမရဘူး။ ဒီတော့ တချို့က ငါ့ဩဇာကို နာခံချင် နာခံကြပေမယ့် တချို့ကတော့ ငါ့ကို နာခံကြမယ် မဟုတ်ပေဘူး”

ဤအချက်များမှာ နိန်စံအိမ်ကြီးတွင် ပေါပေါက်နေသည့် လက္ခဏာချက်များ ဖြစ်ပေ၏။ ထိုအိမ်ကြီးတွင် နတ်ငှက်မယ် မည်သို့ စီမံအုပ်ချုပ်သည်ကို သိလိုပါမူ နောက်တစ်ခန်းကို ဖတ်ပါလေ။

မှန်ပေ၏။

တိုင်းပြည်ကို နိုင်နင်းစွာ အုပ်ချုပ်နိုင်သူဆို၍ မင်းမှုထမ်း တစ်သောင်းတွင် တစ်ယောက် ရှိခဲ၏။

သို့ရာတွင် အသိအလိမ္မာရှိသော မိန်းမတစ်ယောက်အား အိမ်ထောင်တစ်ခုကို နိုင်နင်းစွာ ထိန်းသိမ်းနိုင်ပေ၏။



အခန်း ၁၄

ယန်ကျိုမြို့တွင် လင်ယုဟိုက်ကွယ်လွန်ခြင်း။

လမ်းတွင် ပေါက်ယုနှင့် ပေ့ကျင်မင်းသားတို့တွေ့ဆုံခြင်း။

မိမိတို့စံအိမ်ကြီးကို နတ်ငှက်မယ် စီမံအုပ်ချုပ်တော့မည်ဟူသောသတင်းကို ကြားရသည့်အခါ၌ နိန်စံအိမ်ကြီးမှ ပစ္စည်းထိန်းမှူး လိုင်ရှန်းသည် လုပ်ဖော်ကိုင်ဖက်များကိုခေါ်က

“ယွန်းစံအိမ်ကြီးက ကျိလျှံရဲ့မိန်းမ နတ်ငှက်မယ် သခင်မလေးဟာ တို့အိမ်ကြီးကို စီမံအုပ်ချုပ်တော့မယ်။ သူခိုင်းယင်၊ သူလိုချင်တာကိုတောင်းယင် ကောင်းကောင်းဂရုစိုက်ကြ။ နေ့တိုင်း မနက်စောစော အိပ်ရာကထပြီး နောက်ကျမှအိပ်ရာဝင်ကြ။ ဒီတစ်လတော့ အလုပ်ကြိုးစားလုပ်လိုက်ဦး။ နောက်လတွေကျမှ အနားယူကြ။ နို့မဟုတ်ယင် တို့တစ်တွေအားလုံး ရှက်စရာဖြစ်နေလိမ့်မယ်။ နတ်ငှက်မယ်သခင်မလေးက အာဏာလဲပြင်းတယ်၊ မျက်နှာထားကလဲ တင်းတယ်၊ စိတ်ဓာတ်ကလဲ မာတယ်။ သူစိတ်ဆိုးယင် ဘယ်သူ့မျက်နှာကိုမှ မထောက်ဘူး။ ရက်ရက်စက်စက် ပြောတတ်တယ်”

သူတို့အားလုံးက ထိုအချက်ကို လက်ခံကြ၏။ တစ်ယောက်ကမူ ရယ်လျက်

"ဟုတ်တယ်ဗျ။ သူရောက်လာမှ ကျုပ်တို့အိမ်ကြီး စည်းကမ်းတကျဖြစ်မှာ။ ခုတော့ သောက်ကျိုးနည်း တစ်အိမ်လုံး ဖြစ်ချင်တိုင်းဖြစ်နေတာ"

ထိုအခိုက်တွင် လိုင်ဝမ်း၏မိန်းမ ရောက်လာကာ ပစ္စည်းစာရင်းနှင့် လိုအပ်သည့်ငွေစာရင်းနှင့်အတူ အသုံးအတွက်သုံးရန် ရောင်စုံပန်းစက္ကူများ၊ ရွှေပြား စက္ကူများကို လာယူလေ၏။ ပစ္စည်းထိန်းမှူးလိုင်ရှန်းမိန်းမကို အထိုင်ခိုင်းကာ လက်ဖက်ရည်များ တည်ခင်းနေစဉ် တစ်ယောက်က လိုအပ်သည့် ပိုက်ဆံငွေစတို့ကို သွား၍ ထုတ်လာကာ အတွင်းဝင်းတံခါးသို့ ခေါ်သွားပြီးလျှင် သူ့ကိုပေးလိုက်လေ၏။

နတ်ငှက်မယ်သည် ဆိုင်မင်းအား စာရင်းတစ်ခု အဖွင့်ခိုင်းပြီးလျှင် အိမ်တွင်ရှိသည့် အိမ်စေအမှုထမ်းများစာရင်းကို ယူလာရန် လိုင်ရှန်း၏မိန်းမကို ခိုင်းလိုက်လေ၏။ ထို့ပြင် ယောက်ျားအစေတော်များ၏ မိန်းမများအားလုံးသည် မနက်ဖြန်မနက်စောစော သူ့ထံအရောက်လာကြရမည်ဖြစ်ကြောင်း၊ ရောက်လာလျှင် မိမိက စီမံ ညွှန်ကြားစရာရှိသည်တို့ကို ပြောဆိုမည်ဖြစ်ကြောင်းဖြင့် မှာလိုက်၏။ နတ်ငှက်မယ်သည် အိမ်စေအမှုထမ်းစာရင်းကို စစ်ဆေးကြည့်ကာ သိလိုသည်တို့ကို လိုင်ရှန်း၏မိန်းမထံတွင် မေးမြန်းပြီးနောက် ရထားဖြင့် အိမ်သို့ ပြန်လာခဲ့၏။

နောက်တစ်နေ့နံနက် ခြောက်ချက်တီးအချိန်၌ စံအိမ်တွင်ရှိသည့် အိမ်စေအမျိုးသမီးများနှင့် ယောက်ျားအစေတော်များ၏ မိန်းမများ အသင့်စုရုံး ရောက်ရှိနေသည်ကိုတွေ့ရ၏။ နတ်ငှက်မယ်နှင့် လိုင်ရှန်း၏ မိန်းမတို့က ဆင်ဝင်ဆောင်ထဲတွင် လုပ်ငန်းတာဝန်များကို ခွဲဝေသတ်မှတ်လျက်ရှိစဉ် အစေတော်များသည် ဆင်ဝင်ဆောင်ထဲသို့မဝင်ရဲကြဘဲ အပြင်တွင်ရပ်နေကြ၏။ သို့ရာတွင် နတ်ငှက်မယ်ပြောဆိုနေသောစကားများကို ပြတင်းပေါက်အနီးမှရပ်၍ နားထောင်နေကြ၏။

"ခု ဒီစံအိမ်ကြီးကို စီမံခန့်ခွဲဖို့ ငှက်မယ်က တာဝန်ယူထားရလေတော့ ငှက်မယ်ဟာ ဒီမှာ သိပ်လူကြိုက်များမှာ မဟုတ်တာ သေချာတယ်။ ငှက်မယ်ကတော့ ရှင်တို့သခင်မလို ရှင်တို့ကြိုက်သလို နေခွင့်ပေး





မှာမဟုတ်ဘူး။ ဒါကြောင့် အယင်တုန်းက ဒီမှာ ဘယ်လို လုပ်ရတယ်လေးဘာလေးနဲ့ ပြောမနေကြနဲ့။ ငှက်မယ် ခိုင်းတဲ့အတိုင်း လုပ်ကြပါ။ အမိန့်ကို နားမထောင်တဲ့လူကိုတော့ ပြင်းပြင်းထန်ထန် အရေးယူရလိမ့်မယ်။ ဘယ်သူ့ကိုမှ မညှာနိုင်ဘူး"

နတ်ငှက်မယ်က ဆိုင်မင်းအား အစေတော်များကို စာရင်းဖြင့် အခေါ်ခိုင်းသည်တွင် အစေတော်များသည် တစ်ယောက်ပြီး တစ်ယောက် အဆောင်ထဲသို့ ဝင်လာကြရ၏။

"ခုဒီမှာ အစေတော်နှစ်ဆယ်ရှိတယ်။ တစ်ဆိုင်းကိုဆယ်ယောက်နဲ့ နှစ်ဆိုင်းခွဲလိုက်မယ်။ တာဝန်ကျတဲ့အဆိုင်းက ရောက်လာတဲ့ ဧည့်သည်တွေကို လက်ဖက်ရည်ချပေးပါ။ အဲဒီအဆိုင်းက တခြား ဘာမှ မလုပ်နဲ့။ ရောက်လာတဲ့ဧည့်သည်ကို လက်ဖက်ရည်ချပေးဖို့ပဲ။ အဲဒီ နှစ်ဆိုင်းက နေ့တိုင်း မိသားစုစားရေးသောက်ရေးနဲ့ လက်ဖက်ရည်တို့ဘာတို့ ချပေးဖို့တာဝန်ယူ။ နောက် အစေတော်လေးဆယ်ကို နှစ်ဆိုင်းခွဲမယ်။ သူတို့နှစ်ဆိုင်းက အမွှေးတိုင်တွေကိုမီးထွန်းပါ။ ဆီမီးခွက်တွေမှာဆီကုန်နေယင် လိုက်ဖြည့်ပါ။ ခန်းဆီးတွေကို လိုက်လဲပါ။ အလောင်းနားမှာစောင့်ပါ။ ဆွမ်းကွမ်းကို တာဝန်ယူပါ။ ပြီးတော့ အသုဘ လာမေးတဲ့လူတွေကို ဧည့်ခံပါ။ ဒါပဲ။ တခြားဘာမှလုပ်စရာ မလိုဘူး။

"ဒီလေးယောက်က စားဖိုခန်းမှာရှိတဲ့ ပန်းကန် ခွက်ယောက်တွေ၊ လက်ဖက်ရည်ကရားတွေကိုသိမ်းပါ။ အပျောက်အရှရှိယင် အစားထိုးပါ။ ဒီလေးယောက်က ညစာထမင်းစား ပန်းကန်တွေနဲ့ ဝိုင်အရက်အိုးတွေကိုကိုင်ပါ။ အပျောက်အရှရှိယင် အစားထည့်ပါ။ ဒီရှစ်ယောက်က အသုဘကို လှူဖွယ်ပစ္စည်း လာထည့်တာတွေကို လက်ခံပါ။

"ဒီရှစ်ယောက်က မီးအိမ်တို့၊ ဆီတို့၊ ဖယောင်းတိုင်တို့၊ လှူဖွယ်ပစ္စည်းတို့ကိုကိုင်ပါ။ ဘယ်နေရာတွေမှာ မီးထွန်းရမယ်ဆိုတာကို လိုက်ကြည့်ပါ။ ထွန်းရမယ့်နေရာတွေကို ငှက်မယ် စာရင်းလုပ်ပေးထားမယ်။ ဒီသုံးဆယ်ကတော့ အလှည့်ကျ ညအိပ်ဖန်စောင့်ပါ။ ဝင်းတံခါးကြီးတွေ သေသေချာချာပိတ်မပိတ် လိုက်ကြည့်ပါ။ မီးကင်းကိစ္စကို ဂရုစိုက်ကြည့်ပါ။ ဝင်းထဲမှာ သန့်ရှင်းရေးလုပ်ပါ။

"ကျန်တဲ့ လူတွေကတော့ ဆိုင်ရာ လုပ်ငန်းခွင်တွေကို ဝင်ကြပါ။ ကိုယ့်တာဝန်ကျတဲ့ နေရာမှာပဲနေပါ။ ဟိုကူးသည်ကူးမလုပ်ပါနဲ့။ သူတို့ အားလုံးက အိမ်ထောင်ပရိဘောဂတွေ၊ ရှေးဟောင်းပစ္စည်းတွေကအစ ထွေးခံတွေ၊ ဖုန်သုတ်တဲ့ကြက်မွေးတွေ၊ ခြေသုတ်ဖုံတွေနဲ့မြက်ပင်ကအစ ဂရုစိုက်ပါ။ တစ်စုံတစ်ခု အပျက်အစီး အပျောက်အရှ ရှိယင် လျော်ရမယ်။

"လိုင်ရှန်းရဲ့မိန်းမကာ နေ့တိုင်း ဒါတွေအားလုံးကိုကြည့်ပြီး ငှက်မယ်ဆီကို သတင်းပို့ရမယ်။ အလုပ်တာဝန် ပေါ့လျော့တာ၊ လောင်းကစားတာ၊ မူးယစ်သောက်စားတာ၊ ရန်ဖြစ်တာတွေယင်ငှက်မယ်ဆီကို ချက်ချင်း သတင်းပို့ရမယ်။ ရှင်တို့ ဒီစံအိမ်ကြီးမှာ အလုပ်လုပ်တာ မျိုးဆက် လေးဆက်ရှိပြီ။ ဒါပေမယ့် အကွပ်အညှပ် လျော့ပေါ့ယင် ရှင့်ကိုပါအရေးယူမယ်။

"ကဲ ရှင်တို့အားလုံး ကိုယ့်တာဝန်ကို သိကြပြီနော်။ တစ်ခုခု ချွတ်ယွင်းယင် တစ်ဆိုင်းလုံး အရေးယူမယ်။ ငှက်မယ်တို့စံအိမ်မှာဆိုယင် အစေတော်တိုင်း နာရီတွေရှိတယ်။ ဘာဖြစ်လို့လဲဆိုတော့ အချိန်ဟာ အဖိုးတန်တယ်။ ကြီးသည် ငယ်သည်မဟူ အားလုံး သူ့အချိန်နဲ့သူ ပြီးစေရမယ်။ ဒီမှာဆိုယင် ရှင်တို့သခင်ကြီးရဲ့ အခန်းထဲမှာ နာရီတွေရှိတယ်။ မနက်ခြောက်ချက်ခွဲယင် ရှင်တို့ကို စာရင်းခေါ်မယ်။ ဆယ်ချက်တီးယင် ထမင်းစားလွှတ်မယ်။ ပစ္စည်းတို့ ဘာတို့ လိုချင်တာရှိယင်၊ တိုင်တန်းချင်တာ ရှိယင် အဲဒီအချိန်မှာ လုပ်ရမယ်။ ဆယ့်တစ်ချက်မခွဲခင်မှာ ဒါတွေကို လုပ်နိုင်တယ်။ ည ခုနစ်ချက်ခွဲလို့ မီးပူဇော်ပြီးယင် ငှက်မယ်လိုက်စစ်မယ်။ ပြီးတော့ ည အိပ်ဖန်စောင့်တွေအတွက် သော့တွေထုတ်ပေးမယ်။ နောက်တစ်နေ့မနက် ခြောက်ချက်ခွဲကျယင် ငှက်မယ်လာခေမယ်။ ဒီတော့ ဒီအတောအတွင်းမှာ အတတ်နိုင်ဆုံး ကြိုးစားလုပ်ကြပါဆိုတာ ငှက်မယ် နောက်ထပ်မပြောပါရစေနဲ့။ ကိစ္စတွေပြီးယင် ရှင်တို့သခင်ကြီးက ထိုက်သင့်တဲ့ ဆုငွေများ ပေးလိမ့်မယ်"





ထို့နောက် နတ်ငှက်မယ်သည် လက်ဖက်ခြောက်၊ ဆီ၊ ဖယောင်းတိုင်၊ ဖုန်သုတ်ကြက်မွေး၊ တံမြက်စည်း စသည်တို့ကို ထုတ်ပေးရန် အမိန့်ပေးလိုက်ပြီးလျှင် စားပွဲခင်း၊ ကုလားထိုင်စွပ်၊ မှိုအုံး၊ ကော်ဇော၊ ထွေးခံ၊ ခွေးခြေနှင့် အခြားလိုအပ်သည့် အသုံးအဆောင်များကိုလည်း ထုတ်ပေးစေ၏။ ဤသို့ထုတ်ပေးရာတွင် အဆိုင်းတာဝန်ခံသည် အားလုံးကို စာရင်းဖြင့် ပေးရ၏။

သို့ဖြင့် အစေတော်အသီးသီးမှာ ကိုယ့်တာဝန်ကို ခွဲဝေပြီးသည့်အလျောက် လွယ်သည့်အလုပ်များကိုသာ ကောက်လုပ်ပြီး ခက်ခဲပင်ပန်းသည့် အလုပ်များကို ရှောင်လွှဲနေခြင်းမျိုးလည်း မရှိတော့ချေ။ ပစ္စည်းများ နေရာအထားအသိုမှားခြင်း၊ စာရင်းအင်းရှုပ်ထွေးခြင်း စသည့်ကိစ္စမျိုးတို့လည်း မရှိနိုင်တော့ချေ။ ယခင်ကဆိုလျှင် လက်ဖက်ရည်ချပေးသည့် အစေတော်ကလည်း ထမင်းပွဲပြင်ရ၊ အသုဘရှု လာသူများကို ကူညီရသည့် အစေတော်ကလည်း ဧည့်သည်သစ်ကို ထွက်ကြိုရ လုပ်နေရသဖြင့် အကွက်မစေ့ဘဲ ဖရိုဖရဲဖြစ်သလောက် ယခုမူ ဧည့်သည်မည်မျှလာစေကာမူ အားလုံးချောမောအဆင်ပြေလျက်ရှိ၏။ ထိုနေ့မှစ၍ စနစ်မကျခြင်း၊ လစ်ဟာခြင်း၊ ခိုးဝှက်ခြင်း စသည်တို့လည်း မရှိတော့။ နတ်ငှက်မယ်သည် မိမိသုံးစွဲလျက် ရှိနေသော အခွင့်အာဏာကို ကျေနပ်လျက် ရှိ၏။

မမယုမှာ မကျန်းမမာဖြစ်လျက်ရှိပြီး ကျိချန်မှာလည်း သောကကြောင့် အစားအသောက်ပျက်လျက်ရှိသဖြင့် နတ်ငှက်မယ်သည် မိမိတို့စံအိမ်မှနေ၍ အမြဲဂါရဝပြုပြီးလျှင် စားကောင်းသောက်ဖွယ်များကို သူတို့နှစ်ယောက်အတွက် သူကိုယ်တိုင် အထူးစီမံချက်ပြုတ်၍ ပို့ခိုင်း၏။ ကျိချန်ကလည်း နတ်ငှက်မယ် နေ့တိုင်းလာသည့်အခါတွင် နေသည့် သုံးဆောင်တွဲ တိုးချဲ့ဆောင်တွင် နတ်ငှက်မယ်အား အကောင်းဆုံး ပြင်ဆင်ကျွေးမွေးရန် အမိန့်ပေးထား၏။

နတ်ငှက်မယ်သည် အလုပ်ပင်ပန်းသည်ကို စိုးရိမ်ကြောက်ရွံ့ခြင်း မရှိချေ။ နေ့တိုင်း မနက်ခြောက်ချက်တီးခွဲဆိုလျှင် အချိန်မှန်ရောက်လာကာ အစေတော်များကို စာရင်းခေါ်ပြီးလျှင် အလုပ်များကို စစ်ဆေး

ကြည့်ရှု၏။ အခြားသခင်မလေးများနှင့်အတူ ညှော်သည်တို့ကို ထွက်၍ ကြိုဆိုညှော်ခံခြင်း မပြုနိုင်ဘဲ သူ့အဆောင်တွင် စာရင်းများနှင့် တကုန်းကုန်း အလုပ်ရှုပ်လျက် ရှိ၏။

အသုဘ သုံးဆယ့်သုံးရက်မြောက် နေ့၌ သံဃာတော်များက သရဏဂုံတင်ကြ၏။ မြေကြီးကို ခွဲ၍ ငရဲကြီးရှစ်ထပ်ကို ဖွင့်ကာ ငရဲမင်းကြီးနှင့်တကွ ငရဲတွင်ကျရောက်သူတို့ကို အမျှအတမ်း ပေးဝေကြ၏။ ပရိတ်ရွတ်၍ မကောင်းသော နတ်တို့ကို မောင်းနှင်ကြ၏။ မြေကြီးအောက်တွင် မြေကြီးကိုထမ်းထားသည့် စိတ္တိဂါဗမင်းအား ဒွေတံတားကို မြှောက်၍ သံလျင်းစသည်တို့ဖြင့် အသုဘရှေ့မှ သွားရန် မေတ္တာရပ်၏။ တာအိုဘုန်းတော်ကြီးများက ရတနာ သုံးပါးနှင့် စကြဝဠာမန္တတ်မင်းတို့ကို ပူဇော်ကန်တော့၏။ သူတော်များက သုတ္တန်တို့ကို ရွတ်ဖတ်ကာ အမွှေးတိုင်များ ထွန်းညှိကြ၏။ အပါယ်လေးဘုံတွင်ကျရောက်သည့် သတ္တဝါတို့ကို အမျှအတမ်းဝေကာ ခေါ်စာပစ်ကြ၏။ ဇလဒါနသုတ်ကို ရွတ်ဖတ်ကြ၏။ ခြေနင်းနီ၊ ငွေချည်ထိုး ဝတ်ရုံဝတ်သည့် သီလရှင် ဆယ့်သုံးပါးတို့က တလားရှေ့တွင် မန္တန်များကို ရွတ်ဖတ်ကြ၏။ ထိုနေ့က အသုဘအိမ်တွင် ပျားပန်းခပ်မျှ ရှုပ်ထွေးဆူညံလျက်ရှိလေ၏။

ထိုနေ့တွင် ညှော်သည်အများအပြားလာမည်ကို သိသည့်အတွက် နတ်ငှက်မယ်သည် သူ့အား မနက်လေးချက်တီးတွင် နှိုးရန် သူ့အစေတော် ပင်အဲကို မှာထား၏။ အဝတ်စားလဲ၊ နွားနို့ထမနဲကို စားသောက်၍ ပလုတ်ကျင်းပြီးသည့်အခါတွင် ခြောက်ချက်ခွဲရှိလေပြီ။ လိုင်ရှန်း၏ ဇနီးနှင့် အခြားအစေတော်များသည် သူ့ကို စောင့်နေကြလေပြီ။ နတ်ငှက်မယ်သည် အဆောင်မှထွက်လာကာ မိမိ၏ရထားပေါ်သို့ တက်၏။ ရထားရှေ့တွင်မူ တောက်ပပြောင်လက်သည့် ကျွဲချိုမီးအိမ်ကြီးနှစ်လုံး တပ်ဆင်ထားကာ ထိုမီးအိမ်ပေါ်တွင် "ယွန်းစံအိမ်တော်"ဟု စာလုံးကြီးများဖြင့် ရေးထားလေ၏။

နိန်စံအိမ်ကြီးနားသို့ ရောက်လာသည့် အခါတွင်ကား အဝင်တံခါးမကြီး ထိပ်နှင့် ဘေးတစ်ဖက်တစ်ချက်တွင် ထွန်းညှိထားသည့် မီးအိမ်များသည် နေ့ခင်းကဲ့သို့ လင်းထိန်လျက်ရှိကာ အဖြူရောင် အသုဘ





အဝတ်အစားများကို ဝတ်ဆင်၍ တန်းစီရပ်နေသည့် အစေတော်များ ပေါ်သို့ ဖြာလျက်ရှိလေ၏။ စံအိမ်ရှေ့တည့်တည့်သို့ ရထားရပ်လိုက်သည့် အခါ၌ နတ်ငှက်မယ်နှင့်အတူ လိုက်ပါလာကြသော လက်ပါးစေများသည် နောက်သို့ဆုတ်သွားကြကာ အစေတော်များက ရထားမှ ကန့်လန့်ကာများကို ဖယ်ပေးကြ၏။ နတ်ငှက်မယ်အား ဖုန်အဲက တွဲချပေးပြီးလျှင် လက်ဆွဲမီးအိမ်ကိုင်ထားသည့် အသက်ကြီးကြီး အစေတော်ကြီးနှစ်ဦးက နောက်မှ ခြံရံလိုက်ပါလာကြ၏။ နိန်စံအိမ်ရှိ ပစ္စည်းထိန်းမှူးများ၏ ဇနီးများအားလုံးသည် နတ်ငှက်မယ်အား လာရောက်နှုတ်ဆက်ကြ၏။

နတ်ငှက်မယ်သည် ပန်းပေါင်းနံ့သာဥယျာဉ်ကိုဖြတ်၍ ခေမာလေသာခန်းဆောင်သို့ လာခဲ့သည်တွင် တလားကိုမြင်သဖြင့် ပြတ်သွားသော ပုလဲသွယ်တစ်ကုံးမှ ပုလဲလုံးများသဖွယ် မျက်ရည်များသည် ပါးပြင်ပေါ်သို့ စီးကျလာကြ၏။ တလင်းပြင်ထဲတွင် သူငယ်တော်များသည် အမွှေးတိုင်များနှင့် အသုဘပန်းစက္ကူများကို မီးရှို့ရန် အဆင်သင့် စောင့်နေကြလေပြီ။ နတ်ငှက်မယ်က အမိန့်ပေးလိုက်သည့်အခါတွင် သူငယ်တော်များသည် အသုဘပန်းစက္ကူများကို မီးရှို့ပူဇော်ကြပြီးနောက် နတ်တို့အား လက်ဖက်ရည်များ တင်မြှောက်ကြလေ၏။ ငွေမောင်းမှ တစ်ချက်တီးလိုက်သည့်အခါတွင် ပန်တျာသည်တို့က တေးသီချင်းတို့ကို တီးမှုတ်ကြ၏။ ဘုရားဆင်းတုတော်ရှေ့တွင် ကုလားထိုင်ကြီးတစ်လုံး ချထား၏။ နတ်ငှက်မယ်သည် ထိုကုလားထိုင်ကြီးပေါ်တွင် ထိုင်လိုက်ပြီးနောက် ငိုကြွေးခြင်းပြု၏။ သူငိုကြွေးသည့်အခါတွင် အနီးတွင်ရှိသည့် ယောကျ်ား၊ မိန်းမ၊ လူကြီးလူငယ် အားလုံးတို့သည်လည်း နတ်ငှက်မယ်နည်းတူ ငိုကြွေးခြင်းပြုကြလေ၏။ ကျိချန်နှင့် မမယုတို့က သောကကိုချုပ်တည်းရန် လူလွှတ်၍ အပြောခိုင်းသည့် အခါကျမှပင် ငိုကြွေးခြင်းအခမ်းအနား ပြီးဆုံးလေ၏။

ထိုနောက် လိုင်ရှန်း၏မိန်းမသည် ပလုတ်ကျင်းရန် လက်ဖက်ရည်ကို လာပေးလေ၏။ နတ်ငှက်မယ်သည် ထိုအခါကျမှ ထိုင်ရာမှထကာ မိမိစတည်းချရာ သုံးဆောင်တွဲအဆောင်သစ်သို့ လာခဲ့လေ၏။

ညှော်ကြိုတာဝန်ကျသည့် အစေတော်တစ်ယောက်မှ လွဲလျှင် မိန်းမ အစေတော်အားလုံး စာရင်းခေါ်ရာသို့ ရောက်လာကြလေ၏။ ထိုညှော်ကြိုကို အခေါ်ခိုင်းလိုက်သည့်အခါတွင်မှ ထိုညှော်ကြိုတာဝန်ကျ သည့် အစေတော်သည် အကြောက်ကြောက် အလန့်လန့်ဖြင့် ရောက် လာ၏။

နတ်ငှက်မယ်က လှောင်ပြုံးပြုံးလိုက်လျက်

"ဩော် အချိန်မီမလာတာ ရှင်လား။ ငါနဲ့ ဒီပြင်လူတွေနဲ့ မတူဘူး။ ဒါ့ကြောင့်မို့ ငါ နားထောင်ချင်မှ နားထောင်မယ်ဆိုတဲ့ သဘောနဲ့ မလာတာပေါ့ ဟုတ်လား"

"မဟုတ်ပါဘူး သခင်မလေး။ ကျွန်မ နေ့တိုင်း စောစော အရောက်လာပါတယ်။ ဒါပေမယ့် ဒီနေ့တော့ အိပ်ရာက အစောကြီး နိုးနေတာနဲ့ ပြန်အိပ်လိုက်ဦးမယ်ဆိုပြီး ပြန်အိပ်လိုက်မိလို့ပါ။ ဒါ့ကြောင့် နည်းနည်း နောက်ကျသွားတာပါ။ ဒီတစ်ကြိမ်တော့ ချမ်းသာပေးပါ သခင်မလေး"

ထိုစဉ် ယွန်းစံအိမ်ကြီးမှ ဝမ်ဆင့်၏မိန်းမသည် အနားတွင် ရစ်ဝဲရစ်ဝဲလုပ်နေသည်ကို မြင်သဖြင့် နတ်ငှက်မယ်သည် နောက်ကျသည့် အစေတော်မိန်းမကို ပြန်မလွှတ်သေးဘဲထားရင်း အကျိုးအကြောင်းကို လှမ်းမေး၏။

ဝမ်ဆင့်၏မိန်းမသည် သူ့ကိစ္စကို အယင်ပြောလိုသည့်အတွက် ရှေ့သို့ထွက်လာ၍ ရထားများနှင့် ဝေါများတွင်တပ်ဆင်ရန် ပန်းပွား ထိုးဖို့ ပိုးချည်မရှိတော့ကြောင်း ပြော၏။ နတ်ငှက်မယ်၏ ညွှန်ကြား ချက်အရ ဆိုင်မင်းက ဝေါကြီးနှစ်စင်း၊ သံလျင်းလေးစင်းနှင့် ရထား လေးစင်းတို့အတွက် လိုအပ်သည့် ကြိုးအရေအတွက်၊ ပုတီးစေ့ အရေ အတွက်နှင့် ပန်းပွားအရေအတွက်တို့ကို ဖတ်ပြ၏။ လိုအပ်သည့် အရေ အတွက်မှန်ကန်ကြောင်း တွေ့ရသည့်အခါတွင် နတ်ငှက်မယ်သည် ထို စာရင်းများကို မှတ်သားထားရန် ဆိုင်မင်းကို ပြောပြီးနောက် ယွန်း စံအိမ်ကြီးမှ တာလီပြားများကို ထုတ်ပေးလိုက်၏။





စောစောကကိစ္စကို ပြန်မကောက်ရသေးမီမှာပင် စာရင်းကိုင် လေးယောက်တို့ ရောက်လာကြပြန်ကာ စားနပ်ရိက္ခာများအတွက် ဝယ် ရမည့်စာရင်းကို လာတောင်းကြပြန်၏။ ထိုစာရင်းကို ဖတ်ပြရန်ပြော သဖြင့် ဖတ်ပြသည့်အခါ၌ နတ်ငှက်မယ်က ပစ္စည်းလေးမျိုးအနက် နှစ်မျိုးကို ထောက်ပြကာ

"ဒီစာရင်းတွေက မှားနေတယ်။ ပြန်ပြင်ချည်ဦး။ မှန်မှလာပြ လှည့်"

စာရင်းမှားကိုလာပြမိသည့် စာရင်းကိုင်နှစ်ယောက်သည် ကုပ်ချ ထွက်သွားကြလေ၏။

ထိုစဉ် ချန်ဆိုင်၏မိန်းမကို လှမ်းမြင်လိုက်သဖြင့် ကိစ္စကို မေးရ ပြန်၏။ ချန်ဆိုင်၏မိန်းမသည် ပြေစာရွက်တစ်ရွက်ကိုပြကာ

"ဇာ ရထားတွေနဲ့ သံလျင်းတွေအတွက် ကတ္တီပါဖုံတွေ ပြီး ပါပြီ။ ခု အပ်ချုပ်သည့်ကို ပေးဖို့ ငွေလာထုတ်တာပ"

နတ်ငှက်မယ်သည် ထိုငွေကိုလည်း စာရင်းသွင်းထားရန် ဆိုင် မင်းကို ပြော၏။ ဝမ်ဆင့်၏မိန်းမက တာလီပြားကို ပြန်ပေးပြီး စာရင်း ကိုင်ထံမှ ငွေရကြောင်း ပြေစာကို ပေးနေစဉ် ချန်ဆိုင်၏ မိန်းမသည် ငွေများကို သွားယူ၏။ ပေါက်ယု၏ အပြင်ဘက်စာကြည့်ဆောင်နံရံတွင် ကပ်ရန်အတွက် နံရံကပ်စက္ကူဖိုး တောင်းသည့်စာရင်းရောက်လာပြန် သဖြင့် ထိုစာရင်းကိုလည်း စာအုပ်ထဲတွင် ရေးမှတ်သွင်းရပြန်လေ၏။ ကျင်ဆိုး၏မိန်းမသည် တာလီပြားကို ယူနေစဉ် အခြားတစ်ယောက်က ငွေသွားယူရပြန်လေ၏။

ထိုနောက်မှ ခပ်စောစောက အလုပ်ဆင်းနောက်ကျသည့်ကိစ္စကို ပြန်ကိုင်ရ၏။

"ဒီနေ့ ရှင်က နောက်ကျတယ်၊ မနက်ဖြန်ကျယင် ငှက်မယ်က နောက်ကျတယ်ဆိုယင် နောက်ဘယ်သူမှ ရှိတော့မှာ မဟုတ်ဘူး။ ရှင့်ကို ငှက်မယ် ခွင့်တော့လွှတ်ချင်ပါတယ်။ ဒါပေမယ့် ဒါဟာ ပထမ

ဆုံး အမှုဆိုတော့ ဒီအမှုကိုလွှတ်လိုက်ယင် နောက်မှာ စည်းကမ်းကို ကိုင်လို့မရဘဲ ဖြစ်နေလိမ့်မယ်။ ဒီတော့ ရှင့်ကို နမူနာအနေနဲ့ အရေးယူရ လိမ့်မယ်''

နတ်ငှက်မယ်သည် တင်းမာသော မျက်နှာထားဖြင့် ထိုမိန်းမကို အပြင်သို့ထုတ်စေ၍ ကြိမ်ဒဏ်အချက်နှစ်ဆယ်ပေးရန် ခိုင်း၏။ ထိုနောက် နတ်ငှက်မယ်သည် နိန့်စံအိမ်ကြီးမှ တာလီပြားကိုချကာသူ့ကို တစ်လစာ လုပ်ခဖြတ်တောက်ရန် အမိန့်ပေး၏။

ထိုသတင်းကို အခြားသူများကြားကာ နတ်ငှက်မယ်၏ တင်းမာသော မျက်နှာကို မြင်သည့်အခါ၌ အမိန့်ကို ပေါ့တီးပေါ့ဆမလုပ်ရဲကြဘဲ ကျိုးနွံလျက် ရှိကြလေ၏။ အချို့သည် ကြိမ်ရိုက်ခံရသည့် ထိုအစေတော်ကို လျင်မြန်စွာ ဆွဲထုတ်သွားကြ၏။ အချို့က လိုင်ရှန်းအား အမိန့်ကိုသွား၍ အကြောင်းကြားကြ၏။ ကြိမ်ရိုက်ခံရသည့် အစေတော် မိန်းမသည် နတ်ငှက်မယ်ရှေ့သို့လာကာ ဒူးထောက် တောင်းပန်လေ၏။

''မနက်ဖြန် နောက်ကျတဲ့လူကို ကြိမ် အချက်လေးဆယ် ဒဏ် ပေးမယ်။ နောက်တစ်နေ့ နောက်ကျတဲ့လူကို အချက်ခြောက်ဆယ်ပေး မယ်။ ကြိမ်ဒဏ်အရိုက်ခံချင်ယင် နောက်ကျမှ လာခဲ့ကြပေါ့''ဟု ဆို ကာ အစေတော်များကို ပြန်လွှတ်လိုက်၏။

အပြင်ဘက်တွင် နားထောင်နေကြသူများသည် မိမိတို့ လုပ်ငန်း ခွင်အသီးသီးသို့ သွားကြလေ၏။ ထိုနောက် စံအိမ်နှစ်အိမ်စလုံးမှ အိမ်တွင်း အစေတော်များသည် ပစ္စည်းစာရင်းကို လာတောင်းလျက် ရှိကြ လေ၏။ အရိုက်ခံရသည့် အစေတော် မိန်းမသည်လည်း ရှက်ရှက်ဖြင့် ထွက်သွားလေ၏။ နတ်ငှက်မယ်၏ ပြင်းထန်စွာ အရေးယူပုံကို မြင်ရ သည့်အခါတွင် နိန့်စံအိမ်မှ အစေတော်များသည် အလုပ်ကို ကြိုးစား လုပ်ကာ တာဝန်ကိုလည်း ပျက်ကွက်ခြင်း မပြုရဲကြတော့ချေ။ သို့ရာ တွင် ထိုအကြောင်းကို ဤမျှနှင့် တော်လောက်ပြီ။





ပေါက်ယုအကြောင်းကို ပြန်ကောက်ကြဦးစို့။ ထိုနေ့မှာ ညှို့ သည့်အလှန်များသည့်နေ့ ဖြစ်သည့်အတွက် ကျင်ချွန်း အားငယ်မည် စိုးသဖြင့် ပေါက်ယုသည် ကျင်ချွန်းကို သူနှင့်အတူ နတ်ငှက်မယ်ထံသို့ လိုက်ခဲ့ရန် ခေါ်လေ၏။

ကျင်ချွန်းက နတ်ငှက်မယ်မှာ အလွန်အလုပ်များနေမည် ဖြစ် သည့်အတွက် အနှောင့်အယှက်ဖြစ်မည်ကိုစိုးရိမ်ကာ မလိုက်လိုကြောင်း ဖြင့် ငြင်း၏။

''လာပါကွ။ တို့သွားလို့ ဘာမှ အနှောင့်အယှက်မဖြစ်ပါဘူး။ သွားချည်ရအောင်ပါ''

ပေါက်ယုသည် နတ်ငှက်မယ်ထမင်းစားနေသည့် အဆောင်သုံး ဆောင်ရှိ တိုးချဲ့အဆောက်အအုံသို့ ကျင်ချွန်းကို ခေါ်သွား၏။ နတ် ငှက်မယ်သည် သူတို့နှစ်ယောက်ကိုမြင်လျှင် ပြုံးကာ

''ဟင်း တော်တော်လဲ ခြေရှည်ကြနော်။ လာ စားလှည့်ကြဦး''

''ကျွန်တော်တို့ ပြီးခဲ့ပြီ''

''ဘယ်က စားလာကြတာလဲ။ ဒီမှာလား။ အိမ်က စားလာ တာလား''

''အမယ်လေး။ ဒီက လူဖျင်းတွေနဲ့ အတူမစားပါဘူး။ အိမ်မှာ မယ်မယ်နဲ့အတူ စားလာတာပေါ့''

ထမင်းစားသောက်ပြီးလျှင် နိန့်စံအိမ်မှ အစေတော်တစ်ယောက် ရောက်လာကာ အမွှေးတိုင်များနှင့် မီးအိမ်များ ထုတ်ယူခွင့် လာတောင်း ပြန်လေ၏။ နတ်ငှက်မယ်က ပြုံးလိုက်ကာ

''ဒီနေ့ စာရင်းသစ်ဖွင့်ရမယ့်နေ့ဆိုတာ ငှက်မယ်သိတယ်။ ဒါ ကြောင့် မျှော်နေတာ။ တော်တော်နဲ့မပေါ်လာတော့ မေ့နေကြပြီလို့ ထင်နေတာ။ မေ့ယင်တော့ ကိုယ့်အိတ်ထဲက ကိုယ်စိုက်ကြနော်။ ဒီလိုဆို ယင် ငှက်မယ်တို့အဖို့ ငွေကုန်သက်သာတယ်''

''ဟုတ်တယ် သခင်မလေးရဲ့။ စောစောက မေ့နေလို့။ ခုအမှတ် ရရချင်း ပြေးလာတာ''

အစေတော်သည် တာလီပြား‌ကိုထုတ်ယူကာ ပြန်သွားလေ၏။ ခဏကြာလျှင် တာလီပြား ပြန်အပ်ကာ ငွေကို စာရင်းတွင် မှတ်ရ၏။ ကျင်ချန်းက ပြုံးလိုက်လျက်

"မလေးတို့ စံအိမ်နှစ်အိမ်စလုံးမှာ တာလီပြား တစ်မျိုးတည်း သုံးတယ်နော်။ တစ်ယောက်ယောက်က တာလီပြားအတုနဲ့ ပိုက်ဆံလိမ်ထုတ်ပြီး ထွက်ပြေးယင် ဘယ့်နှယ်လုပ်မလဲ"

"မလေးတို့က ဒီလောက်လဲ တရားမဲ့မဖြစ်သေးပါဘူးကွယ့်" ဟု နတ်ငှက်မယ်က ရယ်၍ ပြောလေ၏။

"မလေးဆီကို ကျွန်တော်တို့စံအိမ်ဘက်က အစေတော်တွေ တာလီပြားတို့၊ ပစ္စည်းတို့လာထုတ်တာ မတွေ့ရပါလား"

"သူတို့လာတော့ မောင်လေးက အိပ်ရာကတောင် မနိုးသေးဘူး။ နေစမ်းပါဦး။ မောင်လေးတို့နှစ်ယောက်က ဘယ်တော့မှ ညနေသင်ခန်းစာ စ,သင်ကြမှာလဲ"

"ကျွန်တော်တို့ကတော့ ခုစ,ချင်တာပဲ။ ဒါပေမယ့် သူတို့က သင်ဖို့မှ အဆင်သင့် မဖြစ်သေးတာ။ ဘယ့်နှယ်လုပ်မလဲ"

"မလေးကို တစ်ခုခုကျွေးယင် မြန်မြန်စနိုင်အောင် လုပ်ပေးမယ်လေ"

"ဘယ်လိုလုပ်မှာလဲ။ ဒါက သူတို့ဘာသာသူတို့ လုပ်နိုင်မှ ဖြစ်မယ့်ကိစ္စပဲ"

"စ,သင်ဖို့အတွက် သူတို့မှာ ပစ္စည်း ပစ္စယတွေ လိုတယ်မဟုတ်လား။ ဒီတော့ ငှက်မယ်က တာလီပြား ထုတ်မပေးယင် သူတို့မှာ ပစ္စည်းမရှိတော့ ဘာတတ်နိုင်မှာလဲ"

ပေါက်ယုက အနားကိုကပ်လာကာ မူနွဲ့သည့် အသံဖြင့်

"မလေးရယ်။ သူတို့ကို ထုတ်စရာရှိယင် မြန်မြန်ထုတ်ရအောင် တာလီပြား မြန်မြန်ပေးလိုက်ပါ"





"ကျွန်ုပ်မမှာ ပင်ပန်းလှပြီရှင့်။ အရိုးတွေ အဆစ်တွေလဲ ကိုက်လှပြီ။ တစ်ယောက်တစ်လက်ခိုင်းနေကြယင် သေလိမ့်မယ် သိရဲ့လား။ ကဲ ပါ သိပ်လဲစိတ်ပူမနေပါနဲ့။ မောင်လေး အဆောင်မှာ စာကြည့်ဆောင်ကိုပြင်ဖို့ သူတို့ကို နံရံကပ်စက္ကူတွေ ဘာတွေ အကုန်ထုတ်ပေးလိုက်ပါပြီ။ သူတို့က သူတို့ရစရာရှိယင် မတိုက်တွန်း ရပါဘူး"

ပေါက်ယုက သူ့စကားကို မယုံသည့်အခါတွင် နတ်ငှက်မယ်သည် ဆိုင်မင်းကိုခေါ်ကာ စာရင်းအင်းများကို ပြခိုင်းလေ၏။ ထိုစဉ်ကျိလျှံနှင့်အတူ စူချောင်သို့လိုက်သွားသည့် အစေတော် ချောအဲ ပြန်ရောက်လာသည်ဟု ပြောသဖြင့် နတ်ငှက်မယ်သည် ချောအဲကို ချက်ချင်းလိုက်လာရန် အခေါ်လွှတ်လိုက်၏။ လက်ပါးစေ ချောအဲသည် ရောက်လာကာ နတ်ငှက်မယ်ကို ဒူးတစ်ဖက်ထောက်၍ အရိုအသေပြုလိုက်ရင်းနေ၏။

"ဘာဖြစ်လို့ ပြန်လာတာလဲ ဟင်" ဟု နတ်ငှက်မယ်က မေးလေ၏။

"သခင်လေး ကျိလျှံက ကျွန်တော့်ကို ပြန်လွှတ်လိုက်ပါတယ် သခင်မလေး။ သခင်မလေး ထိုက်ယုရဲ့ ဖခင် လင်ယုထိုက်ဟာ နဝမမြောက် လဆန်းသုံးရက်နေ့ မနက်ကိုးနာရီမှာ ကွယ်လွန်အနိစ္စရောက်ပါတယ်။ အလောင်းကိုတော့ သခင်လေးကျိလျှံနဲ့ သခင်မလေးထိုက်ယုတို့က ဆူချောင်ကို ယူသွားကြပါပြီ။ သူတို့နှစ်ယောက်စလုံး နှစ်ကုန်လောက် ကျမှ ဒီကိုပြန်ရောက်မယ်လို့ မှာလိုက်ပါတယ်။ ခု သခင်လေးက ဒီသတင်းကို အပို့ခိုင်းလိုက်ပြီး မယ်မယ်ရဲ့ ညွှန်ကြားချက်ကို အတောင်းခိုင်းလိုက်လို့ ကျွန်တော်ပြန်လာတာပါ။ ပြီးတော့ ငှက်မယ်သခင်မလေးနေထိုင်ကောင်းမကောင်းလဲ ကြည့်ခဲ့၊ သားမွေးဝတ်ရုံတွေလဲ ယူခဲ့လို့မှာလိုက်ပါတယ်"

"ဒီသတင်းကို တခြားဒေါ်လေးဝမ်တို့၊ ဒေါ်လေးဆင့်တို့ကိုကော ပြောပြီးပလား"

"ဟုတ်ကဲ့ ပြောပြီးပါပြီ သခင်မလေး" ဟု ဆိုကာ လက်ပါးစေသည် ပြန်ထွက်သွား၏။

နတ်ငှက်မယ်က ပေါက်ယုဘက်သို့လှည့်၍ ပြုံးလိုက်ရင်း
"ကဲ ထိုက်ယုတော့ မောင်လေးတို့ဆီမှာ အကြာကြီးလာနေနိုင်ပြီပေါ့"ဟု ပြောလေ၏။

"ထိုက်ယုခမျာ သနားပါတယ် မလေးရယ်။ ခုတလောမှာတော့ မျက်ရည်နဲ့မျက်ခွက် ဖြစ်နေရှာမှာပဲ"ဟု ပေါက်ယုက ပြောကာ မျက်မှောင်ကို ကုတ်၍ သက်ပြင်းချလျက် ရှိလေ၏။

နတ်ငှက်မယ်သည် သူ့ယောကျ်ားဖြစ်သူ ကျိုလျို၏အကြောင်းကို သိချင်လှပြီဖြစ်သော်လည်း အခြားသူများရှေ့တွင် မေး၍မကောင်းသဖြင့် မမေးလိုက်ရချေ။ ထို့ကြောင့် ထိုသတင်းကိုမေးမြန်းရန်အတွက် စံအိမ်သို့ ပြန်ချင်နေလေပြီ။ သို့ရာတွင် အလုပ်တွေ မပြီးသေးသဖြင့် မပြန်နိုင်သေးချေ။ သို့ဖြင့် နတ်ငှက်မယ်သည် လူရယ်စရာမဖြစ်အောင် သူ့ကိုယ်သူ မနည်းချုပ်တည်းကာ ညနေတိုင်သည်အထိ စောင့်နေရ၏။ ညနေသို့ရောက်သည့်အခါတွင် နတ်ငှက်မယ်သည် ချောအဲကို ဆင့်ခေါ်ကာ ရေးလမ်းပန်းအကြောင်းကို မေးမြန်းခြင်းပြု၏။ ထိုည၌ နတ်ငှက်မယ်သည် အခစေတော်ပင်အဲကို ခေါ်၍ သားမွေးအင်္ကျီများကို ထုပ်ပိုးပြင်ဆင်ကာ အခြား လိုမည်ထင်သည့် ပစ္စည်းများကိုလည်း ထုပ်ပိုးပြင်ဆင်လျက်ရှိ၏။ ထုပ်ပိုးပြီးသည့်အခါတွင် နတ်ငှက်မယ်သည် ချောအဲကိုခေါ်ကာ အထုပ်များကို ပေးပြီးလျှင် ပါးစပ်ကလည်း တဖွဖွမှာလိုက်လေ၏။

"ဒီမှာ ချောအဲ။ ဟိုရောက်ယင် ရှင့်သခင်လေးကို ကောင်းကောင်း ဂရုစိုက်နော်။ သူစိတ်ဆိုးအောင်လဲ မလုပ်နဲ့။ အရက်တွေဘာတွေကိုလဲ သိပ်မသောက်ပေ့စေနဲ့။ သူ့အလိုကိုလိုက်ပြီး မကောင်းတဲ့မိန်းမတွေဘာတွေလဲ ရှာမပေးနဲ့။ မကောင်းတဲ့မိန်းမတွေ ဘာတွေ ရှာပေးလို့ကတော့ ပြန်လာယင် ရှင့်ခြေထောက်ကို ချိုးအပစ်ပဲ"

ကိစ္စဝိစ္စ အားလုံးပြီးသည့် အချိန်၌ကား မိုးသောက်ယံသို့ ရောက်ခဲ့လေပြီ။ မကြာမီမှာပင် အရုဏ်ပြု၍လာခဲ့လေ၏။ နတ်ငှက်မယ်သည် လျှင်မြန်စွာ ကိုယ်လက်သန့်စင်၍ အဝတ်အစား လဲပြီးလျှင် နန်းစံအိမ်ကြီးသို့ လာခဲ့၏။





အသုဘချမည့်ရက်မှာ တဖြည်းဖြည်း နီးလာခဲ့လေပြီ။ ကျိချန်သည် ဘုမ္မိလက္ခဏာဝိဇ္ဇာပညာရှင် တစ်ဦးကို ကိုယ်တိုင်ရထားဖြင့် ပင့်လာခဲ့ကာ သံမသကျောင်းသို့ပင့်၍ သင်္ဂြိုဟ်ရန်အတွက် မြေနေရာကို ရွေးစေ၏။ တလားတွင် အပြောက်အမွမ်းတို့ ဆင်ယင်သည်ကိုလည်း စစ်ဆေးစေ၏။ သရဏဂုံတင်ရန်အတွက် ဆရာတော်ဆေ့ကွမ်း အပါအဝင် ထင်ရှားသော သံဃာတော်များကိုလည်း ပင့်ဖိတ်ထားလေ၏။

ကျောင်းထိုင်ဆရာတော် ဆေ့ကွမ်းက တကာဖြစ်သူ ကျိချန်အား ခဲဖွယ်ဘောဇဉ်များ တည်ခင်းကျွေးမွေးသည့်တိုင် ကျိချန်မစားနိုင်ချေ။ သို့ရာတွင် မြို့ထဲသို့ပြန်ရန် မိုးချုပ်လှပြီဖြစ်သည့်အတွက် ကျိချန်သည် ကျောင်းရှိ အာဂန္တု ခန်းဆောင်တွင် ညအိပ်ပြီးလျှင် မနက်လင်းသည်နှင့်တစ်ပြိုင်နက် အသုဘကိစ္စတို့ကို ဆောင်ရွက်ရန် ပြန်လာခဲ့လေ၏။ ထိုနေ့ညတွင် ကျိချန်သည် သံသေကျောင်းတွင် အလောင်းစင်တင်မည့် လောင်တိုက်ကိုလည်း အပြောက်အမွမ်းတို့ ပြင်ဆင်ရန် အသုဘလာသူများကို တည်ခင်းကျွေးမွေးရန်နှင့် အသုဘ လာသူများအတွက် နေရာထိုင်ခင်းတို့ ချပေးရန်တို့အတွက် လူများကိုလွှတ်ပေးထားလေ၏။

ထိုအတောအတွင်း၌ နတ်ငှက်မယ်မှာလည်း ပြင်ဆင်စရာရှိသည်တို့ကို ပြင်ဆင်ခြင်း၊ ယွန်းစံအိမ်မှ ဒေါ်လေးဝမ် အသုဘပို့ လိုက်သည့်အခါတွင် လိုက်ပါရမည့်အစေတော်များကို ရွေးချယ်ခြင်း၊ ရထားများ သန့်လျှင်းများကို ပြင်ဆင်စေခြင်း၊ အသုဘတွင် မိမိလိုက်ပို့ရန် ပြင်ဆင်ခြင်း စသည်တို့ဖြင့် အလုပ်များလျက် ရှိလေ၏။ ထိုစဉ် သူတို့မိတ်ဆွေမြို့စားကြီး ရှန်ကူ၏ ကြင်ရာတော်မှာလည်း ကွယ်လွန်သွားခဲ့ပြန်သည့်အတွက် ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်တို့အနေဖြင့် အသုဘ လှူဖွယ်ဝတ္ထုများ ပေးပို့ခြင်း၊ အသုဘမေးခြင်း စသည့်ကိစ္စများကို ပြုလုပ်ရဦးမည် ဖြစ်၏။ ထို့ပြင် ယန်မင်းသား၏ မြောက်သားတော် မွေးနေ့အတွက်လည်း လက်ဆောင်ပဏ္ဏာများ ပို့ပေးရဦးမည် ဖြစ်၏။ မြို့စားကလေး ချင်ယူတွင် ပထမဆုံးသားဦးကလေး မွေးသဖြင့် သူတို့ထံသို့လည်း မွေးနေ့လက်ဆောင်များ ပို့ရဦးမည်ဖြစ်၏။ ထို့နောက် နတ်ငှက်မယ်သည် မိမိ၏ မိဘများထံ စာရေးရန် အလည်ရောက်နေသည့် မိမိ

အစ်ကိုကြီးနှင့် အိမ်သူအိမ်သားများ တောင်ဝင်းသို့ ပြန်သည့်အခါ၌ လက်ဆောင်ပစ္စည်းများ ဝယ်ခြမ်းပေးရန် ကိစ္စတို့ကလည်း ရှိနေ၏။ ဤတွင်မက စံအိမ်တွင် ယင်ချန်းကလည်း နေထိုင်မကောင်း ဖြစ်နေသည့်အတွက် သမားတော်များကို နေ့တိုင်းပင့်ဖိတ်ကာ ၎င်းတို့၏ ရောဂါစစ်တမ်းကို ဖတ်ရှုလေ့လာခြင်း၊ ရောဂါအကြောင်းကို ဆွေးနွေးခြင်း၊ ဆေးဝါးများ၊ တိုက်ကျွေးရခြင်းစသည့် ကိစ္စတို့ကလည်း ရှိပေသေး၏။

အသုဘရက် နီးကပ်လာသည်နှင့်အမျှ ကိစ္စတွေသောင်းခြောက်ထောင်တို့ဖြင့် ဝိုင်းဝိုင်းလည်လျက်ရှိကာ အလုပ်များလွန်းရကား နတ်ငှက်မယ်မှာ အနားယူဖို့မဆိုထားနှင့်၊ အစားစားရန်အချိန်ပင် ကောင်းစွာမရချေ။ နတ်ငှက်မယ် နိန်နှစ်အိမ်ကြီးသို့ ထွက်သွားသည့် အခါတွင် ယွန်းစံအိမ်မှ အစေတော်များသည် နောက်မှလိုက်လာကြကာ အမိန့်များကို တောင်းကြလေ၏။ ယွန်းစံအိမ်ကြီးသို့ ပြန်သွားသည့်အခါတွင်လည်း နိန်နှစ်အိမ်ကြီးမှ အစေတော်များသည် နောက်မှလိုက်လာကြကာ နိန်နှစ်အိမ်ကြီးတွင် လုပ်ကိုင်စရာရှိသည်များကို လာ၍ အမိန့်တောင်းခံကြလေ၏။ နတ်ငှက်မယ်သည် အလုပ်များလျက် ရှိသည့်တိုင် စိတ်ဓာတ်အရ ရွှင်လန်းလျက်ရှိ၏။ နတ်ငှက်မယ်သည် မည်သည့် အလုပ်မျိုးကိုမှ ရှောင်ဖယ်ခြင်းမရှိ၊ အဘက်ဘက်မှ ပြောစရာ မရှိရလေအောင် အားကြိုးမာန်တက် အလုပ်လုပ်၏။ သို့ဖြင့် နတ်ငှက်မယ်သည် နေ့ရောညပါ အားကျိုးမာန်တက် အလုပ်လုပ်ကာ ပွဲသာနာအရပ်ရပ်ကို ကျွမ်းကျင်စွာ ကိုင်တွယ်နိုင်ခဲ့သည့်အတွက် နိမ့်သည်မြင့်သည်မဟူ စံအိမ်နှစ်ခုစလုံးရှိသူအားလုံးတာ သူ့ကိုအထင်ကြီးကြလေ၏။

ထိုနောက်၌ ယောင် ကျူး သည့် နေ့ သို့ ရောက်လာလေ၏။ နိန်နှစ်အိမ်ကြီးမှ သစ်ပင်များပိုင်သည့် ပန်းတျာသည်၊ သီချင်းသည်၊ ကချေသည်များ၊ ကျွမ်းသည်များက အမျိုးမျိုးသီဆို ဖျော်ဖြေကြမည်ဖြစ်သည့်အတွက် ဝင်းကြီးတစ်ခုလုံးမှာ ဆွေမျိုးများ၊ မိတ်ဆွေများဖြင့် ပြည့်နှက်လျက်ရှိ၏။ မမယုမှာ ယခုတိုင် အိပ်ရာမှ ကောင်းစွာ မထနိုင်သေးသည့်အတွက် ထိုကိစ္စအဝဝကို နတ်ငှက်မယ် တစ်ယောက်တည်း





သာလျှင် ကြီးကြပ်လုပ်ဆောင်နေရ၏။ စံအိမ်ရှိ အခြားသော လင်ရှိမိန်းမတို့အားလုံးမှာ အချို့ကလည်းစကားနည်း၊ အချို့ကလည်း နန့်တန့်တန့်။ အချို့ကလည်း လူစိမ်း သူစိမ်းဆိုလျှင် ရှက်ကြောက်တတ်၊ အချို့ကလည်း မှူးကြီးမတ်ရာ အထက်တန်းစားဆိုလျှင် စကားမပြောဘဲ ဖြစ်နေကြသည့်အတွက် ကိစ္စဟူသမျှသည် နတ်ငှက်မယ်၏ ခေါင်းပေါ်တွင် ပုံကျလျက်ရှိ၏။ သူတို့ အားလုံးသည် စွဲမက် နှစ်သက်ဖွယ်ကောင်းခြင်းအရာတွင်လည်းကောင်း၊ စကားတတ်သည့်အရာတွင်လည်းကောင်း၊ ကျက်သရေရှိခြင်း အရာတွင်လည်းကောင်း နတ်ငှက်မယ်ကို မည်သူမျှ မယှဉ်နိုင်ကြချေ။ နတ်ငှက်မယ်သည် ကြောက်ရမည့်သူမရှိသည့်အတိုင်း မည်သူ့ထင်မြင်ချက်ကိုမျှ နားထောင်လေ့မရှိဘဲ သူ့စိတ်တိုင်းကျ စီမံခြယ်လှယ်လျက်ရှိလေ၏။

ထိုည၌ နိန်နှစ်အိမ်ကြီးတွင် မီးတွေထိန်ထိန်လင်းကာ လူတွေပျားပန်းခပ်မျှ ဖြစ်နေကြလေ၏။ အသုဘရှုလာကြသည့် မင်းစိုးရာဇာများ၊ ဧည့်သည်များ ဝင်လိုက်ထွက်လိုက် ဖြစ်နေကြသဖြင့် မီးအိမ်များ၊ မီးတုတ် မီးစည်းများသည် ထိန်ထိန်လင်းတောက်ပလျက် ရှိကြလေ၏။

အရုဏ်တက်အချိန်သို့ ရောက်သည့်အခါတွင် အပြာရောင် ဝတ်စုံတို့ကိုဝတ်ထားသည့် အထမ်းသမား ခြောက်ဆယ့်လေးယောက်တို့သည် တလားကို ထမ်းလာကြ၏။ ယပ်မားနှင့် ကြီးမားလှသည့် တံခွန်ကြီးပေါ်တွင်မူ

"စက္ကဝါဠလောကဓာတ်၊ ရဟတ်စကြာ ကျွန်းလေးဖြာကို၊ အာဏာလွှမ်းပတ်သော စကြာဝတေးမန္တက်ကဲ့သို့ တန်ခိုးတေဇော်နှင့် ပြည့်စုံသည့် မင်းတရားကြီး၏နယ်စား ပေးသနားအပ်နှင်းခြင်းခံရသော နိန်နှုတူမြို့စားကြီး၏ အကြီးဆုံးတီတော်၊ ရွှေနန်းတော်ကြီး အတွင်းဆောင်လမ်းမတော်ဆောင် လက်ရွေး ကိုယ်ရံတော် ဗိုလ်တပ်ဖွဲ့ဝင် ကျီဆွဲမျိုးစုနွယ်ဝင် ကျီယုန်သခင်ကလေး၏ ကြင်ရာတော်ဖြစ်သူ ကျင်ကို့သခင်မလေး၏ မသာတော် အခမ်းအနား"

ဟု စာလုံးကြီးများ ရေးထားလေ၏။

အသစ်စက်စက်တွေချည်း ပြုလုပ် ထားသည့် အလောင်းစင်ဘက္ကိုင်၊ ကုပ္ပ္ပီး၊ အလောင်းစင်အုပ်ဗိတာန်၊ ဆောင်ဗိတာန် စသည်တို့မှာ ပြိုးပြက်တောက်ပလျက်ရှိကြလေ၏။ သမီးအပျို၏နေရာတွင် ဝင်၍လုပ်ရသည့် အစေတော်ပေါက်ချူသည် တလားကိုမ၍ သယ်ယူသွားခါနီးတွင် မြေအိုးတစ်လုံးကို ရိုက်ခွဲလိုက်ပြီးနောက် တလားရှေ့မှနေ၍ ငိုယိုလိုက်ပါသွားလေ၏။

အသုဘကို လိုက်ပို့ကြသည့် မှူးမတ်များမှာ ချင်းကူမြို့စားကြီး နူချင်း၏ မြေးတော် ပထမတန်းစား မျိုးရိုးစဉ်နယ်စားနူချီဆုန်၊ လီကူမြို့စားကြီး လူပျောင်၏မြေးတော် ပထမတန်းစား မျိုးရိုးစဉ်နယ်စားလူဖန်၊ ချင်ကူမြို့စားကြီး ချန်ယီ၏မြေးတော် တတိယတန်း မျိုးရိုးစဉ် ဗိုလ်ချုပ်ကြီးချန်ယွိဝင်း၊ ချီကူမြို့စားကြီးမာကော့၏မြေးတော် တတိယတန်းမျိုးစဉ် တတိယတန်း ဗိုလ်ချုပ်ကြီး မာရှန်း၊ ရှူကူ မြို့စားကြီး ဟူရှောင်မင်း၏မြေးတော် မျိုးစဉ် ပထမတန်းနယ်စား ဟူရှောင်ကန်း စသည်တို့ဖြစ်၏။ ရှန်ကူမြို့စားကြီးမှာ ကြင်ရာတော်ကြီးကွယ်လွန်ခဲ့သည့်အတွက် ၎င်း၏မြေးတော် ရှိကွန်ချူမှာ ဥပုသ်ဆောင် ဝင်နေသဖြင့် လာရောက်ပို့သနိုင်ခြင်းမရှိချေ။ ထိုမိသားစုကြီး ခြောက်ခုနှင့် နိန်နှင့်ယွန်းမိသားစု အားလုံးတို့သည် "မြို့စားနွယ်ရှစ်အိမ်ထောင်" ဟုအမည်တွင်ကြလေ၏။

နာနန်းမင်းသားကြီး၏ မြေးတော်၊ ဆီနင်းမင်းသားကြီး၏မြေးတော်၊ ချန်ချင်းမြို့စားကြီးကဲတော် ရှိတင်း၊ ပင်ယွန်း မြို့စားကြီး၏မြေးတော် မျိုးရိုးစဉ် ဒုတိယတန်းအမတ် ကျန်ဇူနင်း၊ တင်ကျန် မြို့စားကြီး၏မြေးတော် မျိုးရိုးစဉ် ဒုတိယတန်းစားအမတ် ရှေမြို့တော်စောင့်တပ် ဗိုလ်မှူး ရှဲကျင့်ဖု၊ ရှန့်ယန်မြို့စားကြီး၏မြေးတော် မျိုးရိုးစဉ် ဒုတိယတန်းစားအမတ် ချိကျိန်ယွိ၊ ကျင်တိန် မြို့စားကြီး၏မြေးတော် မြို့စားမြို့ မြို့စောင့်တပ်မှူး ချူလျံ တို့လည်း လိုက်လံပို့ဆောင်ကြလေ၏။





ထို့အပြင် အသုဘကို ချင်ရှန်းနယ်စား၏ သားတော် ဟန်ချီ၊ စကြဝဠာရ ဗိုလ်ချုပ်ကြီး၏သားတော် ဖုန်ဇူယင်၊ ချန်ယေ့ချွန်၊ ဝေရို့လန်းနှင့် အခြားမရေမတွက်နိုင်သော မှူးမတ်များ၏သားတော်များကလည်း လိုက်ပါပို့ဆောင်ကြလေ၏။

အမျိုးသမီးများ အတွက် ရွှေပြောက်မွမ်း ဝေါကြီး တစ်ကျိပ်ကျော်၊ သန်လျင်း အစင်းသုံးဆယ်ကျော်လေးဆယ်တို့ ပါသေး၏။ ကျိဆွေမျိုးစု၏ရထားများ၊ သန်လျင်းများပေါင်းလျှင် အားလုံးအစင်း တစ်ရာကျော်မျှရှိ၏။ အစေတော်များနှင့် အသုဘရှေ့တွင် လိုက်ပါလာကြသော ကပ္ပဲခုနိုပွဲတို့နှင့်ပေါင်းလိုက်လျှင် အသုဘအခမ်းအနားသည် သုံးမိုင်ကျော် လေးမိုင်နီးပါးမျှ ရှည်လျား၏။

မကြာမီတွင် အသုဘပို့ လူတန်းကြီးသည်လမ်းဘေးရှိ ပိုးရောင်စုံမိုးထားသည့် မဏ္ဍပ်ကနားဖျင်းတစ်ခု အနီးသို့ ရောက်လာ၏။ ထိုမဏ္ဍပ်ထဲတွင် ပန်တျာသည်တို့က တီးမှုတ်လျက်ရှိပြီး ဆွေမျိုးစု အသီးသီးမှ ပို့ထားသည့် လှူဖွယ်ပစ္စည်းများကိုလည်း တွေ့ရ၏။ ပထမဆုံးတွေ့ရသည့် လှူဖွယ်ပစ္စည်းများမှာ တုန်ပင်းမင်းသား၊ နာနန်းမင်းသား၊ ဆီနင်းမင်းသားနှင့် ပေကျင်းမင်းသားတို့၏ အိမ်တော်များမှ ပေးပို့သည့် လှူဖွယ်ပစ္စည်းများ ဖြစ်၏။

ဤမင်းသား ခလေးပါးအနက် မူလ ပေကျင်းမင်းသားကြီးမှာ ဂုဏ်ထူးဘွဲ့မည်ရည် အမြင့်ဆုံး ဖြစ်သည့်အတွက် သူ၏ သားစဉ်မြေးဆက်တို့သည် ထိုဘွဲ့ကို ဆက်လက်ခံယူခွင့် ရကြ၏။ လက်ရှိ ပေကျင်းမင်းသားမှာ ရှိယုန်ဖြစ်ပြီး ချစ်စရာကောင်း၍ ခပ်ရိုးရိုးနေတတ်လျက် ရုပ်ချောသော အသက်နှစ်ဆယ်ပင် မရှိတတ်သေးသည့် မင်းပျိုမင်းလွင်တစ်ဦး ဖြစ်၏။ နိန်ကူမြို့စားကြီး၏ အကြီးဆုံး တီဖြစ်သည့် မြို့စားလေးကျိယုန်ကြင်ရာတော် ကွယ်လွန်အနိစ္စရောက်သည်ဟု ကြားသည့်အခါ၌ မိမိတို့ ဘိုးဘေးစဉ်ဆက် ရင်းနှီးသော မိတ်ဆွေရောင်းရင်းများ ဖြစ်ခဲ့ကြခြင်း၊ ဘိုးဘေးစဉ်ဆက် ဒုက္ခသုခကို အေးအတူပူအမျှ ခံစားခဲ့ကြခြင်း စသည့် အချက်များကြောင့် ပေကျင်းကိုယ်တော်လေးသည် ထုံးတမ်းစဉ်လာ ဂုဏ်အဆင့်အတန်းတို့ကို နောက်တန်းသို့ပို့ကာ လူကိုယ်

တိုင် အသုဘအိမ်သို့ သွားရောက်၍ သတင်းမေးမြန်းခြင်း ပြုခဲ့၏။ ယခုလည်း ပေကျင်းကိုယ်တော်လေးသည် ရေစက်ချ အမျှအတမ်း ဝေရန်အတွက် အသုဘချမည့် လမ်းဘေးတွင် မဏ္ဍပ်ထိုးစေ၏။ ကိုယ်တော်လေးသည် မိမိ၏ အမှုထမ်းများကို နံနက် အရုဏ်တက် အချိန်မှစ၍ မဏ္ဍပ်တွင် အသင့် စောင့်ဆိုင်းစေပြီး မိမိကိုယ်တိုင်လည်း ရွှေနန်းတော်ကြီးသို့ ဝင်၍ စောစောစီးစီး အခစားဝင်ခြင်း ပြု၏။ ညီလာခံပြီးသည်နှင့် ပေကျင်း ကိုယ်တော်လေးသည် အသုဘရှု အဝတ်အစားတို့ကို လဲလှယ်ဝတ်ဆင်ပြီးလျှင် ရှေ့တွင် မင်းညီမင်းသားဆောင်း ထီးဖြူမိုးလျက် မောင်း၊ စည်တော်စုံတီး၍ ရွှေဝေါဖြင့် ထွက်တော်မူလာ၏။ မဏ္ဍပ်ရှေ့သို့ ရောက်၍ ဝေါတော်ကို ရပ်လိုက်သည်တွင် အမှုထမ်းတို့က တစ်ဖက်တစ်ချက်စီ တန်းစီရပ်ကာ အဖြတ်အသန်း၊ အသွားအလာ မရှိစေဘဲ လမ်းကို ပိတ်လိုက်ကြ၏။

ထိုစဉ်တွင် မြောက်ဘက် နိန်စံအိမ်မှ အသုဘ အခမ်းအနား လှုအုပ်သည် မြေပြိုသကဲ့သို့ မဏ္ဍပ်အနီးသို့ ရောက်လာကြ၏။ ရှေ့တော်ပြေးများသည် ပေကျင်းကိုယ်တော်လေး ကြွရောက်လာပြီဖြစ်ကြောင်း ကျီချန်ကို သွားရောက် ပြောကြားသည့်အခါ၌ ကျီရှဲနှင့် ကျီချန်တို့သည် အဆောင်အယောင် အခမ်းအနားဖြင့် သွားရောက်၍ ပေကျင်း ကိုယ်တော်လေးကိုနှုတ်ခွန်းဆက်ကြ၏။ ပေကျင်းကိုယ်တော်လေးသည် ၎င်းတို့နှစ်ဦးအား ဟန်ဆောင်ပန်ဆောင်မရှိဘဲ မိတ်ဆွေရင်းချာများပမာ ဝေါပေါ်မှ ဦးညွတ်နှုတ်ဆက်ခြင်း ပြု၏။

"ကျွန်တော်ရွှေ့မရဲ့ အသုဘမှာ ကိုယ်တော်လေး ကိုယ်တိုင်ကြွရောက်လိုက်ပါ ပို့ဆောင်တဲ့အတွက် ဝမ်းသာလှကြောင်းပါ"

"မြို့စားကြီးကလဲ အချင်းချင်းတွေပဲဗျာ။ ဒါတွေပြောနေဖို့မလိုပါဘူး"ဟု ပေကျင်းကိုယ်တော်လေးက ပြော၏။

ထိုနောက် ပေကျင်းကိုယ်တော်လေးသည် မိမိ၏ ဝင်းမှူးဘက်သို့လှည့်ကာ မိမိကိုယ်စား လှူဖွယ်ပစ္စည်း ဝတ္ထုများကို ဆက်ကပ်ရန်နှင့် ရေစက်သွန်းချရန် အမိန့်ပေး၏။ ကျီရှဲနှင့် အခြားသူများသည် အပါးသို့ တိုးလာကြကာ ကျေးဇူးတင်ကြောင်းကို ပြောဆိုကြလေ၏။





ပေကျင်း ကိုယ်တော်လလေးမှာ များစွာ ဟန်ကြီးပန်ကြီးလုပ်တတ်သူ မဟုတ်ချေ။ ထို့ကြောင့် ကျီချန်ဘက်သို့ လှည့်လိုက်ပြီးလျှင်

"နေစမ်းပါဦး မြို့စားကြီးရဲ့။ မြို့စားကြီးတို့ အမျိုးထဲမှာ ပါးစပ်မှာ ကျောက်စိမ်းတုံးငုံပြီး မွေးလာတယ်ဆိုတဲ့ သူငယ်ဟာ ဘယ်ဟာလဲ။ ကျုပ်ဖြင့် သူ့ကို မြင်ဖူးချင်နေတာ ကြာလှပြီ။ တစ်ခါမှကို မကြုံဖူးသေးဘူး။ ဒီနေ့ အသုဘကိုတော့ သူလာမှာပေါ့။ လာယင် ကျုပ်ရှေ့တော်ကို သွင်းခဲ့ဗျာ"

ကျီချန်သည် ပေါက်ယုကိုရှာရန် ထွက်လာခဲ့၏။ ပေါက်ယုအား အသုဘရှု အဝတ်အစားတို့ကို ချွတ်လဲစေပြီးနောက် ပေကျင်းကိုယ်တော်လေးရှေ့မှောက်သို့ ခေါ်လာခဲ့၏။

ပေကျင်းကိုယ်တော်လေး ပွင့်လင်းရိုးသားပုံ၊ စိတ်သဘောထားဖြောင့်မတ်ပုံ၊ အရည်အချင်းရှိပုံ၊ ရုပ်လက္ခဏာ ချောမောပုံ၊ ယဉ်ကျေးသိမ်မွေ့ပုံ၊ သမားရိုးကျ မဆန်ဘဲ ခေတ်မီပုံတို့ကို လူကြီးများ၊ မိတ်ဆွေများ ပြောသဖြင့် ပေါက်ယု မကြာခဏ ကြားခဲ့ဖူးပြီး ဖြစ်၏။ ပေါက်ယုသည်လည်း ပေကျင်းကိုယ်တော်လေးကို တွေ့ချင်နေသည်မှာ ကြာခဲ့လေပြီ။ သို့ရာတွင် ဖခင် ကျီချန် အကွပ်အညှပ်အားကြီးသဖြင့် တွေ့ခွင့် မရခဲ့ချေ။ ယခု ပေကျင်းကိုယ်တော်လေး ကိုယ်တိုင်က သူ့ကို မြင်ချင်သည်ဟု ဆိုကာ အခေါ်လွှတ်လိုက်သည့်အခါတွင်မူ ပေါက်ယုသည်အကြီးအကျယ်ဝမ်းသာလျက်ရှိလေပြီ။ ရှေ့သို့တိုး၍ခစားလိုက်သည့်အခါ၌ ရွှေဝေါပေါ်တွင် တင့်တယ်စွာထိုင်လျက်ရှိသည့် ပေကျင်းကိုယ်တော်လေး၏ဥပဓိရုပ်ကို ကြည့်၍ ပေါက်ယုသည် တံအံ့တသြဖြစ်လျက် ရှိလေ၏။

နောက်ဆက်တွဲကို သိလိုမူ နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၁၅

နတ်ငှက်မယ်သည် သံသေကျောင်းတိုက်တွင် အာဏာသုံးခြင်း။

ကျင်ချွန်းသည် သိတစန္ဒိမယ်သိလရှင်ကျောင်းတွင် ပျော်မြူးခြင်း။

မော်ဖူးလိုက်သည့် အခါ၌ ပေကျင်းကိုယ်တော်လေးသည် ပန်းဖွားဖြူ ချ ငွေဦးရစ်၊ ရွှေချည်ထိုး လှိုင်းတွန့်ကြီးပေါ်တွင် နဂါးငါးကောင် ကနေသည့်ပုံ ရေးထားသော ဝတ်ရုံဖြူ၊ ကျောက်စိမ်းစီ သားရေခါး စည်းကြိုးနီတို့ကို ဝတ်ဆင်ထားသည်ကို တွေ့ရ၏။ ပေကျင်းကိုယ်တော် လေး၏ မျက်နှာသည် ကျောက်စိမ်းကဲ့သို့ လှပချောမွေ့ပြီး မျက်လုံး များသည် ကြယ်ပွင့်များကဲ့သို့ တောက်လျက်ရှိလေရာ ပြောသည့်အတိုင်း လည်း ချောမောခန့်ညားသည့် ယောကျ်ားပျိုတစ်ယောက် ဖြစ်လေ၏။

ပေါက်ယုသည် စားရန်အတွက် ရှေ့သို့တိုးလာခဲ့၏။ ဝေါ ပေါ်တွင်ရှိသည့် ပေကျင်းကိုယ်တော်လေးက ထရပ်စေသည့်အခါ၌ ပေါက်ယုသည် ပင်လယ်အောက် နဂါးပြည်မှလာသည့် နဂါး နှစ်ကောင်ပုံ ငွေလက်ဖွဲ့ ဆွဲထားပြီးလျှင် မြေဖြူရုပ်ကြီးများ ရွှေချည် ထိုးရက်ထားသည့် လေးသည်တော် အင်္ကျီနှင့် ပုလဲစီ ငွေခါးပတ်ကြိုးကို ဝတ်ဆင်ထားသည်ကို ကိုယ်တော်လေး မြင်ရ၏။ ပေါက်ယု၏ မျက်နှာ



PDF CREATOR - NYEYADHAMMA@GMAIL.COM



သည် နွေဦးတွင်ပွင့်သည့်ပန်းနှင့်တူပြီး မျက်လုံးများကား ယွန်းစေးကဲ့သို့ နက်မှောင်လျက် ရှိလေ၏။

"အင်း ပေါက်ယုဆိုတဲ့ နာမည်နဲ့ လိုက်ပါပေတယ်။ တကယ့်ကို အဖိုးတန်တဲ့ ကျောက်စိမ်းတစ်လုံးနဲ့ တူပေတာပဲ။ နို့ နေစမ်းပါဦး။ မောင် မွေးတုန်းက ပါလာတယ်ဆိုတဲ့ ကျောက်စိမ်းတုံးကကော"

ပေါက်ယုသည်အတွင်းအင်္ကျီအောက်တွင် ဆွဲထားသည့် ကျောက် စိမ်းတုံးကို လျင်မြန်စွာ ထုတ်ယူလိုက်ပြီးနောက် ပေကျင်းကိုယ်တော် ကလေးကို လှမ်းဆက်လိုက်၏။ ပေကျင်းကိုယ်တော်လေးသည် ကျောက် စိမ်းတုံးနှင့်တကွ ထိုကျောက်ပေါ်တွင် ထွင်းထားသည့် စာမွည်းများ ကို သေချာစွာ ဖတ်လျက်ရှိလေ၏။

"မနေ့မသိဒ္ဓ ကျောက်ဆိုတဲ့အတိုင်း တကယ်တော့ စိတ်စေ တိုင်း ပြီးမြောက်ရဲ့လား မောင်ရဲ့"

"သိဒ္ဓ မြောက်တယ်လို့ ပြောကြတာပဲ ကိုယ်တော်လေး။ သို့သော် လဲ စမ်းသပ်တော့ မကြည့်ရသေးကြောင်းပါ" ဟု ကျိချိန်က ဝင်လျှောက် လေ၏။

ပေကျင်းကိုယ်တော်လေးသည် ကျောက်စိမ်းတုံးကိုကြည့်၍ တအံ့ တဩဖြစ်လျက်ရှိကာ ကျောက်ဆွဲထားသည့် ပိုးကြိုးကလေးကို လက် ဖြင့် ပွတ်သပ်ပြီးနောက် ပေါက်ယု၏လည်တွင် ပြန်ဆွဲပေးလိုက်၏။ ထို နောက် ပေါက်ယု၏လက်ကိုဆွဲပြီးလျှင် အသက်နှင့်သင်အံနေသည့် စာ ပေတို့အကြောင်းကို မေးမြန်း၏။

ပေါက်ယုသည် မေးသမျှကို ဖြတ်သားသွက်လက်စွာ ဖြေဆို သည့်အတွက် ပေကျင်းကိုယ်တော်လေးသည် ကျိချိန်ဘက်သို့ လှည့်လိုက် ပြီးလျှင်

"မြို့စားကြီးရဲ့ သားတော်ကတော့ နဂါးပေါက်ကလေးယင်လဲ ဖြစ်ရမယ်။ သို့မဟုတ်ယင်လဲ နတ်ငှက်ပေါက်စလေးယင်လဲ ဖြစ်ရမယ်။ ကြီးလာယင်တော့ ဒီနတ်ငှက်ပေါက်စလေးဟာ လူကြီးတွေထက် သာ မယ့်ပုံပဲဗျ"

ကျိချိန်က ယဉ်ကျေးဖွယ်ရာစွာ ပြုံးလိုက်ရင်း

"ကျွန်တော့်သားဟာ ကိုယ်တော်လေး ဒီလို ချီးမြှောက်တန်တာမျိုးနဲ့ မတန်ကြောင်းပါ၊ ကိုယ်တော်လေးမိန့်တဲ့အတိုင်းသာ မှန်ရင်တော့ ကျွန်တော်တို့ဆွေမျိုး ကံကောင်းပေတာပေါ့ဘုရား"

"အဲ တစ်ချက်တော့ရှိသဗျ။ မြို့စားကြီးရဲ့သားက သိပ်ထူးချွန်တဲ့သား ဖြစ်လေတော့ အဘွားနဲ့ အမေတို့က အလိုလိုက်ကြလိမ့်မယ်။ ကျုပ်တို့လို လူငယ်လူရွယ်များအဖို့ အလွန်အကျွံ အလိုလိုက်ခံရယင် ဘာမှ ကောင်းကျိုးမပေးတော့ဘူးဗျ။ စာပေကျမ်းဂန်များကိုလဲ မလိုက်စားနိုင်တော့ဘူး။ ကျုပ်ကိုယ်တိုင် ဒီလိုဖြစ်ခဲ့ဖူးတဲ့အတွက် သတိပေးရတယ်။ မြို့စားကြီးရဲ့ သားဟာလဲ ဒီအတိုင်း ဖြစ်နိုင်စရာအကြောင်းတွေ ရှိနေတယ်။ အကယ်၍ သူ့အိမ်မှာ စာပေသင်ကြားခြင်း မပြုချင်ဘူးဆိုယင် ရွှေနန်းတော် မြို့ရိုးထဲက ကျုပ်အိမ်ကလေးကိုလာပြီး စာလိုက်နိုင်ပါတယ်။ ကျုပ်ကိုယ်တိုင် ထူးချွန်သူတစ်ယောက် မဟုတ်ပေမယ့် ကျုပ်ဆီကို နိုင်ငံအဝန်းက သုခမိန်တွေ ရွှေမြို့တော်ကို ရောက်လာတယ်ဆိုယင် ကျုပ်စံအိမ်ကလေးကို လာတတ်ကြတယ်ဗျ။ ဒါကြောင့် ကျုပ်စံအိမ်ကလေးမှာ နာမည်ကျော် ပညာရှိသုခမိန်ကြီးတွေ မကြာခဏဆုံတတ်ကြတယ်။ ဒီတော့ ပညာရှိများနဲ့ တွေ့ဆုံဆွေးနွေးခြင်းဟာ အကြားအမြင် တိုးစေတာပေါ့ဗျာ"

ကျီချိန်သည် ဦးညွှတ်၍ ထိုအချက်ကို လက်ခံလိုက်လေ၏။

ပေကျင်းကိုယ်တော်လေးသည် လက်ကောက်ဝတ်တွင် ပတ်လာသည့် စိပ်ပုတီးကိုချွတ်၍ ပေါက်ယုကို လှမ်းပေးလိုက်ရင်း

"မောင်နဲ့ကျုပ်နဲ့ တွေ့ရတာ အစီအစဉ်မရှိဘဲ ရုတ်တရက် တွေ့ရတာ ဖြစ်လေတော့ လက်ဆောင်ပစ္စည်းပေးစရာ ဘာမှ မပါလာဘူးဗျ။ သို့သော်လဲ ဒီစိပ်ပုတီးကလေးကိုတော့ လက်ခံပေတော့။ တစ်ချိန်တုန်းက ဘုန်းတော်ကြီးသော ဘုရားကိုယ်တော်တိုင်က ချီးမြှင့်တော်မူတဲ့ အမွှေးပင်တစ်မျိုးက အမွှေးစေ့တစ်မျိုးနဲ့ ဖွဲ့ထားတဲ့ စိပ်ပုတီးဗျ"

ပေါက်ယုက စိပ်ပုတီးကို လှမ်းယူပြီးနောက် ထိုပုတီးကို ဖခင်မြို့စားကြီးလက်သို့ ကမ်းလိုက်လေ၏။ မြို့စားကြီးနှင့် ပေါက်ယုတို့က ပေကျင်းကိုယ်တော်လေးအား ထုံးစံအတိုင်း ကျေးဇူးတင်စကား ပြော





ကြား၏။ ကျီရှဲနှင့် ကျီချန်သည် ရှေ့သို့တိုးလာကြကာ ပေကျင်းကိုယ်တော်လေးအား စံအိမ်တော်သို့ ပြန်ကြွရန် တောင်းပန်ကြ၏။ သို့ရာတွင် ပေကျင်းကိုယ်တော်လေးက

"သေသူကတော့ ဖုန်အညစ်အကြေးစွန်းတဲ့ ကျုပ်တို့ လောကကြီးက ထွက်သွားပြီး ကျွတ်တန်းဝင်တော့မယ်ဗျ။ ကျုပ်ဟာ ဘုန်းတော်ကြီးသော မင်းတရားကြီးရဲ့ မင်းသားအဆောင်အယောင်ကို ဆက်ခံရသော်လဲ ကျွတ်တန်းဝင်သူတစ်ဦးရဲ့ ရှေ့က သွားလို့ ဘယ်တော်ပါ့မလဲဗျာ"

ပေကျင်းကိုယ်တော်လေးသည် အသုဘအခမ်းအနား မိမိမကျွပ်ရှေ့မှ မဖြတ်မချင်း မပြန်ဟု ခေါင်းမာလျက်ရှိသည့်အတွက် ကျီရှဲနှင့် ဆိုင်ရာလူကြီးများသည် အသုဘအခမ်းအနား မြန်မြန်လွန်မြောက်သွားစေရန်အတွက် ပန်တျာသည်တို့ကို တီးမှုတ်ခြင်းမပြုစေတော့ဘဲ အရပ်ခိုင်းလိုက်၏။ ထိုအခါတွင်မှ ပေကျင်းကိုယ်တော်လေးသည်လည်း ပြန်ကြွသွားလေ၏။ ထိုအကြောင်းကို ဤတွင် ရပ်ကြဦးစို့။

အသုဘအခမ်းအနား ဖြတ်သွားသည့်အခါ၌ လမ်းတစ်လမ်းလုံးမှာ လူတွေပြည့်သိပ်ကျပ်ခဲကာ အုတ်အုတ်ကျက်ကျက်ဖြစ်လျက် ရှိ၏။ မြို့တံခါးဝတွင် ကျီရှဲ၊ ကျီချိန်နှင့် ကျီချန်တို့၏ မိတ်ဆွေများ၊ လုပ်ဖော်ကိုင်ဘက်များကလည်း မဏ္ဍပ်များ၊ ကနားဖျင်းများထိုးကာ လှူဖွယ်ဝတ္ထုများနှင့် လှူဒါန်းနေကြသဖြင့် တစ်ဦးကိုတစ်ဦး အမြန်အလှန် ကျေးဇူးတင်စကား ပြောဆိုကြပြီးနောက်တွင် အသုဘလူတန်းကြီးသည် မြို့ရိုးမှထွက်လာကာ ပေတစ်ရာလမ်းမကြီးအတိုင်း သံသေကျောင်းတိုက်ဘက်သို့ တက်လာခဲ့လေ၏။

မြို့ပြင်သို့ရောက်လျှင် ကျီချန်နှင့် ကျီယုန်တို့က လူကြီးများအား မြင်းများ၊ သန်လျင်းများပေါ်သို့တက်ရန် ပြော၏။ ကျီရှဲနှင့် သက်တူရွယ်တူပုဂ္ဂိုလ်များက သန်လျင်းများပေါ်သို့ တက်လိုက်လာခဲ့ကြပြီး ကျီချိန်နှင့် ရွယ်တူပုဂ္ဂိုလ်များကမူ မြင်းများပေါ်သို့တက်၍ လိုက်လာခဲ့ကြလေ၏။

ပေါက်ယုသည် အိမ်တွင် မည်သူ့စကားကိုမျှ နားထောင်လေ့ရှိသူမဟုတ်ရာ ယခုကဲ့သို့ လွတ်လွတ်လပ်လပ်မြို့ပြင်တွင် မြင်းစီးရလျှင် မြင်းကို လူတောထဲတွင် တရကြမ်းစီးလေမည်လောဟု တွေး၍ နတ်ငှက်မယ် စိုးရိမ်လျက်ရှိ၏။ တစ်စုံတစ်ခုသော ဖြစ်ခဲ့လျှင်မူ မယ်မယ်ရင်ကွဲနာကျ၍ သေဖွယ်ရာသာ ရှိပေတော့သည်။ ထို့ကြောင့် နတ်ငှက်မယ်သည် သူငယ်တော်တစ်ယောက်ကို ခေါ်ကာ ပေါက်ယုအား မိမိရထားဆီသို့ အခေါ်ခိုင်းလိုက်ပြီးနောက် ရောက်လာသည့်အခါတွင် ခပ်ပြုံးပြုံးဖြင့်

"မောင်လေး၊ မောင်လေး ကိုယ့်သိက္ခာကို ကိုယ်ထိန်းနော်။ မောင်လေးသိက္ခာဟာ မိန်းကလေးတစ်ယောက်ရဲ့ သိက္ခာလိုပဲ အရေးကြီးတယ်ဆိုတာ သတိထားပါ။ဟောဟိုမြင်းကျောပေါ်က လူစုံတွေကို သွားပြီး အားကျမနေလေနဲ့။ အကောင်းဆုံးတာတော့ ငှက်မယ်ရဲ့ရထားပေါ် လိုက်လာတာ အကောင်းဆုံးပဲ။ လာ လိုက်မယ်မဟုတ်လား"

ပေါက်ယုသည် ခပ်သုတ်သုတ် မြင်းပေါ်မှဆင်းကာ ရထားဖြင့် လိုက်လာခဲ့၏။ သို့ဖြင့် သူတို့နှစ်ယောက်သည် ရယ်လား မောလား စကားတပြောပြောဖြင့် စီးလိုက်လာခဲ့ကြရာ မြင်းသည်တော်နှစ်ယောက်သည်သူတို့ရထားအနီးသို့ ဒုန်းစိုင်း၍ စီးလာပြီးလျှင် မြင်းပေါ်မှ ဆင်း လိုက်လျက်

"သခင်မလေး။ ကျွန်တော်တို့ရပ်ရမယ့်နေရာ ရောက်နေပြီခင်ဗျ။ တော့ရမ်ပါဦး"

ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့က မည်သို့ပြောလိုက်သနည်းဟု စုံစမ်းမေးမြန်းသည့်အခါတွင် မြင်းသည်တော်နှစ်ယောက်က

"သခင်မကြီးနှစ်ယောက်ကတော့ မရပ်တော့ဘူး ခင်ဗျ။ ဒါပေမယ့် သခင်မလေးတို့ကိုတော့ ရပ်နေပါစေလို့ မှာလိုက်ပါတယ်"

ထို့ကြောင့် နတ်ငှက်မယ်သည် ရထားကိုရပ်ထားရန် အမိန့်ပေးလိုက်၏။ လက်ပါးစေများသည် သူတို့ရထားကို အသုဘ၏ အစုမှ အနားမှ အပြင်သို့ဆွဲထုတ်သွားလေရာ ပေါက်ယုက မိမိ၏ဖဝင်နောက်မှ သန်လျှင်းစီးလိုက်ပါလာသော ကျင်ချွန်းကို သူတို့နှင့်အတူ လိုက်ခဲ့ရန် ခေါ်၏။ ပေါက်ယု၏ သူငယ်တော်က ထိုသို့လာရောက်ခေါ်စဉ် ကျင်





ချွန်းသည် ပေါက်ယုတို့ဘက်သို့ လှမ်းကြည့်လိုက်ရာ နတ် ငှက် မယ် ၏ ရထားနောက်တွင် စီးသူမရှိဘဲ ဆွဲလာသည့် ပေါက်ယု၏ မြင်းကြီးကို မြင်လိုက်သည့်အတွက် ပေါက်ယုသည် နတ်ငှက်မယ်၏ ရထားပေါ်တွင် လိုက်ပါလာလိမ့်မည်ဟု ကျင်ချွန်းတွက်လိုက်၏။ ကျင်ချွန်းသည် ချက်ချင်း ဆင်းလိုက်လာခဲ့ရာ မိလာပြီး သူတို့အားလုံး လယ်တဲကလေးရှိရာ တလင်းထဲသို့ ဝင်လာခဲ့ကြလေ၏။

လယ်တဲကလေးထဲတွင် သူတို့ထက် အယင် ဝင်ရောက်နားခိုသူများနှင့် ပြည့်နှက်လျက်ရှိလေပြီ။ ထိုလယ်တဲကလေးမှ ယောကျ်ားများကို တခြားသို့ နှင်ထုတ်လိုက်ပြီးလေပြီ။ သို့ရာတွင် မိန်းမများ ကျန်နေပေသေး၏။ တဲကလေးမှာ ကျဉ်းမြောင်းလှသည့်အတွက် အခြားသို့လည်း သွားစရာမရှိသဖြင့် တဲထဲမှာပင် နေရလေ၏။

လှပချောမောသော ရုပ်ရည်၊ တောက်ပြောင်သော အဝတ်အစားနှင့် အထက်တန်းကျသည့် အပြုအမူ၊ အနေအထိုင်တို့ဖြင့် သူတို့ တဲထဲသို့ ရောက်လာသော နတ်ငှယ်မယ်၊ ပေါက်ယုနှင့် ကျင်ချွန်းတို့ကို လူအများငေးကြည့်ကာ တအံ့တသြဖြစ်လျက် ရှိကြလေ၏။

သက်ကယ်တဲထဲသို့ ရောက်သည့်အခါတွင် နတ် ငှက် မယ် သည် ပေါက်ယုအား အပြင်တွင် သွား၍ကစားလိုက ကစားရန် လွှတ်လိုက်၏။ ထို့ကြောင့် ပေါက်ယုသည် ကျင်ချွန်းနှင့် အစေတော်သူငယ်များကို ခေါ်ကာ တဲအပြင်ဘက်ကို လျှောက်ကြည့်လေ၏။ ပေါက်ယုသည် လယ်ထွန်ကိရိယာများကို တစ်ခါမျှမမြင်ခဲ့ဖူးချေ။ ထို့ကြောင့် ပေါက်ပြား၊ ဆောက်ဆွ၊ ထွန်၊ ထယ်စသည်တို့ကို အမျိုးအမည်မခွဲခြားတတ်သည့်တိုင် စိတ်ဝင်စားလျက်ရှိ၏။ ထိုပစ္စည်းများအကြောင်းကို သိသည့် သူငယ်တော်တစ်ယောက်က ပြောပြသည့်အခါတွင် ပေါက် ယု သည် ခေါင်းညိတ်ကာ သက်ပြင်းချလိုက်ရင်း

"ဒါကြောင့် 'ငါတို့စားသည့်၊စပါးဆန်ရေ၊ တစ်စေ့ရေတွက်၊ ချွေးတွေထွက်ရ၊ ထိုဘဝကို၊ မည်မျှသူငါ၊ သိကြပါလိမ့်'လို့ ရှေးစာဆိုတွေက စပ်ခဲ့တာကိုး"ဟု ပြောလေ၏။

အပြင်ဘက်တဲကလေးထဲရှိ ခုတင်မီးဖိုကြီးတစ်ခုပေါ်တွင် ရစ်ကို တွေ့သည့်အခါ၌ ပေါက်ယုမှာ ပို၍စိတ်ဝင်စားလျက်ရှိ၏။ ထိုပစ္စည်းမှာ ဗိုဒ်းငင်သည့် ရစ်ဖြစ်ကြောင်း သူငယ်တော်တစ်ယောက်က ပြောပြ၏။ ပေါက်ယုသည် ခုတင်မီးဖိုပေါ်သို့ တက်လိုက်ကာ ရစ်ဘီးကိုလှည့်၍ ဗိုင်းငင်ကြည့်၏။ ထိုစဉ် အသက်ဆယ့်ခုနစ်နှစ် ဆယ့်ရှစ်နှစ်ခန့်ရှိ တောသူမလေးတစ်ယောက် ပြေးလာကာ

"အမယ်လေး မလုပ်ပါနဲ့ရှင်။ ရစ်တော့ကျိုးတော့မှာပဲ"

သူငယ်တော်များက သူငယ်မလေးကို အော်ငေါက်နေကြစဉ် ပေါက်ယုသည် ရစ်ကိုလှည့်၍ ဗိုင်းငင့်လျက်ရှိလေ၏။

"ငါ ဒါမျိုးကို တစ်ခါမှမမြင်ဖူးလို့ပါဟာ။ စမ်းကြည့်တာပါ" ဟု ပြောလေ၏။

"အို တော်တို့လို မြို့တော်သားတွေ ဒါမျိုးကို ဘယ်မှာ မြင်ဖူးပါ့မလဲ။ ဖယ်ပါ။ အကျွန်ုပ်ငင်ပြပါ့မယ်"ဟု ပြော၏။ ကျင်ချွန်းက ပေါက်ယုကို လက်တို့ကာ

"ကောင်မလေးကော၊ ဘယ့်နှယ်လဲ"ဟု မေးလေ၏။ ပေါက်ယုက

"တော်ကွာ။ ဒါမျိုး မပြောနဲ့။ မင်းကို ငါရိုက်မိလိမ့်မယ်"

တောသူမလေးသည် သူတို့ကို ဗိုင်းငင့်ပြလေ၏။ ပေါက်ယုက သူငယ်မလေးကို တစ်စုံတစ်ရာမေးမည် အပြုတွင် အဘွားကြီးတစ်ယောက်က "ဟဲ့ ကောင်မလေး၊ ဒီကိုမြန်မြန်ပြန်လာစမ်း"ဟု လှမ်းခေါ်လိုက်သည့်အတွက် ပေါက်ယုမှာ စကားမပြောလိုက်ရတော့ချေ။

ထိုစဉ် နတ်ငှက်မယ်မှာ လမ်းတွင်တင်လာသည့် ဖုန်များကို ဆေးကြောသန့်စင်ကာ အဝတ်အစားလဲပြီးသဖြင့် သူတို့ကို အစေတော်တစ်ယောက်က လာ၍ခေါ်လေ၏။ နတ်ငှက်မယ်က သူတို့နှစ်ယောက်ကိုလည်း ကိုယ်လက်သန့်စင်ကာ အဝတ်အစား အလဲခိုင်းသည့်တိုင် ပေါက်ယုက ငြင်းလေ၏။ ခဏကြာလျှင် အစေတော်များသည် လက်ဖက်





ရည်နှင့် လမ်းရေးအတွက် ယူလာသည့် စားစရာ ခြင်းတောင်းများကို လာချလေ၏။ အတန်ကြာ နားပြီးနောက် သူတို့သည် ရထားပေါ်သို့ ပြန်တက်ခဲ့ကြ၏။

အပြင်သို့ရောက်သည့်အခါတွင် လိုင်ဝမ်းသည် တဲရှိမိန်းမတစ်သိုက်အား လက်ဆောင်ထုပ် တစ်ထုပ်ကို လာရောက်ပေးသည့်အတွက် မိန်းမများမှာ ဝမ်းသာလျက် ရှိကြလေ၏။ နတ်ငှက်မယ်မှာ သူတို့ကို ဂရုမစိုက်သော်လည်း ပေါက်ယုသည် ဗိုင်းငင့်ပြသည့် တောသူမလေးကို ရှာဖွေကြည့်လျက်ရှိလေ၏။ ထိုသူငယ်မကလေးကိုမူ မတွေ့ရချေ။ သို့ရာတွင် အတန်ကြာလျှင် လမ်းဘေးတွင် မောင်ငယ်ကလေးကိုချီကာ တခြားသူငယ်မကလေးများနှင့် စကားပြော ရယ်မောနေသည့် ဗိုင်းငင့်သည့် သူငယ်မကလေးကို မြင်လိုက်ရသဖြင့် ပေါက်ယုမှာ ရထားပေါ်မှ ဆင်းကာ ထိုသူငယ်မကလေးအနီးသို့ သွားလိုသည့်ဆန္ဒ ပေါ်လျက်ရှိလေ၏။ သို့ရာတွင် မည်သူကမျှ ခွင့်ပြုမည်မဟုတ်သည့်အတွက် ပေါက်ယုသည် ရထားပေါ်မှနေ၍ သူငယ်မကလေးကို မျှော်ကြည့်ရင်း ပါသွားလေ၏။ ခဏကြာလျှင် သူငယ်မလေးကိုလည်း မမြင်ရတော့ချေ။

မကြာမီတွင် သူတို့သည် အသုဘ အခမ်းအနားကို မီ၍လာခဲ့လေ၏။ မိမိတို့ရှေ့တွင် စည်များ၊ မောင်းများ၊ လင်းကွင်းများ၊ ထီးများနှင့် တံခွန်များကို လှမ်းမြင်နေရပြီး သံသေကျောင်းမှ ဘုန်းတော်ကြီးများ စီတန်းနေသည်ကို မြင်ရလေ၏။ ခဏကြာလျှင် ကျောင်းဝင်းထဲသို့ ဝင်လာခဲ့ပြီးနောက် သရဏဂုံတင်၍ အမွေးတိုင်များ ထွန်းညှိပြီးလျှင် တလားကို အတွင်းဆောင်ထဲတွင် မြှင့်ထားလေ၏။ ပေါက်ချူမှာ ထိုနေ့ညတွင် အသုဘစောင့်ရန် တာဝန်ကျလေ၏။

အပြင်ဘက်တန်ဆောင်းထဲတွင်မူ ကျိချန်သည် ဆွေမျိုးများနှင့် မိတ်ဆွေများကို ညှော်ခံကျွေးမွေးလျက်ရှိ၏။ အချို့လည်း နှုတ်ဆက်ပြန်သွားကြ၏။ ကျိချန်သည် အသုဘလိုက်ပို့သူများကို တစ်ယောက်ချင်း ကျေးဇူးတင်စကား လိုက်ပြောလျက်ရှိ၏။ ထို့နောက်တွင်ကား မြို့စား၊ ရွာစား၊ နယ်စားမှအစ ဧည့်သည်များအားလုံး ပြန်သွားကြသည့်အတွက် သုံးချက်တီးအချိန်လောက်တွင် လူသူအတော်ရှင်းသွားလေ၏။

အတွင်းဆောင်တွင်မူ အမျိုးသမီးများကို နတ်ငှက်မယ်က ညှော်ခံလျက်ရှိ၏။ ၎င်းတို့မှာလည်း ကြီးစဉ်ငယ်လိုက် နှုတ်ဆက်၍ ပြန်သွားကြလေရာ သေသူ့အတွက် သုံးရက်တိုင်တိုင် ဆွမ်းသွတ် အမျှအတမ်းဝေသည့် အခမ်းအနားသို့တက်မည့် ဆွေမျိုးရင်းချာများသောက်သာ ကျန်ရစ်ခဲ့လေ၏။

နတ်ငှက်မယ်မှာ မိမိတို့နှင့်အတူ လိုက်ပါနိုင်ခြင်း မရှိသေးသည်ကို သိသည့်အတွက် ဒေါ်လေးဆင့်နှင့် ဒေါ်လေးဝမ်တို့က ပေါက်ယုကို သူတို့နှင့်အတူ မြို့တွင်းသို့ပြန်ရန် ခေါ်လေ၏။ သို့ရာတွင် ပေါက်ယုမှာ မြို့ပြင်သို့ ဤတစ်ကြိမ်သာ ရောက်ဖူးသေးသည့်အလျောက် မပြန်လိုသေးဘဲ နတ်ငှက်မယ်နှင့် အတူနေရစ်ခဲ့ဦးမည်ဟု ပူဆာလျက်ရှိသဖြင့် သခင်မဝမ်သည် ပေါက်ယုကို နတ်ငှက်မယ်လက်ထဲတွင် အပ်ထားခဲ့၏။

သံသေကျောင်းမှာ မြို့စားကြီး နိန်တူနှင့် မြို့စားကြီး ယွန်းကူတို့ ညီအစ်ကို လက်ထက်က တည်ဆောက်လှူဒါန်းခဲ့သည့် ရှေးကျောင်းကြီးဖြစ်လျက် အမွှေးတိုင်များထွန်းညှိရန်၊ မီးအိမ်များထွန်းရန်၊ ဆွေမျိုးစုတို့၏ အလောင်းများ ခေတ္တထားရန် မြေနေရာအကျယ်ကြီး ရှိလေ၏။ ထို့ပြင် အသုဘလိုက်ပို့သူများ တည်းခိုနေထိုင်ရန် ဇရပ်များလည်း ရှိ၏။ သို့ရာတွင် ကျိမိသားစုမှာ ကြီးပွားချမ်းသာလာခဲ့ပြီ ဖြစ်သည့်အလျောက် သူတို့၏အမြင်သည်လည်း ဆင်းရဲသော မိသားစုတို့၏ အမြင်နှင့် မတူဘဲ ကွဲလွဲခဲ့လေ၏။ ဆင်းရဲသည့် မိသားစုတို့မှာ ထိုဇရပ်များတွင် တည်းခိုရန် ဝန်မလေးလှသော်လည်း ချမ်းသာသည့် မိသားစုများကမူ ထိုသို့ အရောရော အနှောနှော မတည်းလိုကြဘဲ အနီးအနားရှိ ရွာများ၊ သို့မဟုတ် သီလရှင်ကျောင်းဇရပ်များသို့ သွားရောက်တည်းခိုလိုသော ဆန္ဒဖြစ်လျက် ရှိကြ၏။

ကျင်ကို့၏ အသုဘတွင် ဆွေမျိုးအများစုမှာ သံသေကျောင်းရှိ ဇရပ်များတွင်ပင် တည်းခိုကြ၏။ နတ်ငှက်မယ်ကမူ ထိုသို့ အရောရော အနှောနှော တည်းခိုခြင်း မပြုလိုသဖြင့် မိမိတို့အတွက် ဇရပ်အချို့ကို ရှင်းလင်းပေးပါရန် အစေတော် တစ်ယောက်ကို ပေါက်စီ သီလရှင်ကျောင်းအုပ်ဆရာတော်ကြီး ကျင်ဆုထံ လွှတ်လိုက်လေ၏။ အမှန်အား





ဖြင့် သီလရှင်ကျောင်းတိုက်၏ နာမည်မှာ သိတစန္ဒီကျောင်းတိုက်ဖြစ်ပြီး ထိုကျောင်းမှ ပေါက်စီ အလုပ်ကောင်းသောကြောင့် လူအများက ပေါက်စီကျောင်းတိုက်ဟု လွယ်လွယ်ခေါ်ကြခြင်း ဖြစ်ပေ၏။ သံသေကျောင်းတိုက်နှင့်လည်း များစွာ မဝေးလှချေ။

သံဃာတော်များက သရဏဂုံတင်ပေး၍ လှူဖွယ်ဝတ္ထုများကို ဆက်ကပ်ပြီးသည့်အခါတွင် နတ်ငှက်မယ်အား အနားယူရန် ကျိယုန်ကို အပြောလွှတ်လိုက်၏။ ဤတွင် နတ်ငှက်မယ်လည်း အမျိုးသမီးညှော်သည်များကိုညှော်ခံရန် အခြားသူများအား လွှဲပေးခဲ့ပြီးနောက် ပေါက်ယုနှင့် ကျင်ချွန်းတို့ကိုခေါ်ကာ သိတစန္ဒီမယ်သီလရှင်ကျောင်းတိုက်သို့ လာခဲ့လေ၏။ ကျင်ချွန်း၏ဖခင်မှာ အသက်အရွယ်ကြီးလှပြီဖြစ်သည့်အလျောက် သရဏဂုံတင်ရန်အထိ မစောင့်နိုင်တော့သည့်အတွက် ကျင်ချွန်းမှာ နတ်ငှက်မယ်၊ ပေါက်ယုတို့နှင့် အတူနေခဲ့ရခြင်းဖြစ်၏။

သိတစန္ဒီမယ်သီလရှင် ကျောင်းတိုက်သို့ ရောက်လျှင် သူတို့ကို တိုက်အုပ်ဆရာကြီး ကျင်ဆုနှင့် သီလရှင်ပျိုနှစ်ပါးဖြစ်သော ကျိရှန်နှင့် ကျိနင်တို့ကဆီးကြို၍ နေရာချပေး၏။ နတ်ငှက်မယ်သည် စကားအနည်းငယ် ပြောဆိုပြီးနောက် ဇရပ်နောက်ပိုင်းရှိ သီးသန့်အခန်းတစ်ခုထဲတွင် အနားယူ၏။ အဝတ်အစားလဲနေစဉ်တွင် နတ်ငှက်မယ်သည် အရပ်ရှည်ကာ ပို၍လှလာသော သီလရှင်ကလေး ကျိနင်ကို သတိပြုမိသဖြင့်

"ဆရာလေး ခုတလောမှာ ဘာဖြစ်လို့ ငှက်မယ်တို့အိမ်ကို ဆွမ်းဆန်ခံ မလာတာလဲ"

"မအားလို့ အစ်မလေး ငှက်မယ်ရေ။ တလောက ဟူတို့အိမ်မှာ သားတစ်ယောက်မွေးတယ်။ အဲဒါ သူတို့အိမ်ကိုကြွပြီး တရားတော်များ ရွတ်ပေးပါဆိုလို့ သုံးရက်တိုင်တိုင် သွားရွတ်နေရတယ်။ ဒါကြောင့် ဆွမ်းဆန်ခံတောင် ထွက်ချိန်မရဘူး"

ထိုအချိန်၌ ပေါက်ယုနှင့်ကျင်ချွန်းတို့သည် ဇရပ်ရှေ့တွင် ဆော့လျက်ရှိ၏။ သီလရှင်လေး ကျိနင်သည် အပြင်သို့ ထွက်လာသည်တွင် ပေါက်ယုက

"အလို ဘယ်သူများပါလိမ့်"

"ဘယ့်နှယ်လဲ ပေါက်ယု"ဟု ကျင်ချွန်းက မေးလေ၏။

"သခင်လေးတို့ မငယ်တော့ဘူးနော်၊ ကြီးလာကြပြီ။ ငယ်ငယ်တုန်းကလို တောင်လုပ်မြောက်လုပ် မလုပ်ကြနဲ့"

"မဆော့ရပါဘူး ဆရာလေးရယ်"

"ကဲ ကျင်ချွန်း စကားများမနေနဲ့။ ဆရာလေးဆီကို လက်ဖက်ရည်လေး ဘာလေး တောင်းကွာ"

"အစ်ကို့ဘာသာ တောင်းပါလားဗျ။ အစ်ကို တောင်းယင် ရမှာပေါ့"

"ငါဆိုယင် လုပ်ပေးမှာ မဟုတ်ဘူးကွ။ ဆရာလေး ငယ်ငယ်တုန်းက မင်းကို သိပ်ချစ်တယ် မဟုတ်လား။ မင်းတောင်းယင် ရမှာပေါ့"

"ဆရာလေးရေ၊ ကျွန်တော်တို့ကို လက်ဖက်ရည်လေး ဘာလေး များ မရဘူးလားဗျာ"

သီလရှင်ဆရာလေး ကျိနင်သည် ငယ်ငယ်ကလေး ကတည်းက ယွန်းစံအိမ်ကြီးထဲတွင် အဝင်အထွက် ရှိခဲ့ဖူး၏။ ယွန်းစံအိမ်ကြီးရှိ လူတိုင်းနှင့်သိပြီး ငယ်ငယ်က ကျင်ချွန်း၊ ပေါက်ယုနှင့် ကစားဖော်ကစားဖက်များ ဖြစ်ခဲ့ကြ၏။ ယခုအချိန်တွင်မူ ဆရာလေး ကျိနင်သည် အရွယ်ရောက်လေပြီ။ စိတ်ကစားစပြုလေပြီ။ ထို့ကြောင့် ကျင်ချွန်းက သူ့ကို ကြည့်၍ သဘောကျသကဲ့သို့ ချောမောခန့်ညားသော ကျင်ချွန်းကိုမြင်သည့်အခါတွင်လည်း စိတ်ထဲတွင် တိမ်းညွတ်လျက်ရှိလေ၏။ ထို့ကြောင့် ကျိနင်သည် လက်ဖက်ရည်တစ်ခွက်ကို ယူပေးလေ၏။

"ပေး ပေး"ဟု ကျင်ချွန်းက လှမ်းယူလိုက်၏။

"ကျွန်တော့်ကိုကော မပေးဘူးလား"

"အမယ်လေး ဆရာလေးလက်က ပျားရည်ထွက်လို့ လက်ဖက်ရည်တစ်ခွက်ကို နှစ်ယောက် လုသောက်နေကြတာလား"ဟု ရယ်၍ မေးလေ၏။





ပေါက်ယုက လက်ဖက်ရည်ခွက်ကိုယူ၍ အတင်းသောက်နေ၏။ ထိုအခိုက် ကျိရှန်ထွက်လာကာ စားပွဲခင်းရန် ကျိနင်ကို လာခေါ်၏။ ဧကကြာလျှင် သူတို့ကို စားသောက်ဖွယ်များဖြင့် တည်ခင်း ကျွေးမွေး၏။ သို့ရာတွင် ပေါက်ယုနှင့် ကျင်ချွန်းသည် လက်ဖက်ရည်နှင့်မုန့်များကို စိတ်မဝင်စားနိုင်ဘဲ ဖြစ်လျက်ရှိ၏။ ဧကထိုင်နေပြီးနောက် လစ်သည်နှင့် ဇရပ်အပြင်သို့ထွက်၍ ဆော့နေကြ၏။

နတ်ငှက်မယ်သည် တိုက်အုပ် သီလရှင်ဆရာကြီး ကျင်ဆု၏အခန်းနှင့်ကပ်လျက် ဇရပ်တစ်ဆောင်ထဲတွင် လှဲလျောင်း အနားယူလျက်ရှိ၏။ အသက်ကြီးသည့် အစေတော်များသည် အလုပ်အားသည်ကိုမြင်သည်နှင့် သူတို့လည်း အသီးသီး အိပ်ရာဝင်ခဲ့ကာ ခပ်ငယ်ငယ် အစေတော်များကိုသာ ထားခဲ့ကြ၏။

လူရှင်းသွားသည့်အခါတွင် တိုက်အုပ်ဆရာကြီးက

"ငှက်မယ် သခင်မလေးကို တိုင်ပင်စရာတစ်ခုရှိလို့"

"ဘာများလဲ ဆရာကြီးရဲ့"

"ဆရာကြီး သီလရှင်စဝတ်စတုန်းက ချန်ငန်နယ်က ရှန်ဆေး သီလရှင်ကျောင်းမှာ စပြီးဝတ်ခဲ့တာ။ ဒကာကတော့ ချန်လို့ ခေါ်တဲ့ မြေရှင်ကြီးတစ်ဦး ဆိုပါတော့။ သူ့သမီးလေး ကျင်ကျင့်က ဆရာကြီးတို့ကျောင်းကို မကြာမကြာလာပြီး ဥပုသ်သီတင်းစောင့်၊ ဆီမီး လာထွန်းနေကျ။ တစ်နေ့တော့ ချန်ငန်မြို့ဝန်ရဲ့ယောက်ဖ လီဆိုတဲ့သူငယ်က အဲဒီကျင်ကျင်ကို မြင်သွားပြီး သဘောကျရောဆိုပါစို့။ ဒါနဲ့ လိုချင်လှချည်ရဲ့ဆိုပြီး ပွဲဆာတော့ လူကြီးတွေက ချန်တို့ဆီကိုသွားတောင်းတယ်။ ဒါပေမယ့် ကေတာက ကျင်ကျင်က ချန်ငန်မှာ မြို့အုပ်လုပ်သွားတဲ့လူရဲ့ သားနဲ့ စေ့စပ်ပြီးသား ဖြစ်နေတယ်။ ချန်တို့ မိသားစုက စေ့စပ်ကြေခင်းလမ်းထားတာကို ဖျက်သိမ်းချင်တယ်။ ဒါပေမယ့် တစ်ဖက်က ကန့်ကွက်မှာစိုးတော့ မလုပ်ရဲဘူးပေါ့။ ဒါနဲ့ စေ့စပ် ထားပြီးတဲ့ အကြောင်းကို မြို့ဝန်ရဲ့ယောက်ဖ လီတို့ဘက်ကို ပြောလိုက်တယ်။ ဒါပေ

မယ့် လီက ဗီသူငယ်မကလေးကို မရလျှင် မနေနိုင်ပါဘူးဆိုပြီး တန်းတန်းစွဲ ဖြစ်နေတယ်။ ဒီတော့ ဆရာကြီးတို့ ဒကာချန်မှာ ဘာလုပ်ရမှန်း မသိအောင် ဖြစ်နေတော့တာပေါ့။

"ဒီသတင်းကို မြို့အုပ်သားဘက်ကကြားတော့ ဒေါပွပြီး မမေးမမြန်းဘဲနဲ့ ပေါက်လာတော့တာပဲ။ ပေါက်လာပြီး သမီးတစ်ယောက်ကို ဘယ်နှစ်ယောက်များ လင်ပေးစားချင်လို့လဲ ဘာလဲနဲ့ ရန်ထောင်တာပေါ့။ စေ့စပ်ကြောင်းလမ်းတုန်းက ဖွဲ့ထားတဲ့ ပစ္စည်းတွေကိုလဲ ပြန်ယူသွားပြီး ရုံးတက်တရားစွဲထားတယ်။

"ခုတော့ ကလေးမလေးရဲ့ မိဘများမှာ ဒုက္ခရောက်နေတယ်။ ရွှေမြို့တော်ကိုတက်ပြီး အကူအညီပေးနိုင်မယ့် အဆက်အသွယ်ကို လိုက်ရှာနေတယ်။ ဖြစ်နိုင်ယင် ပစ္စည်းတွေကိုလဲ ပြန်လိုချင်တာပေါ့လေ။

"ဆရာကြီးသိသလောက်ပြောရမယ်ဆိုယင် ချုန်ငန်မြို့မှာရှိတဲ့ စစ်ဘုရင်ခံ ယွန်ဟာ ငှက်မယ်သခင်မလေးတို့ မိသားစုနဲ့ တော်တော်လေး ရင်းနှီးပါတယ်။ ဒီတော့ သခင်မလေးတို့ ဒေါ်လေးဝမ်တို့က စစ်ဘုရင်ခံဆီကို ဒီကိစ္စနဲ့ပတ်သက်လို့ မြို့အုပ်ဘက်က အမှုပြန်ရုပ်အောင် လုပ်ပေးပါလို့ စာရေးယင် ဖြစ်နိုင်ပါတယ်။ သခင်မလေးတို့က စာရေးလို့ စစ်ဘုရင်ခံက အမှုကို အရုပ်သိမ်းခိုင်းယင် မြို့အုပ်ကလဲ အမှုကို ပြန်ရုပ်မှာပါ။ ဒီလိုဆိုယင် ဆရာကြီးတို့ ဒကာကြီးချန်မှာလဲ တော်တော်ဒုက္ခငြိမ်းသွားပြီး စိတ်ချမ်းသာရမှာပဲ"

"ဘာမှတော့ခက်ခဲရာအကြောင်း မရှိပါဘူး။ ဒါပေမယ့် ဒေါ်လေးဝမ်က ဒီလိုကိစ္စကို ဝင်ချင်မှာမဟုတ်ဘူးထင်တယ် ဆရာကြီး"

"ဒီလိုဆိုယင် ငှက်မယ်သခင်မလေးကကော"

"ငှက်မယ်အနေနဲ့လဲ ဒါမျိုးကို မဝင်ချင်ဘူး ဆရာကြီး"

သီလရှင်ဆရာကြီး၏ မျက်နှာသည် ညှိုးကျသွား၏။





"အင်း ဆရာကြီးတို့ရဲ့ ဒကာမိသားစုကတော့ ငှက်မယ် သခင်မလေးတို့ဆီကို အကူအညီတောင်းမယ်ဆိုတာ သိပြီးနေကြပြီ။ ဘာမှ လုပ်မပေးဘူးဆိုယင်တော့ ငှက်မယ်တို့က ဒီလိုကိစ္စမျိုးမို့လို့ မဝင်ချင်တာ။ ပိုက်ဆံမလိုချင်လို့ မလုပ်တာလို့ နားလည်မှာ မဟုတ်ဘူး။ မတတ်နိုင်လို့ လုပ်မပေးတာဘဲလို့ ထင်ကြတော့မှာပဲ"

နတ်ငှက်မယ်၏ စိတ်ထဲတွင် ထောင်းခနဲဖြစ်သွားလေ၏။

"ဒီမှာဆရာကြီး။ ငှက်မယ်အကြောင်းကို ဆရာကြီး ကောင်းကောင်းသိပါတယ်။ ငှက်မယ်က ငရဲတို့ဘာတို့ဆိုတာတွေကို သိပ်ယုံတာ မဟုတ်ဘူး။ ငှက်မယ်ကောင်းတယ်ထင်ယင် လုပ်ချင်ရာကို စွတ် လုပ်တာ။ ကောင်းပြီ။ သည်လောက်တောင်ဖြစ်ယင် ငွေစင်ပိသာသုံးဆယ်ယူခဲ့။ ငှက်မယ်လုပ်ပေးမယ်"

"ဒီလိုဆိုယင် ကောင်းပါလေ့တော်"

"တစ်ခုတော့ ပြောထားလိုက်မယ်။ ငှက်မယ်ဟာ အခကြေးငွေယူပြီး အောင်သွယ်လုပ်စားတဲ့ မိန်းမစား မဟုတ်ဘူး။ ခုငွေစင်ပိသာသုံးဆယ်ဆိုတာ အစေတော်တွေ၊ လက်ပါးစေတွေလွှတ်ရမယ့် ကုန်ကျစရိတ်အတွက် တောင်းတာ။ သူတို့ကို ဆုငွေတို့ဘာတို့ ပေးရမယ်။ ငှက်မယ်အနေနဲ့ကတော့ တစ်ပြားတစ်ချပ်မှ မယူဘူး။ ငွေစင်ပိသာသုံးဆယ်ဆိုတာ ငှက်မယ်အဖို့ ဘာမှမဖြစ်လောက်ဘူး"

"ဟုတ်ပါတယ်လေ။ ငှက်မယ်သခင်မလေးတို့အဖို့တော့ ဒါဟာ ဘာမှမပြောပလောက်ပါဘူး။ ဒါပေမယ့် ဆရာကြီးတို့ ဒကာအတွက်တော့ ဒါဟာ သိပ်အရေးကြီးပါတယ်။ ဒီတော့ မနက်ဖြန်မှာ ဒီကိစ္စကလေးကို လုပ်ပေးပါ ငှက်မယ်ရယ်။ ဆရာကြီး တောင်းပန်ပါတယ်"

"ငှက်မယ် ဘယ်လောက်အလုပ်များနေတယ်ဆိုတာ ဆရာကြီးလဲ သိသားပဲ။ လက်နှစ်ဖက်စလုံး အားရတယ်လို့တောင် မရှိဘူး။ ဒါပေမယ့် ငှက်မယ်ပြောပြီးသားဖြစ်လေတော့ လုပ်ပေးမယ်။ ဆရာကြီးရဲ့မျက်နှာကိုထောက်ပြီး အမြန်ဆုံးလုပ်ပေးမယ်"

'ဒီပြင်လူဆိုယင် ဒီလို ကိစ္စကလေးလောက် လုပ်ရတာကိုဆဲပြီး တော်တော်ခက်ခဲလှပါပြီ။ ဒါပေမယ့် ငှက်မယ်ကတော့ ဒီထက်ကြီးကျယ်တဲ့ ကိစ္စကြီးတွေတောင် လုပ်နေတာဆိုတော့ ဒီလောက်ကို အပန်းကြီးမှာ မဟုတ်ပါဘူး။ 'လူစွမ်းလူစရှိလေ အလုပ်ပိလေ' ဆိုတဲ့ စကားပုံလိုပေါ့။ ငှက်မယ်မှာ အစွမ်းအစရှိလို့ သခင်မကြီးဝမ်ကာ ငှက်မယ်ကို အကုန်မျက်နှာလွှဲထားတာပဲ မဟုတ်လား။ လုပ်လဲလုပ်၊ သိပ်တော့လဲ အပင်ပန်းမခံနဲ့ပေါ့ ငှက်မယ်ရယ်''

မြောက်ပင့်ချီးမွမ်းသံကို ကြားရသည့်အခါ နတ်ငှက်မယ်မှာ ပင်ပန်းသမျှတွေအားလုံးကို မေ့ပျောက်သွား၏။

ထိုအတောအတွင်း၌ကား ကျင်ချွန်းသည် အမှောင်ကို အခွင့်ကောင်းယူကာ ယခုလိုအချိန်မျိုးတွင် ဆရာကြီးတူမကျိနင် အလုပ်အားလောက်ပြီဟုယူဆကာ ကျိနင်ရှိရာသို့ လာခဲ့လေ၏။ နောက်ဖေးအခန်းတစ်ခုထဲတွင် တစ်ယောက်တည်း လက်ဖက်ရည်ပန်းကန်များကို ဆေးကြောနေသည့် ကျိနင်ကို တွေ့သည်တွင် နောက်မှနေ၍ တအားသိမ်းကျုံးဖက်ပြီး နမ်းလိုက်၏။

''ဟင် ကျင်ချွန်း၊ ဒါဘာလုပ်တာလဲ''ဟု ကျိနင်က ခြေထောက်ကိုဆောင့်ကာ လှမ်းတိုင်မည့်ဟန် လုပ်ပြ၏။

''ချစ်လို့ပါ။ ပြန်မချစ်တော့ဘူးဆိုယင် ဟောဒီညမှာတင် သေပစ်လိုက်မှာ သိရဲ့လား''

''နင် ဘာတွေလျှောက်ပြောနေတာလဲ။ မဖြစ်ပါဘူး။ ငယ်ပါသေးတယ်။ ကြီးလာတော့မှ စဉ်းစားပရစေ''

''မခက်ပါဘူး၊ လွယ်ပါတယ်။ ကြိုက်ချင်တယ်ဆိုယင် အလွယ်ကလေးပဲ။ ကြီးလာသည်အထိတော့ မစောင့်ပရစေနဲ့။ နောင်တွေ့မယ့် ရေအိုးကို မျှော်ကိုးပြီး အခုရေငတ်ပြေတာမျိုး မဖြစ်ပရစေနဲ့''

ကျင်ချွန်းသည် မီးခွက်ကို မှုတ်ပစ်လိုက်ပြီးနောက် ကျိနင်ကို ခုတင်မီးဖိုကြီးဆီသို့ ပွေ့ခေါ်သွား၏။ ကျိနင်သည် ရုန်းကန်ရင်း ပါသွားသော်လည်း မအော်ရဲသည့်အတွက် သူ့အလိုကို လိုက်လျောရ၏။





ကျင်ချွန်းသည် ကျိနင်ကို ချစ်တော့မည်ဟု ပြင်လိုက်စဉ် သူတို့အခန်းထဲသို့ လူတစ်ယောက် ဝင်လာသည်ကို တွေ့လိုက်ရ၏။ စကားမပြောသဖြင့် မည်သူမည်ဝါမှန်း ခွဲခြား၍မရချေ။ တခစ်ခစ်နှင့် ရယ်လိုက်သည့် ပေါက်ယု၏အသံကို ကြားလိုက်သည့်အခါတွင် နှစ်ယောက်စလုံး လန့်ဖျပ်သွားကြ၏။

ကျင်ချွန်းက စိတ်ဆိုးမာန်ဆိုးဖြင့်

''အစ်ကို ဘယ်လိုလုပ်တာလဲ''

''ငါပြောတဲ့အတိုင်း လုပ်ယင်လုပ်၊ မလုပ်ယင်တော့ ငါအော်လိုက်မယ်''

ကျိနင်က ရှက်ရှက်ဖြင့် အပြင်သို့ ထွက်ပြေးသွားသည့် အခါ၌ ပေါက်ယုသည် ကျင်ချွန်းကို အပြင်သို့ခေါ်လာခဲ့၏။

''ကဲ လက်ဆုပ်လက်ကိုင်မိနေတာ မင်း ဘာပြင်းချင်သေးသလဲ''

''အစ်ကိုခိုင်းတာ လုပ်ပါ့မယ်ဗျာ။ ဘယ်သူ့ကိုမှတော့ မပြောပါနဲ့''

''တော်ပြီကွာ။ ဒီအကြောင်းကို နောက်မပြောနဲ့တော့။ မင်းနဲ့ ငါနဲ့ နှစ်ယောက်တည်းကျမှ ရှင်းမယ်''

မကြာမီ အိပ်ချိန်သို့ရောက်လာ၏။ နတ်ငှက်မယ်က အတွင်းခန်းတွင်အိပ်ပြီး ပေါက်ယုနှင့် ကျင်ချွန်းတို့က အပြင်ခန်းတွင် အိပ်ကြ၏။ အစေခံများမှာ အပြင်ကြမ်းပေါ်တွင်အိပ်ကြပြီး တချို့က ထိုင်စောင့်ကြ၏။ ပေါက်ယု အိပ်ပျော်နေစဉ် သူ့လည်တွင် ဆွဲထားသည့် အဖိုးဝန်ကျောက်စိမ်းတုံး ပျောက်မည်စိုးသည့်အတွက် နတ်ငှက်မယ်သည် ချွတ်ယူလာကာ သူ့ခေါင်းအုံးအောက်တွင် ထား၍အိပ်၏။

ထိုညက ပေါက်ယုနှင့် ကျင်ချွန်းတို့ မည်သို့မည်ပုံ စာရင်းရှင်းကြသည်ကိုမူ ကျွန်ုပ်တို့မျက်စိဖြင့် မမြင်ရသည့်အတွက် မပြောနိုင်ချေ။

နောက်တစ်နေ့မနက်တွင် မယ်မယ်နှင့် သခင်မဝမ်တို့က ဤတွင် အကြောင်းကိစ္စမရှိတော့လျှင် နွေးနွေးထွေးထွေးဝတ်၍ အိမ်သို့ပြန်ရန် ပြောကြ၏။ ပေါက်ယုကလည်း ပြန်ချင်လှလေပြီ။ ကျင်ချွန်းကာမူ ကျိနင်ကို တွေ့လိုသေးသဖြင့် နောက်ထပ်နေခွင့်ရရန် ပေါက်ယုအား နတ်ငှက်မယ်ကို အပြောခိုင်း၏။

အသုဘကိစ္စ ပြီးသလောက်ရှိသည့်တိုင် လက်စသိမ်းစရာ ကိစ္စ အလေးတွေကျန်နေသေးသဖြင့် နတ်ငှက်မယ်သည် နောက်တစ်ရက်နေ ရ၏။ ထိုသို့နေသဖြင့် ကျိချွန်ကလည်း ကျေနပ်လျက်ရှိ၏။ ထို့ပြင် သီလရှင် ဆရာကြီး ပြောသည့် ကိစ္စကိုလည်း လုပ်ရသေး၏။ ပေါက်ယုက ပျော်သည်ဆိုသည့်အတွက် မယ်မယ်ကလည်း ကျေနပ်လျက် ရှိလေ၏။

"ငှက်မယ်ကိစ္စတွေကတော့ ပြီးသလောက်ရှိသွားပါပြီ။ ဒါပေမယ့် ဒီမှာ မင်းတို့ ပျော်နေတယ်ဆိုယင်တော့ တစ်ရက်တလေ နေ့သေးတာပေါ့။ ဒါပေမယ့် မနက်ဖြန်ဆိုယင်တော့ ပြန်ရလိမ့်မယ်နော်။ မပြန်လို့မဖြစ်ဘူး"

"ဟုတ်ပါတယ်။ ဒီတစ်ရက်တည်းပါ။ မနက်ဖြန်ဆိုယင် ပြန်မှာပါ"ဟု သူတို့ကလည်း သဘောတူကြ၏။

ထို့ကြောင့် သီတစန္ဒီကျောင်းတိုက်တွင် နောက်တစ်သုနေကြရလေ၏။

နတ်ငှက်မယ်သည် သီလရှင်ဆရာကြီးပြောသည့် ကိစ္စကို လူတစ်ယောက်စေလွှတ်၍ လိုင်ဝမ်းကို အကြောင်းကြားလိုက်လေ၏။ လိုင်ဝမ်းသည် ချက်ချင်းနားလည်လိုက်တော့ မြို့ထဲသို့ပြန်သွားပြီးလျှင် ကျိချွန်၏ စာရေးကြီးအား ကျိလျှံနာမည်ဖြင့် စာတစ်စောင် ရေးခိုင်းပြီးလျှင် ထိုစာကို ချန်ငန်သို့ ညတွင်းချင်း အပို့လွှတ်လိုက်လေ၏။ ချန်ငန်မှာ မိုင်တစ်ရာခန့်သာ ဝေးသည့်အတွက် နောက်နှစ်ရက်ကြာလျှင်ကိစ္စပြတ်သွားလေ၏။ ချန်ငန် စစ်ဘုရင်ခံ ယုန်ကွမ်းသည် ကျိဆွေမျိုးစုများကို မျက်နှာလုပ်ရန် အခွင့်ကောင်းကို စောင့်လျက်ရှိရာ ယခုလောက် ကျိ





မျိုးကလေးလောက်ကို အလွယ်တကူပင် လုပ်ပေးလိုက်၏။ ဆောင်ရွက်ပြီးကြောင်း စာတစ်စောင်နှင့်အတူ လိုင်ဝမ်းလည်း ပြန်ရောက်လာလေ၏။

နတ်ငှက်မယ်သည် သီလရှင်ကျောင်းတိုက်တွင် နောက်ထပ်တစ်ရက်နေပြီးနောက် ဆရာကြီးကိုနှုတ်ဆက်ကာ သုံးရက်ကြာလျှင် အကျိုးအကြောင်းကို အကြောင်းကြားမည်ဖြစ်ကြောင်း ပြောခဲ့၏။

ကျင်ချွန်းနှင့်ကျိနင်တို့မှာ မခွဲနိုင်မခွာရက် ဖြစ်လျက်ရှိပြီး နောက်ထပ်တွေ့ရန် ချိန်းဆို၍ ခွဲခွာခဲ့ကြရလေ၏။

နတ်ငှက်မယ်သည် အလောင်းထားရာ သံသေကျောင်း သို့ နောက်တစ်ခေါက်သွားကြည့်ပြီး မြေမကျ မချင်း စောင့်ကြည့်ရန် ပေါက်ချူကိုမှာခဲ့၏။ ကျိချွန်ကလည်း နောက်ထပ် အစေတော်များ ပို့ပေးလေ၏။

အဆက်ကိုသိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၁၆

### ယွမ်ချွန်းအား မြောက်နန်းမိဖုရား မြှောက်ခြင်း။
### ကျင်ချွန်းသည် သေခါနီးတွင် အပါယ်နိမိတ်ထင်ခြင်း။

များမကြာမီတွင် ပေါက်ယုစာကြည့်ခန်းကို ပြင်ဆင်ပြီးလေပြီ။ ပေါက်ယုသည် ညသင်ခန်းစာများကို ကျင်ချွန်းနှင့်အတူ သင်မည်ဟု ကတိပေးထားခဲ့ဖူး၏။ သို့ရာတွင် ကျင်ချွန်းမှာ ခပ်ပျော့ပျော့ဖြစ်ပြီး ကျန်းမာရေးမကောင်းလှချေ။ သီလရှင်ကျောင်းတိုက်က ပြန်လာပြီး သည့်နောက်တွင် ကျင်ချွန်းမှာ မကြာခဏဆိုသလို အအေးမိနေတတ်ပြီး ချောင်းဆိုးကာ အစားအသောက် ပျက်လာခဲ့လေ၏။ အပြင်သို့ထွက်၍ မရသဖြင့် အိမ်မှာပင် အောင်းနေရ၏။ ပေါက်ယုမှာ စာမသင်နိုင်သည့်အတွက် စိတ်ပျက်ရသော်လည်း မတတ်နိုင်တော့ဘဲ ကျင်ချွန်း နေထိုင်ကောင်းအောင် စောင့်နေရ၏။

ထိုအတောအတွင်း၌ နတ်ငှက်မယ်သည် စစ်ဘုရင်ခံ ယုန်ကွမ်းထံမှ ပြန်ကြားချက်ကို ရရှိခဲ့သည့်အတွက် တိုက်အုပ်သီလရှင်ကြီးက ချန်မိသားစုအား ထိုကိစ္စအတွက် ဘာမှ ပူပင်ခြင်း မဖြစ်တော့ရန် အကြောင်းကြားလိုက်လေ၏။ ထို့ကြောင့် မြို့အုပ်၏သားသည် ဒေါ်သကို ချုပ်တည်းကာ လက်ဖွဲ့ကြောင်းလမ်း ပစ္စည်းများကို ပြန်ယူသွားရ၏။





ချန်တို့ ဇနီးမောင်နှံသည် ဂုဏ်မက်သည့်လူစားများ ဖြစ်သည့်တိုင် သူတို့တွင် ဩတ္တပ္ပတရားရှိပြီ။ သူတို့သမီးငယ်မှာလည်း အရှက်ကြီးသည့် သမီးငယ်တစ်ယောက် ဖြစ်၏။ မိမိတို့စေ့စပ်ကြောင်းလမ်းမှုကို ဖျက်သိမ်းလိုက်ပြီဟု ကြားရသည့်အခါတွင် သမီးငယ် ကျင်ကျင်သည် ရှက်လွန်းသဖြင့် ကြိုးဆွဲချ၍သေလေ၏။ ကျင်ကျင်ကို ချစ်သည့် မြို့အုပ်၏သားမှာလည်း ကျင်ကျင်၏ သတင်းကိုကြားလျှင် ချစ်သူကို သစ္စာရှိကြောင်းပြသောအားဖြင့် ရေတွင်ဆင်း၍ သေ၏။

သို့ဖြင့် ချန်မိသားစုနှင့် လီမိသားစုသည် သမီးလည်းဆုံး ငွေလည်းဆုံး ဖြစ်ခဲ့ရ၏။ ထိုအထဲတွင် ငွေစင်ပိဿာသုံးဆယ် အမြတ်ရလိုက်သူမှာ နတ်ငှက်မယ်တစ်ယောက်သာ ရှိ၏။ ထိုအကြောင်းကို ဒေါ်လေးဝမ်လည်း မသိ၊ မည်သူမျှလည်း မသိကြချေ။ သို့ဖြင့် နတ်ငှက်မယ်သည် အတင့်ရဲလာကာ နောင်တွင် အလားတူကိစ္စများကို ငွေယူ၍ လုပ်ပေးခဲ့၏။ သို့ရာတွင် ထိုအကြောင်းကို အကျယ်မချဲ့တော့ပြီ။

ယွန်းစံအိမ်ကြီး၏အိမ်ကြီးရှင် သခင်ဖြစ်သူ ကျိချိန်၏ မွေးနေ့သို့ ရောက်လာခဲ့လေပြီ။ စံအိမ်ကြီးနှစ်အိမ်စလုံးမှ အိမ်သူအိမ်သားများသည် ကျိချိန်ကို ကန်တော့ရန် ရောက်လာကြ၏။ ထိုသို့ ညွှန့်သည် များ စုရုံး ရောက်ရှိနေစဉ် တံခါးမှူးသည် အမောတကောဖြင့် ပြေးဝင်လာကာ

"ရွှေနန်းတော်ကြီးက မိန်းမစိုးမှူးကြီး သိရှောက်ချုံ ကြွလာပါတယ်။ ရွှေနန်းတော်ကြီးက အမိန့်တော်ပါပါတယ်"

ရွှေနန်းတော်ကြီးမှ အမိန့်တော်ပါသည်ဆိုသည့် စကားကြောင့် ကျိရှဲ၊ ကျိချိန်နှင့်တကွ ကျန်လူများအားလုံး အထိတ်တလန့်ဖြစ်လျက် ရှိကြ၏။ ထို့ကြောင့် ကနေသည့်အငြိမ့်ကို အရပ်ခိုင်းလိုက်ပြီးလျှင် စားသောက်ပွဲများကိုလည်း အသိမ်းခိုင်းလိုက်၏။ အမွှေးတိုင်များ ထွန်းညှိထားသည့် စားပွဲတစ်လုံးကို ထုတ်လာစေခဲ့ပြီးနောက် ဗဟိုဝင်းတံခါးကို ဖွင့်လိုက်ပြီးလျှင် ဒူးတုပ်၍ ရွှေနန်းတော်ကြီးမှ အမိန့်တော်ကို နာခံကြ၏။

ရွှေနန်းတော်ကြီးမှ မိန်းမစိုးမှူးချုပ်ကြီးဖြစ်သည့် ဆီရှောက်ချုံသည် မြင်းကြီးကိုစီးလျက် နောက်လိုက်နောက်ပါ မိန်းမစိုးများခြံရံ၍ ရောက်လာ၏။ သို့ရာတွင် ဘုန်းတော်ကြီးသောဘုရား၏ အမိန့်တော် ပြန်တမ်းကား ပါမလာခဲ့ချေ။ ဆင်ဝင်ဆောင်ဝသို့ရောက်လျှင် ဆီရှောက်ချုံသည် ပြုံးရွှင်သောမျက်နှာဖြင့် မြင်းပေါ်မှဆင်းလိုက်လျက် လှေကားအတိုင်း တက်လာခဲ့ပြီးလျှင် ထိပ်သို့ရောက်သည်နှင့် တောင်ဘက်သို့ မျက်နှာမူ၍ ရပ်လိုက်ပြီး

"ဘုန်းတော်ကြီးသော ဘုရား၏ အထူးအမိန့်တော် ပါတယ်။ ဘမယာသန ပလ္လင်ဆောင်တွင် ကျီချိန် ယခုအမြန်လာရောက် အခစား ဝင်စေ အမိန့်တော်"

မိန်းမစိုးမှူးကြီး ဆီရှောက်ချုံသည် တည်ခင်းသည့်လက်ဖက်ရည်ကိုပင် တစ်ကျိုက်မျှမသောက်ဘဲ ဤသို့ အမိန့် တော် ပြန် ပြီး နောက် လှေကားမှဆင်းကာ မြင်းဖြင့် ချက်ချင်း ပြန်ထွက်ခွာသွား၏။

ကျီရှဲနှင့် အခြားသူများမှာ အကြောင်းကို နားမလည်နိုင်အောင် ဖြစ်လျက်ရှိကြ၏။ ကျီချိန်သည် နန်းတွင်းအခစားဝင်လျှင် ဝတ်လေ့ရှိသည့် ဝတ်ရုံကိုဝတ်ကာ ရွှေနန်းတော်ကြီးသို့ ချက်ချင်း လိုက်ပါသွားလေရာ ကျန်ရစ်သူများမှာ အထိတ်ထိတ်အလန့်လန့်ဖြစ်လျက်ကျန်ရစ်ခဲ့ကြ၏။ မယ်မယ်သည် မြင်းဖြင့် အစေတော်များကို တစ်ယောက်ပြီး တစ်ယောက်လွှတ်၍ သတင်းကို စုံစမ်းခိုင်း၏။ သို့ရာတွင် လေးနာရီခန့်ကြာမှ လီတနှင့် အခြားလုက်ပါးစေ လေးယောက်တို့သည် အတွင်းတံခါးဆီသို့ မြင်းကိုဒုန်းစိုင်းစီးလာခဲ့ကြစာ၁

"မယ်မယ်ဖျာ့၊ သတင်းကောင်းဖျာ့၊ သတင်းကောင်း။ မယ်မယ်နဲ့ သခင်မကြီးတို့ရော ကျန်တဲ့ သခင်မလေးတွေရော ရွှေနန်းတော်ကြီးကို အမြန်လိုက်ခဲ့ကြတဲ့။ ဘုန်းတော်ကြီးသောဘုရားကို ခစားဝင်ရမယ်တဲ့"





ညှော်ခန်းဆောင်ကြီး အပြင်ဘက်ရှိ ဝရန်တာတွင် မယ်မယ်သည် ဒေါ်လေးဆင့်၊ ဒေါ်လေးဝမ်၊ မမယု၊ လီဝမ်း၊ နတ်ငှက်မယ်၊ ကျီသခင်မလေးများနှင့်တကွ ဒေါ်လေးဆွေ တို့နှင့်အတူထိုင်၍ ရင်တထိတ်ထိတ်ဖြင့် စောင့်ဆိုင်းလျက် ရှိကြ၏။ ထိုသတင်းကိုကြားလျှင် မယ်မယ်သည် လီတကိုခေါ်ကာ အသေးစိတ်မေးမြန်းခြင်း ပြု၏။

လီတက

"ကျွန်တော် တို့ အပြင် ဘက် နန်း ရင် ပြင် မှာ စောင့် နေရ တယ်ဖျာ့။ ဘာမှန်းတော့မသိဘူး။ ဒီတုန်းမှာမိန်းမစိုးမှူး ဆီရှောက်ချုံ ထွက်လာပြီး ကျွန်တော်တို့ရဲ့ အကြီးဆုံး သခင်မလေး ယွမ်ချွန်းကို ဘုန်းတော်ကြီးသောဘုရားက ချီးမြှင့် မြှောက်စားတော်မူမယ် ဆိုတဲ့ အကြောင်း ပြောပြတယ်ခင်ဗျ။ သခင်မလေးယွမ်ချွန်းကို မြှောက်နန်းမိဖုရားအဖြစ် မြှောက်တော်မူမယ်တဲ့ခင်ဗျ။ နောက်ကြာတော့ သခင်ကြီးကျီချိန်ကိုယ်တိုင် ထွက်လာပြီး ဟုတ်မှန်တဲ့အကြောင်း ပြောတယ်ခင်ဗျ။ ခုတော့ သခင်ကြီးလဲ အရှေ့နန်းမဆောင်ထဲကိုဝင်ပြီး ခစားနေတယ်။ သခင်မတို့ လိုက်ခဲ့ပါလို့မှာလိုက်တယ်ခင်ဗျ"

ထိုအခါကျမှ စိတ်အေးသွားကြကာ ဝမ်းမြောက် ဝမ်းသာဖြင့် မိမိတို့အဆင့်နှင့်အညီ နန်းတွင်းဝတ်စုံများကို ဝတ်ဆင်ကြ၏။ ထို့နောက် သန်လျင်ကြီးလေးစင်းသည် ရွှေနန်းတော်ကြီးသို့ ထွက်ခွာသွားကြလေရာ ထိပ်ဆုံးတွင် မယ်မယ်၊ နောက် သခင်မဆင့်၊ နောက် သခင်မဝမ်နှင့် နောက်ဆုံးတွင် မမယုတို့ လိုက်ပါလာခဲ့ကြ၏။ ၎င်းတို့အား နန်းတွင်းဝတ်စုံများကို ဝတ်ဆင်ထားသည့် ကျီလျံ၊ ကျီချန်၊ ကျီဟန်နှင့် ကျီကျွန်းတို့က လိုက်ပို့ကြ၏။

စံအိမ်ကြီးနှစ်ခုစလုံးရှိ အိမ်သူအိမ်သား အားလုံးမှာ ဝမ်းသာလျက်ရှိကြလေ၏။ သူတို့၏ မျက်နှာများသည် ဝင်းထိန်လျက် ရှိကာ ရယ်လိုက်မောလိုက်၊ ပျော်လိုက်ပါးလိုက်နှင့် ဖြစ်နေကြ၏။

လွန်ခဲ့သည့် ရက်အနည်းခန့်က တိုက်အုပ် သီလရှင်ကြီး၏ တူမ ကျီနင်သည် ကျောင်းမှ မြို့ထဲသို့ခိုးထွက်လာကာ ကျင်ချွန်နှင့်ချိန်းတွေ့ကြ၏။ ဤတွင် ကျင်ချွန်း၏ဖခင်နှင့် ပက်ပင်းတိုးပြီး ကျီနင်ကိုရိုက်ပုတ်

မောင်းနှင်လွှတ်လိုက်ပြီး ကျင်ချွန်းကိုလည်း ရိုက်၏။ အဘိုးကြီးမှာ ထိုစိတ်ကြောင့် နဂိုရှိသည့်ရောဂါ ပြန်ထလာကာ မကြာမီသေဆုံးသွား၏။ အရိုက်ခံရသည့်အခါ၌ ကျင်ချွန်းမှာ ကောင်းစွာပင် နာလန် မထသေးချေ။ ဤအထဲတွင် ဖခင် ကွယ်လွန်သွားပြန်သည့်အခါ၌ စိတ်ထောင်းကိုယ်ကြေဖြစ်ကာ ရောဂါပြန်၍ သည်းလာခဲ့ပြန်၏။

ထိုအကြောင်းများကြောင့် ပေါက်ယုမှာ အကြီးအကျယ် စိတ်ထိခိုက်လျက် ရှိလေရာ အစ်မဖြစ်သူ ယွမ်ချွန်း မြောက် နန်း မိဖု ရားအမြောက်ခံရသည်ကို ကြားရသည့်တိုင် ဝမ်းမြောက် ရွှင်လန်းခြင်းမဖြစ်နိုင်ဘဲရှိလေ၏။ မယ်မယ်နှင့်တကွ အားလုံးဘုန်းတော်ကြီးသော ဘုရားကို အခစားဝင်ခွင့်ရသည့်အတွက် အားလုံး ဝမ်းသာလျက်ရှိချိန်၊ ဆွေမျိုးသားချင်းများလာရောက်၍ ဝမ်းသာစကား ပြောနေကြချိန်၊ ထိုသတင်းကြောင့် စံ အိမ် ကြီး နှစ် ခု စ လုံး လှုပ်လှုပ်ရွရွ ဖြစ်နေကြချိန်တွင် ပေါက်ယုတစ်ယောက်သာလျှင် ထိုအရာများကို စိတ်မဝင်စားနိုင်ဘဲ ဖြစ်လျက်ရှိ၏။ ထိုအရာများသည် တကယ် ဖြစ်ပျက်နေခြင်း မဟုတ်သည့်နှယ် ပေါက်ယု၏စိတ်ကို လှုပ်ရှားစေခြင်းငှာ မတတ်နိုင်ကြပြီ။ ထိုသို့ဖြစ်နေသည်ကိုကြည့်၍ ပေါက်ယုသည် တစ်နေ့တခြား ခပ်ဆန်းဆန်း ခပ်ကြောင်ကြောင်ဖြစ်လာပြီဟု အချို့ကပြောဆိုကြ၏။

ထိုစဉ်တွင် အစေတော်တစ်ယောက် ရောက်လာကာ မိမိနှင့်ထိုက်ယုတို့သည် ပြန်လာကြပြီဖြစ်ကြောင်း၊ နောက်တစ်နေ့တွင် အိမ်သို့ပြန်ရောက်ကြမည်ဖြစ်ကြောင်းဖြင့် ကျိုလျံထံမှ အစေအောင်တစ်ယောက်ရောက်လာခဲ့၏။ ထိုအခါကျမှ ပေါက်ယုသည် လန်းလန်းဆန်းဆန်းဖြစ်လာကာ အကျိုးအကြောင်းကို ထိုလူထံမေးမြန်းသည်တွင် ယုဆုန်လည်း ရွှေမြို့တော်သို့လိုက်ပါလာကြောင်း သိရလေ၏။ ဝမ်ဇူထိန်၏ထောက်ခံချက်ဖြင့် ယုဆုန်သည် ရွှေမြို့တော်တွင်အမှုထမ်းရန် ပြောင်းရွှေ့လာခဲ့ခြင်းဖြစ်၏။ ယုဆုန်သည် ကျိုလျံတို့နှင့် ဆွေမျိုးနီးစပ် တော်ရုံမျှမက ထိုက်ယု၏ ဆရာဟောင်းနှင့်လည်း အမျိုးတော်သည့်အတွက် သူတို့နှစ်ယောက်နှင့် အတူလိုက်လာခဲ့ခြင်းဖြစ်၏။ ထိုက်ယု၏ဖခင် လင်ယုထိုက်ကို ဘိုးဘွားများမြှုပ်နှံသင်္ဂြိုဟ်သည့်မြေတွင် မြှုပ်နှံခဲ့ကာ အသုဘကိစ္စ





အဝဝတို့လည်း ပြီးခဲ့ပြီဖြစ်သည့်အလျောက် ကျိုလျံသည် ရွှေမြို့တော်သို့ ပြန်လာခဲ့ခြင်းဖြစ်၏။ ထုံးစံအတိုင်းဆိုလျှင် နောက်လဆန်းလောက်မှ ရောက်ရမည်ဖြစ်သော်လည်း ယွမ်ချွန်း၏ ဝမ်းမြောက်ဖွယ် သတင်းကို ကြားရသည့်အတွက် ကျိုလျံသည် ခရီးကို အပြင်းနှင်လာခဲ့ခြင်းဖြစ်၏။ ခရီးတစ်လျှောက်လုံး အဖုအထစ်မရှိ၊ ချောမောပြေပြစ်ပေ၏။

ပေါက်ယုကား ယွမ်ချွန်း၏ သတင်းကို စိတ်မဝင်စားလှဘဲ ထိုက်ယုတစ်ယောက် ကျန်းကျန်းမာမာ ရှိ မရှိဆိုသည့် သတင်းကိုသာ စိတ်ပြင်းပြလျက် ရှိလေ၏။ နောက်တစ်နေ့ညနေ ထိုက်ယုတို့မရောက်မီအထိ ပေါက်ယုမှာ မပျော်နိုင်ဘဲ ငိုင်တိုင်တိုင်ဖြစ်လျက်ရှိ၏။ သို့ရာတွင် သူတို့နှစ်ယောက် ပြန်လည်တွေ့ဆုံရသည့်အတွက် ဖြစ်ရသော ပျော်ရွှင်မှုသည် သောကဖြင့် ထုံတေထားသကဲ့သို့ ရှိလေသည်။ သူတို့နှစ်ယောက်သည် အားရပါးရ ငိုကြပြီး နောက်မှ အခြားစကားများကို ပြောနိုင်ကြလေ၏။

ထိုက်ယုသည် ပို၍ပင် ကောင်းစားဆန်လာသည်ဟု ထင်မှတ်မိလေ၏။ ထိုက်ယုသည် စာအုပ်တွေ အများကြီး ယူလာကာ ရောက်ရောက်ချင်း သူ့အခန်းဆောင်ကို ရှင်းလင်းပြီးနောက် ပစ္စည်းများကို နေရာတကျထား၏။ ပေါက်ကြည်၊ ယင်ချွန်း၊ ပေါက်ယုနှင့် အခြားသူများအားလည်း စုတ်တံများနှင့် စာရေးကိရိယာများကို လက်ဆောင်ပေး၏။ ပေါက်ယုက သူ့အား ပေကျင်းကိုယ်တော်လေးက ပေးခဲ့သည့် နံ့သာပုတီးကိုထုတ်၍ ထိုက်ယုကို လက်ဆောင်ပေးသည့်အခါ၌ ထိုက်ယုက

"ဟင့်အင်း မလေး မလိုချင်ဘူး။ ဒီပုတီးက မသန့်ရှင်းတဲ့လူတစ်ယောက် ကိုင်ခဲ့တဲ့ ပုတီး" ဟု ဆိုကာ ပုတီးကို လှမ်းပစ်ပေးလိုက်သဖြင့် ပေါက်ယုက ဖမ်းယူလိုက်ရ၏။

သို့ရာတွင် ကျိုလျံ အကြောင်းကို ပြန်ဆက်ကြဦးစို့။ ကျိုလျံသည် အိမ်သူအိမ်သားများကို နှုတ်ဆက်ပြီးနောက် မိမိတို့ နေထိုင်ရာ

အဆောင်သို့ ပြန်လာခဲ့၏။ နတ်ငှက်မယ်မှာ အလုပ်အလွန်များလျက် ရှိသည့်တိုင် မိမိဧည့်သည် ခွန်းဖြစ်သူ ကျိုလျံ ခရီးဝေးမှပြန်လာသည်ကို တွေ့သည့်အခါတွင် အလုပ်ကို ရပ်၍ ဆီးကြို၏။

သူတို့နှစ်ယောက်တည်း ကျန်သည့်အခါတွင် နတ်ငှက်မယ်က

"မောင်မောင်တို့တော့ ဟန်ကျတာပေါ့နော်။ ဘုရင့်ရဲ့ ရွှေယောက်ဖကြီး ဖြစ်ပြီပေါ့။ ဘုရင့်ရဲ့ဆွေတော်မျိုးတော်ပေါ့။ တော်ကြီးဘုရား တော်တော်ခရီးပန်းတော် မူပါသလားဘုရာ့။ တော်ကြီးဘုရားရဲ့ ရထားတော် ဒီနေ့ရောက်မယ်လို့ကြားလို့ အစေတော်မ ကျွန်တော်မျိုး ရေကြည်တော် ယမကာများလဲ အသင့် ပြင်ထားပါတယ် ဘုရာ့။ ကျွန်တော်မျိုးမ ဆက်သတာကို တော်ကြီးဘုရား လက်ခံတော်မူပါဘုရား"

ကျိုလျံက ရယ်လိုက်လျက်

"တော်စမ်းပါကွယ်။ ဒါတွေအသာထားစမ်းပါ"

ပင်အဲနှင့် အခြားအစေတော်များက လာရောက်နှုတ်ဆက်ပြီးနောက် လက်ဖက်ရည်နှင့် စားဖွယ်သောက်ဖွယ်တို့ကို လာချကာ ပြန်ထွက်သွားကြ၏။ မိမိမရှိသည့် အတောအတွင်း မည်သို့အခြေအနေရှိသနည်းဟု နတ်ငှက်မယ်ကို မေးမြန်း၏။ ထိုနောက် အားလုံးကို စီမံခန့်ခွဲသည့် အတွက်လည်း ကျေးဇူးတင်ကြောင်း ပြောပြ၏။

"ငှက်မယ်က စီမံအုပ်ချုပ်တာတွေနဲ့ မတော်ပါဘူး မောင်မောင်ရယ်။ ငှက်မယ်က အသိဉာဏ် နည်းတယ်။ ပရိယာယ်မရှိဘူး။ အပြောအဆိုကျတော့လဲ တဲ့တိုးနိုင်တယ်။ ငှက်မယ်လုပ်လိုက်ယင် တစ်ခုခုတော့ ကို့ရို့ကားရားတော့ ဖြစ်တာပဲ။ စိတ်ကလဲနုတော့ တော်တော့ လူက ငှက်မယ်ကို အနိုင်ယူသွားတာချည်းပဲ။ ပြီးတော့ အတွေ့အကြုံကလဲ နည်းတော့ ဘာလုပ်လုပ် မရှုံမရဲဖြစ်နေတယ်။ ဒေါ်လေးဝမ်များ စိတ်ဆိုးယင် ငှက်မယ်တစ်ညလုံး အိပ်လို့မပျော်တော့ဘူး။ ဒီတာဝန်ကြီးတွေကို မယူပါရစေနဲ့လို့ ဏောဏောပြောတာပဲ။ ဒါပေမယ့် မရပါဘူး။





ငှက်မယ်ဟာ ပျင်းတယ်တဲ့။ ဖျင်းတယ်တဲ့။ မကြိုးစားချင်ဘူးတဲ့။ ဏောဏော ဆူတယ်။ ငှက်မယ်ကလဲ စကားမှားမှာ၊ လုပ်မှားကိုင်မှား ဖြစ်မှာဆိုယင် သိပ်ကြောက်တတ်တာ။

"ပြီးတော့ အိမ်မှာရှိတဲ့ ပစ္စည်းထိန်း အဘွားကြီးတွေကလဲ တစ်မျိုး။ တစ်ချက်မမှားလိုက်နဲ့၊ မှားတာနဲ့တစ်ပြိုင်နက် မေးငေါ့ကြတော့တာပဲ။ တစ်ယောက်ယောက်ကို မျက်နှာသာ မပေးမိနဲ့။ ပေးမိတာနဲ့ တစ်ပြိုင်နက် 'သလဲပင်ကို ယိုးချင်တော့ ပိုးစာပင်ကို လက်ညှိုးထိုး' ဆိုသလို ငှက်မယ်ကို မပြောရဲတော့ မျက်နှာသာပေးခံရတဲ့ လူတွေကို သွားပြောကြတာပေါ့။ သူတို့ပြောတာလဲ ကြည့်ဦးလေ။ 'တောင်ပေါ်မှာထိုင်ပြီး ကျားနှစ်ကောင်ကိုက်တာကို ကြည့်ရမယ်' တဲ့။ 'သူများခေါ်နဲ့ လူငှားသတ်ရမယ်' တဲ့။ 'သူများဆီက လေငှားပြီး မီးကို ယပ်ခပ်ပေးရမယ်' တဲ့။ 'ကမ်းပါးထိပ်ကနေပြီး သူများရေနစ်တာကို ကြည့်ရမယ်' တဲ့။ 'သူများ ခလုတ်တိုက်လို့ လဲကျတဲ့ ဆီပုလင်းကို ဝင်ပြီးထောင်မပေးနိုင်ဘူး' တဲ့။ ပြောလိုက်တာ အမျိုးမျိုးပဲ။ ပြီးတော့ ကျွန်ဝါးကလဲ ဝနေကြပြီ မဟုတ်လား။ ဒီတော့ သူတို့လို ကျွန်ဝါးဝနေတဲ့ အဘွားကြီးတွေထဲမှာ ငှက်မယ်စကားက ဘယ်မှာအရာရောက်ပါ့မလဲ။ ငှက်မယ်စကားကို နားမထောင်ကြဘူးပေါ့။

"ဒီအထဲမှာ ကျိုယုန်ရှဲမိန်းမ ကျင်ကို့ဏ ရုတ်တရက်ဆုံးသွားတော့ အစ်ကိုကြီး ကျိုချန်ကလဲ ဒေါ်လေးဝမ်ဆီကိုလာပြီး အသုဘကိစ္စတွေကို ငှက်မယ်ပဲ ဦးစီးလုပ်ပေးပါလို့ တဖွဖွ လာတောင်းပန်လို့ လုပ်ပေးရသေးတယ်။ ငှက်မယ်ကတော့ အတန်တန် ငြင်းပါတယ်။ ဒါပေမယ့် တောင်းပန်လွန်းတော့ မလုပ်ပေးလို့လဲ မကောင်းဘူးမဟုတ်လား။ ငှက်မယ်လုပ်တော့ ထုံးစံအတိုင်း ကို့ရို့ကားရားတွေ ဖြစ်ကုန်တာပေါ့။ အစ်ကိုကြီးကျိုချန်ကတော့ ငှက်မယ်ကို ဝင်လုပ်အောင်ပြောမိတာ မှားလေခြင်းလို့ နောင်တရနေမှာပဲ။ မနက်ဖြန် အစ်ကိုကြီးကျိုချန်နဲ့ တွေ့ယင်သာ ငှက်မယ်ကိုယ်စား ကြည့်တောင်းပန်လိုက်ပေတော့။ ငှက်မယ်လို ငယ်ငယ်ရွယ်ရွယ် အတွေ့အကြုံ မရှိတာမျိုးကို နောင်မှာ ဒီလိုလုပ်ငန်းကြီးတွေကို မျက်နှာလွှဲမထားနဲ့လို့"

ထိုအခိုက် အပြင်ဘက်မှာ အသံများကြားရသဖြင့် နတ်ငှက်မယ်က မည်သူနည်းဟု မေးမြန်းလေ၏။ အစေတော်ပင်အဲ ရောက်လာကာ

"ဒေါ်လေးဆွေ့က ယင်လင်းကို လွှတ်ပြီး ကျွန်မဆီကို ပစ္စည်းတစ်ခု အကောင်းခိုင်းလိုက်တယ် သခင်မလေး။ ဒါနဲ့ ကျွန်မက အကျိုးအကြောင်းပြောပြီး ပြန်လွှတ်လိုက်တာပါ"

ကျီချန်က

"ဩော် မောင်မောင်တစ်ခု သတိရပြီ။ ဒေါ်လေးဆွေ့နဲ့တွေ့ခဲ့တုန်းက သူ့အနားမှာ တော်တော်ချောတဲ့ မိန်းကလေးတစ်ယောက်တွေ့ခဲ့တယ်။ မောင်မောင်တို့ အမျိုးထဲကတော့ မဟုတ်ဘူး။ ဘယ်ကလဲ မဆိုနိုင်ဘူး။ မေးကြည့်တော့ ရွှေမြို့တော်ကိုမလာခင် သူတို့မွေးစားတဲ့ မိန်းကလေး တစ်ယောက်လို့ ပြောလိုက်တယ်။ ကောင်မလေးရဲ့နာမည်က ယင်လင်းတဲ့။ ခုတော့ ဟိုကောင် ဆွေ့ဖန်ရဲ့ ပျော်တော်ဆက်ကလေး ဖြစ်နေတာပေါ့။ ကောင်မလေးက ပြင်လိုက်ဆင်လိုက်တော့ ပိုပြီး ချစ်စရာကောင်းလာသေးတယ်။ ဒီလိုကောင်မျိုးနဲ့ မတန်ပါဘူးကွယ်"

နတ်ငှက်မယ်က အံ့အားသင့်ဟန်ဖြင့်

"ဩော် စုချောင်တို့ တန့်ကျီတို့ရောက်ခဲ့လို့ မောင်မောင်တော့ ပွေချင်တိုင်း ပွေခဲ့လို့ အားရလာပြီအောက်မေ့နေတာ။ ခုတော့ ပွေလို့ အားမရသေးဘူးပေါ့ ဟုတ်လား။ ယင်လင်းကို မောင်မောင် သဘောကျတယ်ဆိုယင် လွယ်ပါတယ်။ မောင်မောင့် ပျော်တော်ဆက်ကလေး ပင်အဲနဲ့ လဲလိုက်ပေါ့။ ဘယ့်နှယ်လဲ။ ဆွေ့ဖန်ကလဲ ခပ်ကဲကဲရယ်။ ပန်းကန်ထဲမှာ စားစရာရှိနေပေမယ့် အိုးထဲလှမ်းကြည့်နေတဲ့ လူမျိုး။ ယင်လင်းကို ရအောင် ဘယ်လိုလုပ်ခဲ့တယ်ဆိုတာလဲ ကြည့်ဦး။ မအေကြီးမှာဖြင့် သူ့စိတ်ကြောင့် ဒုက္ခရောက်လိုက်ရတာ။ တစ်နှစ်လုံးလုံး ဒီစိတ်နဲ့ ဒုက္ခရောက်ခဲ့ရတာပဲ။ ကောင်မလေးက လှလဲလှ၊ အပြောအဆို အနေအထိုင်ကလဲ ဂုဏ်ရှိ၊ ပြီးတော့ အထက်တန်းစား တချို့ အမျိုးသမီးတွေထက်လဲ ယဉ်ကျေးသိမ်မွေ့လေတော့ ဒေါ်လေးဆွေ့မှာ ကောင်မလေးကို ဆွေ့ဖန်ရဲ့ အပျော်မယားအဖြစ် တရားဝင်ဖြစ်အောင် လူတွေကို ဖိတ်ကျွေးလိုက်ရတာ။ ဒါပေမယ့် ဘာကြာသလဲ။ ဒီလိုလုပ်





ပေးပြီး နှစ်ပတ်လောက်လဲရှိရော ကောင်မလေးကို ရိုတယ်တောင် မအောက်မေ့ဘူး။ ဒီလိုလုပ်တာကတော့ ဘယ်ကောင်းမလဲ..."

ထိုစဉ် အတွင်းတံခါးဝတွင် အစောင့်ကျသည့် သူငယ်တော်ကလေး တစ်ယောက် ရောက်လာကာ ကျိလျံအား ဦးလေးဖြစ်သူ သခင်ကြီး ကျိချိန်ကတွေ့လိုသဖြင့် သူ၏စာကြည့် ပိဋကတ်တိုက်ခန်းကြီးထဲတွင် စောင့်လျက်ရှိကြောင်း လာရောက်ပြောကြား၏။ ကျိလျံသည် အဝတ်အစားများကို သပ်ရပ်စေပြီးနောက် ထွက်သွားလေ၏။

ထိုအခါတွင် ငှက်မယ်က

"နေစမ်းပါဦး ပင်အဲရဲ့။ ဒေါ်လေးဆွေ့က ယင်လင်းကို ဘာကိစ္စ လွှတ်လိုက်တာလဲ"

ပင်အဲက တခစ်ခစ် ရယ်လိုက်လျက်

"ယင်လင်းမဟုတ်ပါဘူးသခင်မလေးရဲ့။ ကျွန်မ တမင်ပြောလိုက်တာပါ။ လာတာက လိုင်ဝမ်းရဲ့ မိန်းမပါ။ ဒီမိန်းမကြီးတော့ ရူးများ ရူးနေသလား မသိပါဘူး" ဟု ဆိုကာ လေသံကို နှိမ့်၍

"ဒီမိန်းမကြီးက သခင်လေး ကျိလျံ အိမ်မှာရှိတဲ့ အချိန်ကို ရွေးလာတာ သခင်မလေးရဲ့။ သခင်မလေး ချေးထားတဲ့ ငွေတိုးတွေကို ပေးမလို့လာတာ။ အိမ်ရှေ့မှာ ကျွန်မတွေ့လိုက်လို့ တော်သေးတာပေါ့။ နို့မို့ယင် အဆောင်ထဲဝင်လာပြီး ဘာတွေလျှောက်ပြောနေဦးမယ် မသိဘူး။ သခင်လေး မေးယင် သခင်မလေးကလဲ လိမ်ပြောလို့ မကောင်းတော့ အမှန်ကို ပြောရတော့မယ် မဟုတ်လား။ သခင်လေးအကြောင်းလဲ သခင်မလေးသိသားပဲ။ ပိုက်ဆံက အသုံးအစွဲက သိပ်ကြီးပါဘိသနဲ့။ ခြစ်ခြစ်တောက် ပူနေတဲ့ ဒယ်အိုးထဲက ပိုက်ဆံတောင် ရှောင်မှာ မဟုတ်ဘူး။ သခင်မလေးက ငွေတွေ တိတ်တိတ် ကျိတ်စုနေတယ်ဆိုတာကို သိယင် ဒီထက်ဒီ ပိုသုံးတော့မှာပေါ့။ ဒါနဲ့ ကျွန်မက ပေးစရာရှိတဲ့ အတိုးတွေ ကျွန်မကို ပေးခဲ့ဆိုပြီး ယူထားလိုက်တာ။ သခင်လေးရှေ့မှာ သခင်မလေးက မေးနေတာနဲ့ ယင်လင်းလို့ ညာပြောလိုက်တာ"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"ဩော် ဒီလိုလား၊ သိပါဘူးဟယ်။ ဒေါ်လေးဆွေ့က မောင်မောင်ရှိတုန်းမှာ ဘာဖြစ်လို့မျှား ပျော်တော်ဆက် အမြွှေးခင်မယားကလေး တစ်ယောက်ကို လွှတ်လိုက်ရပါလိမ့်လို့ အောက်မေ့နေတာ။ လက်စသတ်တော့ ညည်းညာပြောတာကိုး"

ထိုစဉ် ကျွန်ုပ်သည် ပြန်ရောက်လာလေ၏။ နတ်ငှက်မယ်သည် ယမကာများနှင့် ထမင်းပွဲကို အပြင်ခိုင်းလိုက်ပြီး လင်မယားနှစ်ယောက်သည် မျက်နှာချင်းဆိုင် ထိုင်၍ စားသောက်လျက် ရှိ၏။ နတ်ငှက်မယ်သည် ယမကာများများ သောက်နိုင်သည့်တိုင် ယနေ့တွင်မူ များများ မသောက်ရဲချေ။ ကျွန်ုပ် အဖော်ရရုံမျှသာ အနည်းငယ်သောက်၏။ ထိုစဉ် ကျွန်ုပ်ငယ်စဉ်က နို့ထိန်းဖြစ်သည့် အထိန်းတော်ချော ဝင်လာသဖြင့် သူတို့နှင့်လာ၍ အတူစားသောက်ရန် ဖိတ်ခေါ်၏။ အထိန်းတော်ချောက သူ့အား သူတို့နှင့်အတူ စားသောက်ရန် ဖိတ်ခေါ်သည်ကို ငြင်း၏။ သို့ရာတွင် ပင်အဲနှင့် အခြားအစေတော်များက ခုတင်မီးဖိုကြီးပေါ်တွင်ခင်းပေးသဖြင့်အထိန်းတော်ကြီးလည်းဝင်ထိုင်လိုက်ရလေ၏။ ကျွန်ုပ်က သူတို့ဝိုင်းမှ ဟင်းနှစ်ခွက်ကို လှမ်းပေးလိုက်၏။

"အထိန်းတော်ကြီးက ဒါတွေကို မစားနိုင်ပါဘူး မောင်မောင်ရယ်။ သွားတွေက သိပ်ကောင်းတော့တာ မဟုတ်ဘူး" ဟု နတ်ငှက်မယ်က ပြောကာ ပင်အဲဘက်သို့ လှည့်၍

"ဟဲ့ ပင်အဲ၊ မနက်က ပြုတ်ထားတဲ့ ဝက်သားပြုတ်ကလေးဟာ တော်တော်နူးတယ်လို့ ငါမနက်က ပြောခဲ့ဘယ်မဟုတ်လား၊ အဲဒီ ဝက်သားပြုတ် ယူခဲ့ပါလား၊ အဲဒါလေးကို မြန်မြန် နွှေးလိုက်။ အထိန်းတော်ကြီး ဟောဒါက အထိန်းတော်ကြီးရဲ့ တူ ယူလာခဲ့တဲ့ ဟွေးအရက်ချိုတဲ့။ သောက်ဦး"

"အကျွန်လဲ သောက်မယ်။ သခင်မလေးလဲ သောက်ဦးလေ။ မစိုးရိမ်ပါနဲ့ သခင်မလေးရဲ့။ အလွန်အကျွံမသောက်ယင် ပြီးတာပါပဲ။ လာတဲ့ကိစ္စကတော့အခြားမဟုတ်ဘူး သခင်မလေးရေ။ အကူအညီကလေးတစ်ခုတောင်းစရာရှိလို့လာခဲ့တာ။ သခင်လေးကျွန်ုပ်ကပါးစပ်ကတော့ လွယ်လွယ်ပဲ ကတိပေးတယ်ပဲ။ ဒါပေမယ့် နောက်ကျတော့သူလဲ မေ့







သွားဟန်တူပါရဲ့။ ဘာစမှသတိမရတော့ဘူး။ ကျွန်မကသခင်လေးကိုပြောတယ်။ သခင်လေး၊ သခင်လေးကို အကျွန်ပဲ နို့တိုက်ပြီး ကြီးပြင်းအောင်မွေးလာခဲ့တာ။ ခုတော့ အကျွန်လဲ အသက်ကြီးပြီ။ သားနှစ်ယောက်ပဲ ကျန်တော့တယ်။ ဒါ့ကြောင့် အကျွန့်ကိုကူညီတယ်ဆိုယင် ဘယ်သူကမှလဲ ဘာမှပြောမှာမဟုတ်ပါဘူးလို့ သခင်လေးကို အကျွန် မကြာခဏ အကူအညီ တောင်းဖူးတယ်။ သခင်လေးကလဲ ပေးမယ်လို့ပြောတာပဲ။ ဒါပေမယ့် ခုထိ ဘာမှမရသေးဘူး။ ခုတော့ သခင်မလေးနဲ့ တွေ့တော့ အကျွန် ကံကောင်းတာပေါ့လေ။ သခင်မလေးမှာလဲ လက်တို လက်တောင်း ခိုင်းစရာတို့ဘာတို့ လိုမှာပါ။ ဒီတော့ အကျွန့်ကို အကူအညီပေးပါ သခင်မလေးရယ်။ သခင်လေးကိုသာ အားကိုးနေရမယ်ဆိုယင်တော့ ခုလောက်ဆို အကျွန်ငတ်သေနေတာ ကြာလှရော့မယ်"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"အထိန်းတော်ကြီးရဲ့ သားနှစ်ယောက်ကို ထားခဲ့ပါလေ။ အထိန်းတော်ကြီးက မောင်မောင့်ကို ငယ်ငယ်ကလေးက ထိန်းခဲ့တာပဲ။ သူ့အကြောင်း သိမှာပေါ့။ သိတဲ့အတိုင်း မောင်မောင်က သူစိမ်းတစ်ရံဆန်တွေတော့ ကူညီပြီး ကိုယ့်အထိန်းတော်ရဲ့ သားနှစ်ယောက်ကိုတော့ ဒီလိုပစ်ထားတယ်ဆိုတော့ ဘယ်ကောင်းပါ့မလဲ။ ဟုတ်တာပေါ့။ သူတို့ကိုကူညီလိုက်လို့ ဘယ်သူက ဘာပြောမှာလဲ။ ဒါပေမယ့် ခက်တာက မောင်မောင်က သူစိမ်းတွေအပေါ်မှာသာ ကောင်းတာ။ ကဲပါလေ ဒါတွေပြောလို့ မကောင်းပါဘူး။ အပြင်လူတွေက သူကလူရင်းလုပ်ပြီးထားနေတော့ ခက်တာပေါ့"

သူတို့နှစ်ယောက်သည် ထိုစကားကို သဘောကျ၍ ရယ်လိုက်ကြလေ၏။ အထိန်းတော်ချောကား သီးမတတ်ရယ်လျက် ရှိ၏။

"မှန်လိုက်လေတော်။ သခင်မလေးက မျက်နှာမလိုက်ဘဲ ပြောတာ။ တကယ်ကတော့ သခင်လေးက အကျွန်တို့ကိုစိမ်းကားတာတော့ မဟုတ်ပါဘူး။ ဒါပေမယ့် သနားတတ်တော့ သူ့ဆီကိုလာပြီး အကူအညီတောင်းယင် ဘယ်သူဖြစ်ဖြစ် မငြင်းဘူးမဟုတ်လား"

"အမယ်လေး၊ သူ့ သခင်လေးဘက်က ရှေ့နေလိုက်မနေစမ်းပါနဲ့။ သူကျချင်တဲ့လူတွေကိုသာ ကျနေတာပါ။ အိမ်ကမိန်းမတွေအပေါ်မှာတော့ အလွန်နိုင်ချင်တာပါ"

"ဟင်း သခင်မလေး နဲ့ စကားပြောရတာ ကောင်းလှတယ်။ ယမကာလေး နောက်တစ်ခွက်လောက်တော့ သောက် လိုက် ဦး မယ်။ ကဲပါ သခင်မလေးက အကျွန်တို့ဘက်မှာ သခင်မလေး ရှိနေပြီ ပဲ။ ဒီအကြောင်းကို မပြောတော့ပါဘူး"

ကျိုလျံက ပြုံးလိုက်ရင်း

"ကဲ အတင်းပြောလို့ အားမရကြသေးဘူးလား။ တော်ကြပါတော့။ ထမင်းလေး ဘာလေး စားကြရအောင်။ မောင် မောင် က အစ်ကိုကြီးချန်နဲ့ စကားပြောစရာကိစ္စလေးတွေရှိသေးလို့ သွားရဦးမယ်"

"ကြွပါရှင် ကြွပါ။ သူ့ ကိစ္စတွေက ပြီးပဲမပြီးနိုင်တော့ဘူး။ အစ်ကိုကြီးချန်က ဘာလို့များ ဒီလောက်အရေးတကြီး ခေါ်ပြန်သလဲ မသိဘူး"

"နန်းလည်ပွဲကိစ္စ ဖြစ်မှာပေါ့"

"အမိန့်ရပြီတဲ့လား" ဟု နတ်ငှက်မယ်က စိတ်အားထက်သန်စွာ မေးလေ၏။

"ရတော့ မရသေးဘူး။ ဒါပေမယ့် ရမှာပါ။ ဆယ် ပုံ ကိုး ပုံ သေချာပါတယ်"

နတ်ငှက်မယ်၏ မျက်နှာသည် ဝင်းထိန်သွားကာ

"ဘုန်းတော်ကြီးသော ဘုရားဟာ တယ်ပြီး ကရုဏာတော် ကြီးမားပေတာပဲနော်။ ဟိုရှေးတုန်းက ဒီလိုအခွင့်ပေးတာမျိုးကို တစ်ခါမှ မကြားခဲ့ဖူးဘူး။ စာအုပ်တွေ ပြဇာတ်တွေထဲမှာလဲ မတွေ့ဖူးဘူး"

အထိန်းတော်ကြီးက

"နေစမ်းပါဦး သခင်မလေးရယ်။ အကျွန်က အသက်ကလဲ ကြီးလာတော့ ဘယ်သူတွေ ဘာတွေပြောကြဆိုကြတယ်ဆိုတာကို ကောင်းကောင်း မလိုက်နိုင်တော့ဘူး။ ခုတလောမှာ ဒီအကြောင်းပဲ လူတိုင်းပြောနေကြပေမယ့် အကျွန်တို့က အသက်ကကြီးလာတော့ ဘာတွေပြော





နေကြမှန်းကို နားမလည်နိုင်ဘူး ဖြစ်နေတယ်။ နန်း လည် ပွဲ ဆို တာ ဘာကိုပြောတာလဲ သခင်မလေးရဲ့"

ကျိုလျံက ရှင်းပြလေ၏။

"ခု ရွှေနန်းတက်တဲ့ ဘုန်း တော် ကြီး သော ဘုရားဟာ လက်အောက်ခံ တိုင်းသူပြည်သားတွေကို ချစ်ခင်သနားတော် မူတတ်တယ် အထိန်းတော်ကြီးရဲ့။ ဝတ္တရားတို့အနက် မိဘအပေါ်မှာ ထားရှိအပ်တဲ့ ဝတ္တရားဟာ အမြတ်ဆုံးဖြစ်တယ်လို့ ယူဆတော်မူတယ်။ ဒီတော့ အယုတ်အလတ် အမြတ်မရွေး လူတိုင်းမှာ မိဘဆွေမျိုးကို တွယ်တာကြမယ်ဆိုတာ ကိုယ်ချင်းစာတော်မူတယ်။ ဘုန်း တော် ကြီး သော ဘု ရား ဟာ ခမည်းတော်နဲ့မယ်တော်ကို နေ့ညမပြတ် ပြုစုတော်မူသည့်တိုင် ဒီလောက်ပြုစုရတာကို ကျေနပ်တော် မမူဘူး။ ရွှေနန်းတော်ထဲမှာ စောနေကြရတဲ့ မြောက်သားတော်တွေ၊ ကိုယ်လုပ်တော်တွေ၊ မောင်းမမိဿံတွေဟာ မိဘဆွေမျိုးတွေနဲ့ အကြာကြီး ခွဲခွာနေကြရတဲ့အတွက် လွမ်းဆွတ်ကြလိမ့်မယ်ဆိုတာ သိတော်မူတယ်။ သားသမီးဆိုတာ မိဘကို လွမ်းဆွတ်မှာပဲလို့ ကိုယ်ချင်းစာတော်မူတယ်။ ပြီးတော့ အိမ်မှာ သားသမီးကို လွမ်းဆွတ်တဲ့အတွက် မိဘနေထိုင်မကောင်းယင်၊ သို့မဟုတ် လွမ်းဆွတ်တဲ့ စိတ်ကြောင့် ကတိမ်းကပါးဖြစ်ခဲ့ယင် တရားတော်က ဟောပြောတော်မူတဲ့ မင်္ဂလာတရားတော်နဲ့လဲ မကိုက်ညီဘူးလို့ ယူဆတော်မူတယ်။ ဒါ့ကြောင့် ရွှေနန်းတော်ကြီးထဲမှာ စောနေကြတဲ့ ကိုယ်လုပ်တော်တွေ၊ ရံရွေတော်တွေအတွက် မိဘဆွေမျိုးတွေကို တစ်လကို နှစ်ရက်ကနေ ခြောက်ရက်အထိ လာရောက် လည်ပတ်ခွင့်ပေးပါလို့ ဆိုင်ရာ ရွှေနန်းတော်ဝန်ကြီးများကို အမိန့်ထုတ်လိုက်တယ်ဗျ"

"ဘုန်းတော်ကြီးသော ဘုရားရဲ့ လူ ကြီး မိ ဘ ကို ကိုင်းရှိုင်းတဲ့ စိတ်ဓာတ်၊ ကြင်နာသနားတတ်တဲ့ စိတ်ဓာတ်၊ တ ရား တော် နဲ့ အညီ ကျင့်ကြံတဲ့သဘာဝကို ကြားတဲ့အခါကျတော့ ခမည်းတော်နဲ့မယ်တော်ကြီးတို့လဲ ဝမ်းမြောက်ရွှင်လန်းပြီး သာဓုခေါ်တော်မူကြတယ်။ ဒီတော့ ရွှေနန်းတော်လုပ်ထုံးများအရ ကြည့်ယင် နန်းတွင်းသူတွေနဲ့ မိဘ ဆွေမျိုးများ စိတ်တိုင်းကျလုပ်ပေးဖို့ အခက်အခဲတွေ ရှိ သင့် သ လောက်

ရှိနေတယ်ဗျ။ သို့သော်လဲ အဲဒါတွေကို အပထားပြီး သူတို့စိတ်တိုင်းကျ ဖြစ်ပေ့စေလို့ သက်ဆိုင်ရာကလဲ အမိန့်တော်များ ထုတ်ပြန်ပေးလိုက်တယ်။ ဒါကြောင့် သက်ဆိုင်ရာ ဆွေမျိုးမိဘများဟာ ရွှေနန်းတော်တွင်းမှာ ခစားနေကြတဲ့ ရင်သွေးတော်တွေဆီကို လာလည်ခွင့်ရရှိတင်မကဘူး။ ရွှေနန်းတွင်း အခြွေအရံတွေပါ လာရောက်နေနိုင်တဲ့ အိမ်မျိုးဆိုယင် ရွှေနန်းတော်ကြီးကသုံးတဲ့ ရထားကော်များနဲ့ မိမိတို့ မိဘဆွေမျိုးများအိမ်ကို သွားရောက်လည်ပတ်နိုင်တယ်လို့လဲ အမိန့်ပြန်တမ်းထုတ်ပြီး အထူးအခွင့်အရေး ပေးတော်မူလိုက်တယ်ဗျ။ ဒါကြောင့် ခုဆိုယင် ရွှေနန်းတော်ကြီးမှာ ခစားနေကြတဲ့ နန်းတွင်းသူများဟာ မိမိတို့ရဲ့ မိဘဆွေမျိုးများအိမ်ကို ရွှေနန်းတော် အဆောင်အယောင်အပြည့်နဲ့ လာရောက်လည်ပတ်နိုင်ကြပြီ။

“ဒီအမိန့်တော်ပြန်တမ်း ထွက်လာတဲ့အခါကျတော့ အားလုံး ဝမ်းသာကြလွန်းလို့ဆိုပဲ။ မှန်နန်းအပျိုတော်ချူရဲ့ မိဘများဆိုယင် သူတို့သမီးအလည်လာတဲ့အခါမှာ ရင်သွေးတော်တွေနဲ့ အသင့်နေနိုင်အောင် ဝင်းထဲမှာ ယာယီတဲနန်းဆောင်တောင် ဆောက်နေပြီတဲ့။ ဘုန်းတော်ကြီးသောဘုရားရဲ့ ကိုယ်လုပ်တော်ဝူရဲ့ မိဘတွေဖြစ်တဲ့ ဝူလျန်ယုဆိုယင် မြို့ပြင်ဘက်မှာ ယာယီနန်းဆောက်ဖို့ နေရာကိုတောင် ရွေးနေပြီတဲ့။ ဒီတော့ ဒါတွေကိုထောက်ယင် အမိန့်တော်ပြန်တမ်းအရ အကောင်အထည်ပေါ်တော့မယ်ဆိုတာ ထင်ရှားနေပြီဗျ”

“အလိုလေး။ အမိဒ္ဓ ဗုဒ္ဓ မြတ်စွာဘုရား။ တယ်ပြီး မင်္ဂလာရှိတဲ့ သတင်းပါလားတော်ရို့။ ဒီအတိုင်းဆိုယင် အကျွန်တို့ သခင်မလေးလဲ ဒီကို တစ်ခါတစ်ခေါက် အလည်ကြွလာတော်မူတော့မယ်ပေါ့” ဟု အထိန်းတော်ကြီးကမေး၏။

“ဟုတ်တယ်လေ။ ဒါကြောင့် ကျွန်တော်တို့ ဒီလောက် အလုပ်များနေတာပေါ့”

ငှက်မယ်က ဝမ်းမြောက်ဝမ်းသာဖြင့်

“ဒီအတိုင်းသာဆိုယင် ငှက်မယ်တို့ ပွဲကြီးလမ်းကြီးတွေကို တွေ့ရဦးမှာပေါ့နော်။ ငှက်မယ်လေ အသက်နှစ်ဆယ် သုံးဆယ်လောက် စော





မွေးချင်လိုက်တာ။ ခုတော့ ကလေးသာသာဆိုတော့ လူကြီးတွေက ငှက်မယ်တို့ကို ဘာမှနားမလည်ဘူးဆိုပြီး တယ်အထင်သေးချင်ကြတယ်။ ငှက်မယ်တို့ရဲ့ ချင်မင်းဆက် ပထမဆုံး နန်းတက်တော်မူတဲ့ ဘုန်းတော်ကြီးသောဘုရား တိုင်းခန်းလှည့်လည်တော်မူတဲ့ အကြောင်းကို လူကြီးတွေပြောလို့ ကြားရတော့ တယ်ပြီးခမ်းနားပေတာပဲ။ ဟိုရှေးတုန်းက ရှင်ဘုရင်ကြီး တိုင်းခန်းလှည့်လည်တာမျိုး ကျနေတာပဲ။ ရာဇဝင်စာအုပ်ထဲမှာ ဖတ်ရတာထက်တောင် အရသာရှိသေးတယ်။ ကြည့်ချင် မြင်ချင်လိုက်တာ။ လောကကြီးမှာ သိပ်ပြီး လူဖြစ်နောက်ကျတာပဲ”

အထိန်းတော်ကြီးက

“အင်း ဒါမျိုးကလဲ အနှစ်တစ်ထောင်မှာ တစ်ခါကြုံရတာမျိုးကိုး သခင်မလေးရဲ့။ အဲဒီတုန်းက အကျွန်မိလိုက်တာပေါ့။ မိဆို စကားပိ နားကြားအရွယ်ပေါ့။ အဲဒီတုန်းက အကျွန်တို့ ကျိ ဆွေမျိုးစုက ဘုရင့်လှေတော်တွေဆောက်တဲ့ဘက်မှာ ကြီးကြပ်ရတဲ့ လှေသင်းမှူးတော် ဆူချောင်နဲ့ ယန်ကျိမှာ ရေကာတာကြီးတွေဆောက်ရတယ်။ ဘုန်းတော်ကြီးသောဘုရား တိုင်းခန်းလှည့်လည်မယ်ဆိုတော့ သုံးလိုက်တဲ့ ငွေတွေဆိုတာကလဲ သောက်သောက်လဲပဲ။ ပင်လယ်ရေကို သွန်ပစ်တာကမှ နည်းချင်နည်းဦးမယ်”

နတ်ငှက်မယ်က

“ငှက်မယ်တို့ ဝမ်မျိုးကလဲ ဒီအတိုင်းပဲတဲ့။ အဲဒီတုန်းက ငှက်မယ်ရဲ့အဘိုးက တိုင်းတစ်ပါးကဆက်တဲ့ လက်ဆောင်ပဏ္ဏာတော်တွေကို ထိန်းရတဲ့ လက်ဆောင်ယူမှူးတဲ့။ တိုင်းတစ်ပါးက သံတမန်တွေလာပြီး လက်ဆောင်ပဏ္ဏာပေးယင် ငှက်မယ်တို့အမျိုးက လက်ခံတွေ့ဆုံရသတဲ့။ တိုင်းတစ်ပါးက လှေ၊ သင်္ဘောတွေပေါ်က လက်ဆောင်တွေကို ကွမ်တုံတို့၊ ဖူကျန်တို့၊ ယူနန်တို့၊ ချဲကန်းတို့ဆိုတဲ့ နယ်တွေကို ခွဲဝေပေးတော်မူတော့ ငှက်မယ်တို့အဘိုးရဲ့လက်ထဲက အားလုံးခွဲဝေပေးရတာတဲ့”

“ဟုတ်တယ်လေ။ ခုခေတ်လူတွေက ဒါတွေကို မသိကြတော့ဘူး။ ‘နဂါးမင်းသာ၊ ကျောက်စိမ်းခက်လှ၊ လိုရှိပါလျှင်၊ ချင်လင်းမြို့ဝန်၊ ဝမ်၏လက်မှ၊ ဆက်သရရှင့်’ ဆိုတဲ့စာတောင် အဲဒီတုန်းကပေါ်ခဲ့သေး

ပေတာပဲ သခင်မလေးရဲ့၊ အဲဒီချင်လင်းမြို့ဝန်ဝမ်ဆိုတာ သခင်မလေးတို့ အမျိုးပေါ့။ ယန်ဇီက ချန်မျိုးဆိုယင်လဲချမ်းသာလိုက်တာ မပြောနဲ့။ ဘုန်းတော်ကြီးသောဘုရားကို လေးကြိမ်တိုင်တိုင် ညှော်ခံစားတော်ဆက်သတဲ့။ ကိုယ့်မျက်စိနဲ့မမြင်ရယင် ဒါမျိုး ဘယ်သူ့ကိုပြောလို့ ယုံနိုင်ပါ့မလဲ။ ငွေစင်ဆိုတာကတော့ မပြောနဲ့တော့။ ကျောက်ခဲ သဲကျနေတာပဲ။ တခြားအဖိုးတန် ရတနာတွေကချည်း တောင်လိုပုံနေသတဲ့။ ရေလိုသုံးနေတာပဲတဲ့”

“ဟုတ်တယ်၊ ငှက်မယ်ရဲ့အဘိုးနဲ့ ဘိုးလေးမျှား ပြောဖူးတယ်။ ငှက်မယ်တော့ ယုံတယ်လေ။ မိသားစုတစ်ခုတည်း ဒီလောက်ချမ်းသာတာကတော့ တော်တော့်ကို အံ့ဩစရာကောင်းတာပဲနော်”

“ဒါကတော့ သခင်မလေးရယ် ဘုန်းတော်ကြီးသောဘုရားရဲ့ ငွေတော်တွေကို ဘုန်းတော်ကြီးသောဘုရားအတွက်သုံးတာပဲ့။ ဒီလိုမဟုတ်ယင် ဒီလောက်ငွေတွေကို ဘယ်အလဟဿသုံးပစ်ပါ့မလဲ”

ထိုအခိုက်တွင် နတ်ငှက်မယ်တို့ ထမင်းစားပြီးခြင်းရှိမရှိ ဒေါ်လေးဝမ်ထံမှ မေးသူရောက်လာ၏။ ကိစ္စရှိ၍ လွှတ်လိုက်ခြင်းဖြစ်သည်ဟု သိရသဖြင့် နတ်ငှက်မယ်သည် ထမင်းပန်းကန်တစ်ဝက်ကိုသာ စားကာ ပလုတ်ကျင်းလိုက်၏။ ဒေါ်လေးဝမ်ဆီသို့ သွားတော့မည်ပြုစဉ် အတွင်းတံခါးမှ သူငယ်တော်ရောက်လာကာ ကျိယုန်နှင့်ကျိကျန်းတို့ ရောက်လာကြောင်း လာပြောသဖြင့် ကျိလျံလည်း ပါးစပ်ကိုကျင်းနေစဉ် ပင်အဲသည် လက်ဆေးရန် ဇလုံကို ယူလာ၏။ သူတို့ရောက်လာလျှင် ကျိလျံက အကျိုးအကြောင်းကို မေးမြန်းသဖြင့် နတ်ငှက်မယ်လည်း မသွားသေးဘဲ သူ့စကားကို နားထောင်လျက်ရှိ၏။

“ဖေဖျားက လွှတ်လိုက်လို့ဦးလေး။ သူတို့လူကြီးတွေ ကြွံဆိုပွဲအတွက် ပန္နက်ပုံချပြီးပြီတဲ့။ အရှေ့တံတိုင်းကနေ အရှေ့စံအိမ်ကိုဖြတ်ပြီး မြောက်ဘက်ကို လှည့်တိုင်းပြီးပြီ။ သုံးလီခွဲရှိတယ်။ လာမယ့်ရံရွေတော်အတွက်ရော ဘာရော သီးခြားတဲ့နန်းတစ်ခု ထိုးလောက်တယ်တဲ့။ ခု တဲ





နန်းတော်ပုံစံကို အဆွဲခိုင်းထားတာ မနက်ဖြန်ဆိုယင် ပြီးတော့မယ်။ ဦးလေးက ခရီးပန်းလာတာဆိုတော့ မလာချင်ယင်လဲ နေတော့တဲ့။ ဦးလေးစိတ်ကူးရှိယင်လဲ မနက်ဖြန်မှလာပြီး ပြောလှည့်ပါတဲ့”

ကျိလျံက

“အေးကွာ အစ်ကိုကြီးကို ကျေးဇူးတင်ကြောင်း ပြောလိုက်ပါ။ ပေးတဲ့တာဝန် ယူပါ့မယ်လို့။ ခုတော့မလာတော့ဘူးလို့လဲ ပြောလိုက်ပါ။ ခုအတိုင်းကတော့ အဆင်အပြေဆုံးပေါ့။ တခြားနေရာကို ရွေးယင် ဒီထက်လဲအလုပ်များဦးမယ်။ ဒီလောက်လဲ အဆင်ပြေချင်မှ ပြေမယ်။ ခု အစ်ကိုကြီး ပြောတဲ့အတိုင်း သဘောကျပါတယ်လို့။ တခြားလူကြီးတွေက ဒီ့ပြင်နေရာကို ရွေးယင်တောင် ဖျက်ပါလို့။ မနက်ဖြန် ငါရောက်တော့လဲ ပြောပြပါဦးမယ်”

ကျိယုန်က မှာသည့်အတိုင်း ပြောမည်ဖြစ်ကြောင်း ကတိပေး၏။ ကျိကျန်းသည် ရှေ့သို့တိုးလာကာ

“ဦးလေးက လီတရဲ့သားနှစ်ယောက်ကို ခေါ်ပြီး ဆူချောင်ကို သွားချည်လို့ ပြောနေတယ်ခင်ဗျ။ ရှန်ပိန်ဂျင်းနဲ့ ဖိုကူရှန်းဆိုတဲ့ စာရေးနှစ်ယောက်ကိုလဲ ခေါ်သွားတဲ့။ ဟိုရောက်တော့ ပန်ကျာသည်တွေ၊ ကချေသည်တွေရယ်၊ တူရိယာပစ္စည်းတွေရယ်၊ အဝတ်အစားတွေရယ် ဝယ်ခဲ့တဲ့။ အဲဒါ အစ်ကို့ကို လာပြောတာ။ ဦးလေးကိုလဲ ဝင်ပြောသွားလို့ မှာလိုက်လို့”

ကျိလျံက နားမလည်နိုင်သလိုဖြင့် ကျိကျန်းကိုလှမ်းကြည့်လိုက်ပြီးနောက်

“မင်းလုပ်နိုင်ပါ့မလား။ သိပ်ခက်တဲ့ကိစ္စတော့ မဟုတ်ပါဘူး။ ဒါပေမယ့် သဘင်လောကဆိုတာ အရှုပ်သားကွ။ သူ့အထာနဲ့သူ။ အထာကိုသိဖို့လိုတယ်”

အမှောင်ထဲတွင် ရပ်နေသည့် ကျိယုန်သည် နတ်ငှက်မယ်ကို လက်တို့လိုက်လေ၏။ နတ်ငှက်မယ်က ချက်ခြင်းရိပ်မိလိုက်ကာ

“မောင်မောင်ကလဲ ဒီလောက် စိုးရိမ်မနေစမ်းပါနဲ့။ အစ်ကိုကြီးက ဘယ်သူ့ကို လွှတ်ရမယ်ဆိုတာ နားလည်ပါတယ်။ ကျိကျန်းလုပ်

နိုင်မှာ မဟုတ်ဘူးလို့ ပူမနေစမ်းပါနဲ့။ လူတိုင်းကကော မွေးကတည်းက သိလာ တတ်လာကြတာလား။ ကျိကျန်းလဲ အရွယ်ရောက်ပါပြီ။ 'ဝက်သားကို မမြည်းဖူးသေးပေမယ့် ဝက်ပြေးတာကိုတော့ မြင်ဖူးရောပေါ့'။ အစ်ကိုကြီးက သူ့ကို ကြီးကြပ်ရုံ ကြီးကြပ်ဖို့ လွှတ်လိုက်တာပါ။ ဈေးနှုန်းကိစ္စတွေကို စကားပြောဖို့၊ စာရင်းကိုင်ဖို့က သူလုပ်ရမှာ မဟုတ်ပါဘူး။ ငှက်မွယ်အထင်တော့ အကောင်းဆုံးထင်တာပဲ''

''မောင်မောင်က ကန့်ကွက်နေတာ မဟုတ်ပါဘူးကွယ်။ အကြံကလေး ဘာလေး ပေးလိုက်ရအောင် မေးတာပါ။ နို့ နေစမ်းပါဦး။ ဒါတွေအတွက် ပိုက်ဆံက ဘယ်ကရမှာတဲ့လဲ''

''ခု ကျွန်တော်တို့ အဲဒါကို ပြောနေကြတာပေါ့။ လိုင်ဝမ်းက ပြောတော့ ကျွန်တော်တို့ ဒီကငွေယူသွားဖို့ မလိုဘူးတဲ့။ တောင်ပိုင်းက ချန်တို့ဆီမှာ ကျွန်တော်တို့ငွေ ပိဿာ ငါးရာ ရစရာရှိတယ်တဲ့။ မနက်ဖြန်ကျယင် ကျွန်တော်တို့ကို လွှဲစာ ရေးပေးလိုက်မယ်တဲ့။ အဲဒီအထဲက ကျွန်တော်တို့ ပိဿာသုံးရာ သုံးတဲ့။ ကျန်တဲ့ ပိဿာနှစ်ရာကို အလုအပ ထွန်းဖို့ မီးအိမ်တို့၊ ဖယောင်းတိုင်တို့၊ တံခွန်တို့၊ ဝါး ကန့်လန့်ကာတို့၊ တခြား အလှအပတန်ဆာပလာတွေ ဝယ်ဖို့ ချန်ခဲ့တဲ့''

ကျိလျံက ခေါင်းကိုညိတ်လိုက်ရင်း

''အင်း အင်း ကောင်းတယ်''

''ကဲ ဒီလိုဆိုယင် ပြီးပြီပေါ့။ ငှက်မယ်မှာ မင်းတို့နဲ့ထည့်လိုက်ဖို့ စိတ်ချရတဲ့ လူယုံတော် နှစ်ယောက်ရှိတယ်''ဟု နတ်ငှက်မယ်က ပြော၏။

ကျိယွန်က အားယူ၍ ပြုံးလိုက်လျက်

''ဒီလိုဆို အခန့်သင့်သွားတာပေါ့။ ကျွန်တော်ကလဲ လူနှစ်ယောက်လောက် ရှာပေးဖို့ မလေးကို ပြောမလို့ လုပ်နေတာ''ဟု ဆိုကာ အမည်နာမကို မေးလေ၏။

အိပ်မက်ထဲတွင် မြင်နေရသကဲ့သို့ သူတို့စကားကို နားထောင်လျက်ရှိသည့် အထိန်းတော်ကြီး ချောဘက်သို့လှည့်၍ နတ်ငှက်မယ်က မေး၏။ ပင်အဲက တံတောင်ဖြင့်တို့လိုက်သည့် အခါတွင် အထိန်းတော်ကြီးသည် သတိရလာကာ





''ချောတိန်လျှန်နဲ့ ချောတိန့်တုန်ပါ သခင်မလေး''

''ကဲ မမေ့နဲ့နော်၊ မှတ်သွား။ ကဲ ငှက်မယ်လဲ လုပ်စရာတွေရှိသေးတယ်''ဟုဆိုကာ နတ်ငှက်မယ်သည် ထွက်သွားလေ၏။

ကျိယုန်သည် နတ်ငှက်မယ်နောက်သို့ လိုက်သွားကာ

''မလေးကော ဘာမှာလိုက်ချင်သေးသလဲ။ မှာချင်ယင် ပြောလေ။ ကျွန်တော် ကျိကျန်းကို မှာလိုက်မယ်''

''အမလေး တော်ပါပြီရှင်။ ကျေးဇူးတင်ပါတယ်။ ငှက်မယ်မှာ များလွန်းလို့ ထားစရာတောင် မရှိတော့ဘူး။ ဒါပဲနော်။ လူကြီးတွေ မသိအောင် ရှုပ်ရှုပ်ယှက်ယှက်တွေတော့ လုပ်မလာကြနဲ့''ဟု ဆိုကာ နတ်ငှက်မယ်သည် ထွက်သွား၏။

ထိုအချိန်တွင် ကျိကျန်းကလည်း

''ဦးလေးကျိလျံ ဘာလိုချင်သလဲ။ လိုချင်တာရှိ ကျွန်တော့် မှာလိုက်လေ''

ကျိလျံက နောက်သလို ပြောင်သလိုဖြင့်

''ပိုက်ဆံတွေလဲ သိပ်သုံးမလာကြနဲ့ဦးနော်။ မင်းတို့ကို ပထမဆုံး အလုပ်အကိုင်တတ်အောင် ခိုင်းကြည့်တာ။ ထင်တိုင်းလုပ်မလာကြနဲ့။ ငါလိုချင်တာရှိယင် မှာလိုက်မယ်။ ခု လောလောဆယ်တော့ စိတ်ကူးမပေါ်သေးဘူး''

လူငယ်နှစ်ယောက်လည်း ပြန်ထွက်သွားကြ၏။ ထို့နောက်တွင် အစေတော်များ လာရောက်ကာ အလုပ်ကိစ္စများကို ပြောဆိုနေကြပြန်၏။ သူတို့ပြန်သွားသည့်အခါတွင်မူကား ကျိလျံမှာ ပင်ပန်းနေလေပြီ။ ထို့ကြောင့် နောက်ထပ် မည်သူ့ကိုမျှ သူ့ဆီမလွှတ်တော့ရန် အတွင်းတံခါးစောင့်များကို ပြောလိုက်၏။ လုပ်စရာရှိသည်တို့ကို နောက်တစ်နေ့မှ လုပ်ရတော့မည်။ ထိုနေ့ညက နတ်ငှက်မယ်သည် သန်းခေါင်ကျမှ အိပ်ရာသို့ ဝင်လာ၏။ သို့ရာတွင် ထိုညကအကြောင်းကိုမူ ရေးရန် မလိုတော့ပြီ။

နောက်တစ်နေ့မနက်၌ ကျိလျံသည် ကျိရှဲနှင့်ကျိချိန်တို့ကို တွေ့ပြီးနောက် နိန်စံအိမ်ကြီးဘက်သို့ ထွက်ခွာလာခဲ့၏။ ပစ္စည်းထိန်းများ၊

မိတ်ဆွေများနှင့်အတူ ကျီလျှံသည် စံအိမ်ဝင်းနှစ်ဝင်းစလုံးကိုလျှောက်ကြည့်ကာ၊ ရွှေနန်းတော်ကြီးမှ အလည်ကြွလာမည့် မြောက်နန်းမတော်အတွက် ယာယီတဲနန်းများ ဆောက်လုပ်ရန် ပုံစံ ဆွဲခြင်း၊ လိုအပ်သည့် လက်သမားဦးရေကို ခန့်မှန်းခြင်း စသည်တို့ဖြင့် အလုပ်များလျက်ရှိ၏။

မကြာမီ လက်သမားများ၊ ပန်းရံဆရာများ ရောက်လာကြ၏။ ရွှေ၊ ငွေ၊ သံ၊ မြကြီး၊ အုတ်၊ သစ်သား၊ အုတ်ကြွပ်စသည့် ပစ္စည်းများလည်း အလျှိုအလျှို ရောက်လာကြ၏။ ပထမတွင် တံတိုင်းကြီးများနှင့် ပန်းပေါင်းနံ့သာ ဥယျာဉ်ထဲရှိ လေသာဆောင်များကို ဖြိုပစ်ရ၏။ သို့ဖြင့် ယွန်းစံအိမ်နှင့် နိုန်စံအိမ်ဝင်းကြီးနှစ်ခုသည် ဆက်မိသွားလေ၏။ အစေတော်များနေသည့် တန်းလျားများကိုလည်းဖျက်ပစ်ရ၏။

ယခင်က စံအိမ်ဝင်းနှစ်ဝင်းကြားတွင် လမ်းကြားကလေး တစ်ခုရှိခဲ့၏။ သို့ရာတွင် လမ်းကြားကလေးမှာ အများပိုင်လမ်း မဟုတ်ဘဲ ကိုယ်ပိုင်လမ်းဖြစ်သည့်အတွက် တံတိုင်းများကို ဖြိုလိုက်သည့်အခါတွင် ဝင်းနှစ်ဝင်းသည် တစပ်တည်းဖြစ်သွားလေ၏။

ပန်းပေါင်းနံ့သာဥယျာဉ် မြောက်ဘက်အစပ်ဆီမှ စမ်းချောင်းကလေးတစ်သွယ် စီးဆင်းလျက်သား ရှိသဖြင့် နောက်ထပ် စမ်းချောင်းဖောက်ရန် မလိုတော့ချေ။ သို့ရာတွင် ထိုနေရာ၌ သစ်ပင်များ၊ ကျောက်ပန်းပင်များ မရှိသည့်အတွက် ကျီရှဲနေသည့် ယွန်း စံအိမ်ကြီးမှ မူလဝါးပင်များ၊ သစ်ပင်ပန်းပင်များ၊ ကျောက်ပန်းပင်များ၊ လေသာဆောင်များနှင့် ကျောက်ဖြူလက်ရန်းများကို ရွှေ့ပြောင်းယူရ၏။ စံအိမ်ဝင်းကြီးနှစ်ဝင်း ကပ်လျက်ရှိသဖြင့် တစ်ဝင်းတည်းဖြစ်အောင် ပေါင်းရသည်မှာ များစွာ မခက်လှသည့်ပြင် လုပ်အားနှင့် စရိတ်စကလည်း သက်သာလှပေ၏။ တစ်ခုလုံးအနေဖြင့်ပြောရလျှင် နောက်ထပ် များများစားစား ထပ်မံဖြည့်စွက်စရာ သိပ်မရှိလှတော့ချေ။

ထိုအရာအားလုံးကို ဘိုးဘွားစဉ်ဆက် အမှုတော် ထမ်းခဲ့သည့် ရှူခင်းဥယျာဉ်မှူးကြီး ယေ့က ကြီးကြပ်ခြင်းဖြစ်လေ၏။

ကျီချိန်မှာ ထိုသို့သောလုပ်ငန်းမျိုးတွင် ဝါသနာ မပါလှသည့်အတွက် ကိစ္စအဝဝကို ကျီရှဲ၊ ကျီချိန်၊ ကျီလျှံ၊ လိုင်တ၊ လိုင်ရှန်၊ လိုင်





ချီရှောင်၊ ဝူဇင်တန်၊ ချန်ကွမ်းနှင့် ချန်ဂျီရှင်တို့ကိုလွှဲထား၏။ ဝင်းကြီးထဲတွင် လူလုပ် တောင်ကမူကလေးများ၊ ရေကန်များကို ပြုလုပ်၏။ ထိုနောက် လေသာဆောင်များ ဆောက်လုပ်စေ၏။ ဥယျာဉ်မှူး၏ ပုံစံအရ ဝါးပင်များနှင့် ပန်းပင်များကိုလည်း စိုက်ပျိုးရ၏။ ရွှေနန်းတော်ကြီးမှ ပြန်လာပြီးနောက် ကျီချိန်သည် ပြီးသမျှကို လိုက်လံစစ်ဆေးခြင်း၊ ကျီရှဲ စသူတို့နှင့် တိုင်ပင်ဆွေးနွေးခြင်း စသည်တို့ကိုလောက်သာ ပြုလုပ်လေတော့သည်။

ကျီရှဲကား အိမ်မှထိုင်၍ စီမံခန့်ခွဲလျက်ရှိ၏။ အသေးအဖွဲ့ဆုံးဖြတ်စရာကိစ္စရှိလျှင် ကျီချန်နှင့် အခြားသူများက သူ့ဆီသို့ လူလွှတ်၍သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း အကြောင်းကြား၍ ဆုံးဖြတ်ခိုင်းကြ၏။ ကျီရှဲကလည်း သူ့ ဆုံးဖြတ်ချက်များကို ကျီလျှံနှင့် လိုင်တတို့မှတစ်ဆင့် အကြောင်းကြား၏။

ကျီယွန်၏တာဝန်မှာ ရွှေခွက်၊ ငွေခွက်၊ ရွှေပန်းကန်၊ ငွေပန်းကန်များကို ကြီးကြပ်ရ၏။ ကျီကျန်းမှာ သဘင်သည်များကို ဝယ်ယူရန် ဆူချောင်သို့ ထွက်သွားခဲ့လေပြီ။ လိုင်တနှင့် အခြားသူတို့ကလက်သမားများကို ကြီးကြပ်ရပြီးလျှင် ဆောက်လုပ်ရေးကိစ္စများကို စီမံခန့်ခွဲရ၏။ ယာယီတဲနန်းများ ဆောက်လုပ်ကြပုံ၊ လှုပ်လှုပ်ရွရွ၊ ရုတ်ရုတ်သဲသဲရှိကြပုံတို့ကိုမူ အကျယ်ဖော်ပြခြင်းငှာ မတတ်နိုင်တော့ပြီ။

အလုပ်များလျက်ရှိခြင်းကြောင့် ကျီချိန်မှာလည်း သားဖြစ်သူ ပေါက်ယု၏ သင်ခန်းစာများ အကြောင်းကို မ မေး နိုင် တော့ သဖြင့် ပေါက်ယုမှာ အနေချောင်လျက်ရှိ၏။ လောလောဆယ်တွင် ပေါက်ယု စိတ်ညစ်လျက်ရှိသည့်အရာမှာ တစ်နေ့တခြား အခြေအနေ ဆိုးလျက်ရှိသည့် ကျင်ချွန်း၏ ကျန်းမာရေးပင်ဖြစ်၏။ ယနေ့မနက်၌ ပေါက်ယုသည် ကိုယ်လက်သန့်စင်၊ အဝတ်အစားလဲပြီးနောက် မယ်မယ်ကို ခွင့်ပန်ကာ ကျင်ချွန်းအား သွားကြည့်ဦးမည်ဟု စိတ်ကူးလျက်ရှိစဉ် သူငယ်တော် မင်ယန်းသည် အတွင်းတံခါးကြီးအနီးရှိ စတိုခန်း လိုက်ကာကြားမှ အတွင်းသို့လှမ်းကြည့်နေသည်ကို တွေ့ရလေ၏။ ပေါက်ယုသည် သူ့ထံသို့ ခပ်သုတ်သုတ် လျှောက်လာခဲ့လေ၏။

"ဟေ့ မင်ယန်း ဘာကြည့်နေတာလဲဟင်"

"သခင်လေး ကျင်ချွန်းရယ်ဗျ။ သေတော့မယ်ထင်တယ်"

ပေါက်ယုသည် ယိုင်တိယိုင်တိုင် ဖြစ်သွား၏။

"မနေ့က ငါတွေ့ခဲ့တော့ ရွှင်ရွှင်လန်းလန်းပဲကွ။ ဘာဖြစ်လို့ သေရမှာလဲ"

"ဒါတော့ ကျွန်တော်လဲမသိဘူး သခင်လေး။ သူ့အိမ်က အစေတော်ကြီးတစ်ယောက်က ပြောလိုက်တာပဲ"

ပေါက်ယုသည် မယ်မယ့်ကို ချက်ချင်းသွား၍ အကြောင်းကြားသည်တွင် မယ်မယ်ကလည်း စိတ်ချရသည့် လူယုံတော်များကို ထည့်၍ ပေါက်ယုကို လွှတ်လိုက်၏။

"ကဲ မိတ်ဆွေရောင်းရင်း ဝတ္တရားအရ သွားမေးချည်။ ဒါပေမယ့် ကြာကြာတော့ မနေနဲ့နော်"

ပေါက်ယုသည် အဝတ်အစားကို လျင်မြန်စွာလဲကာ ရထားအပြင်ခိုင်းရင်း ခေါက်တုံ့ခေါက်ပြန် လျှောက်လျက်ရှိ၏။ ရထားရောက်လာသည့်အခါတွင် အတင်းခုန်တက်ကာ ခပ်သော့သော့အမောင်းခိုင်းလိုက်၏။ လီကွေ့၊ မင်ယန်းနှင့် အခြားအစေတော်များလည်း လိုက်ပါလာကြလေ၏။

ကျင်ချွန်းတို့ အိမ်ဝင်းတံခါးတွင် လူသူစင်းရှင်းနေသည်ကိုတွေ့သည့်အခါ၌ ပေါက်ယုတို့ကစ်သိုက်သည် ညှော်ခန်းဆောင်ထဲသို့ ဝင်လာခဲ့ကြသည်တွင် ကျင်ချွန်း၏ဒေါ်နှစ်ယောက်နှင့် ဆွေမျိုးသားချင်းများမှာလည်း အံ့အားသင့်လျက်ရှိကြ၏။

ကျင်ချွန်းမှာ မကြာခဏ သတိလစ်လျက် ရှိသည့်အတွက်အသက်ထွက် ညင်သာစေရန် အိပ်စင်ပေါ်သို့ တင်ထားလေ၏။ ကျင်ချွန်း၏အဖြစ်ကို မြင်ရသည့်အခါ၌ ပေါက်ယု မချုပ်တည်းနိုင်တော့ပြီ။

လီကွေ့က





"မငိုနဲ့လေ သခင်လေး။ သခင်လေး ကျင်ချွန်း အခြေအနေတော်တော်ဆိုးနေတယ်။ အသက်ထွက် ညင်သာပါစေတော့ဆိုပြီး အိပ်စင်ပေါ်ကိုတောင် ရွှေ့ထားရပြီ။ သခင်လေးက ငိုနေမှာ လာငိုနေယင် လူမမာ ပိုဆိုးသွားမှာပေါ့"

ပေါက်ယုသည် မိမိကိုယ်ကို ချုပ်တည်းကာ ကျင်ချွန်းအနီးသို့ ကပ်လာခဲ့၏။ ခေါင်းအုံးကိုမှီ၍ လှဲနေသည့် ကျင်ချွန်း၏ မျက်နှာမှာ ဖယောင်းကဲ့သို့ ဖြူဖွေးလျက်ရှိ၏။ မျက်လုံးများကို မှိတ်ထားပြီး ပါးစပ်ဟလျက် အသက်ကို အနိုင်နိုင် ရှူနေရ၏။

ကျင်ချွန်းသည် နောက်ဆုံး ဝင်သက်တစ်ချက်ကို ရှိုက်၍ ရှူလိုက်၏။ သူ့ကိုယ်မှ ထွက်ခွာစ ပြုနေသော ဝိညာဉ်သည် ကျင်ချွန်းအား ဆွဲခေါ်ရန် ဆင့်စာ၊ ကြိုးခွေ စသည်တို့နှင့် ရောက်လာသော ယမမင်း၏ ငရဲသားများကို မြင်ရ၏။ ကျင်ချွန်း၏အဖေသည် သူ့အတွက် ငွေစင်ပိဿာ သုံးလေးဆယ်ခန့်ကို ချန်ထားခဲ့လေရာ ထိုဥစ္စာပစ္စည်းတို့ကို မည်သူ ထိန်းသိမ်းမည်နည်း၊ အိမ်မှုကိစ္စများကို မည်သူ စီမံခဲ့မည်နည်းဟု တွေးပူလျက်ရှိသဖြင့် ငရဲသားများ ဆွဲခေါ်ရာသို့ လိုက်ရန် ခန့်လေးလျက်ရှိ၏။ ထို့ပြင် ချစ်သူ ကျိနင်အကြောင်းကိုလည်း ကြားချင်သေး၏။ ကျင်ချွန်းက အနူးအညွတ် တောင်းပန်သည့်တိုင် ငရဲသားများကမူ အတင်းဆွဲခေါ်လျက် ရှိကြလေ၏။

"ဟေ့ မင်းလဲ စာတတ်ပေတတ်လူငယ် တစ်ယောက်ပဲကွ။ 'ငရဲမင်းက သင့်အား သန်းခေါင်ယံတွင် ဆင့်ခေါ်လျှင် မည်သူမျှ မိုးသောက်ယံ ထိအောင် မစောင့်ဆိုင်းရဲကြ' ဆိုတဲ့ စကားပုံကို မင်း ကြားဖူးတယ်မဟုတ်လား။ ငါတို့က မင်းတို့လို လူသားတွေလို မျက်နှာလိုက်တာတွေ၊ သနားတာတွေ မရှိဘူး၊ ဘယ်သူ့မျက်နှာကိုမှ မထောက်ဘူးဆိုတာ မင်း မသိဘူးလား" ဟု ငရဲသားများက လှောင်ပြောင်ကြ၏။

သူတို့က ထိုသို့ အော်ဟစ် ပြောဆိုနေသည့် ကြားမှ ကျင်ချွန်း၏ ဝိညာဉ်သည် ပေါက်ယု၏ ခေါ်သံကို ကြားလိုက်လေ၏။

"ငရဲသားကြီးများရယ်၊ ကျွန်တော့်ကို သနားပါဗျာ။ ကျွန်တော်တောင်းပန်ပါတယ်။ ကျွန်တော့်သူငယ်ချင်းနဲ့ စကားကလေးတစ်ခွန်းလောက်တော့ ပြောခဲ့ပါရစေ။ ပြီးတော့ ကျွန်တော် လိုက်ခဲ့ပါ့မယ်"

"ဘယ်က သူငယ်ချင်းလဲကွ" ဟု ငရဲသားများက မေးကြ၏။

"ယွန်းကူမြို့စားကြီးရဲ့ မြေးပါဗျာ။ သူ့နာမည်က ပေါက်ယုပါ"

ငရဲကြပ်ကြီးသည် တစ်ချက်မျှ စိတ်ပျက်လက်ပျက်ဖြင့် အော်လိုက်ပြီးနောက် ငရဲသားများအား

"ပြန်ချင်ယင် ခဏလောက် ပြန်သွားပါစေလို့ မင်းတို့ကို ငါပြောတယ် မဟုတ်လား။ မင်းတို့က လွှတ်မှမလွှတ်ဘဲကိုး။ ခုတော့ သူ့ဆီပ်ကပ်လိုက်တဲ့ ကော်ကောင်ကို ထုတ်လာပြီ၊ တို့ဘယ်နှယ်လုပ်မလဲ"

လန့်ဖျပ် ထိတ်လန့် တုန်လှုပ်လျက်ရှိသည့် ငရဲကြပ်ကြီးကို မြင်သည့်အခါတွင် ငရဲသားများက

"ငရဲကြပ်ကြီးကို ကြည့်ရတာ ဘာဖြစ်လို့ ဒီလောက်တောင်ထိတ်လန့် နေရတာလဲဗျာ။ ခင်ဗျားကို ကြည့်ရတာ ပေါက်ယုဆိုတဲ့ နာမည်ကို ကြားတာနဲ့ တော်တော်လေးလန့်သွားပုံရတယ်။ ကျုပ်တို့ငရဲသားတွေက လူကို ဘာဖြစ်လို့ ကြောက်ရမှာလဲ။ သူက ကျုပ်တို့ကို ဘာလုပ်နိုင်မှာ မို့လို့လဲ"

ငရဲကြပ်ကြီးက ကျိန်ဆဲလိုက်ပြီးလျှင်

"မင်းတို့အောင်တွေ ဘာမှ နားမလည်ပါဘူးကွာ။ 'ရှင်ဘုရင်၏ အမှုထမ်းတို့သည် နိုင်ငံတော်အတွင်းရှိ အရာအားလုံးကို စိုးပိုင်ကြ၏' ဆိုတဲ့ စကားပုံကို မင်းတို့ မကြားဖူးဘူးလား။ တို့ငရဲပြည်မှာလဲ အတူတူပဲပေါ့။ လူတွေမှာ စည်းရှိသလို တို့ငရဲတွေမှာလဲ စည်းရှိတာပေါ့။ ဒီတော့ ငါ့စကားကို နားထောင်ကြ။ သူ့ကိုခွင့်ပြုလိုက်လို့ တို့မှာဘာမှအန္တရာယ် မဖြစ်နိုင်ပါဘူး"

ထိုစကားကြောင့် ငရဲသားများသည် ကျင်ချွန်း၏လိပ်ပြာကို လူ့ပြည်သို့ ခဏ ပြန်လွှတ်လိုက်ကြ၏။





ပြောနေသည့် ကျင်ချွန်းသည် မှုိမဟ တစ်ချက်မျှ အော်လိုက်ပြီးနောက် မျက်လုံးကို ဖွင့်ကြည့်လိုက်သည်နှင့် အိပ်ရာအနီး၌ ပေါက်ယုကို တွေ့ရ၏။

"အစ်ကိုက စောစောစီးစီး လာခဲ့ရောပေါ့ဗျာ။ နည်းနည်းသာ နောက်ကျလာခဲ့ယင် ကျွန်တော့်ကို အစ်ကို မြင်ရတွေ့ရတော့မှာ မဟုတ်ဘူး" ဟု လေသံကလေးဖြင့် ပြောလေ၏။

ပေါက်ယုသည် မျက်ရည်တွေ စီးကျလျက်ရှိရာမှ ကျင်ချွန်း၏ လက်ကို ဆုပ်ကိုင်ကာ

"ဘာပြောချင်သေးသလဲ ကျင်ချွန်းဟင်" ဟု မေးလေ၏။

"အစ်ကိုနဲ့ ကျွန်တော်တို့ စတွေ့ကြတုန်းက ကျွန်တော်တို့ဟာ သာမန်လူတွေထက် သာတယ်လို့ ကိုယ့်ကိုယ်ကို ထင်ခဲ့ကြတယ်နော်။ ကျွန်တော်တို့အတွေး ဘယ်လောက် မှားခဲ့ကြတယ်ဆိုတာ ခုမှပဲ ကျွန်တော် သိတော့တယ်။ အစ်ကို ရွှေနန်းတော် စာပြန်ပွဲတွေမှာ ဂုဏ်ထူးနဲ့အောင်အောင် ကြိုးစားနော်။ ပြီးတော့ အနာဂတ်မှာ...."

ထိုသို့ ပြောဆိုလျက်ရှိရာမှ ကျင်ချွန်းသည် သက်ပြင်းကြီး တစ်ချက်ချလိုက်ကာ နောက်ဆုံးထွက်သက်ကို မှုတ်ထုတ်လိုက်လေ၏။

မည်သို့ဖြစ်သည်ကို သိလိုမူ နောက်တစ်ခန်းကို ဖတ်ပါလေ။

မြသန်းတင်

# နှင်းဆောင်နီအိပ်မက်

# A DREAM OF RED MANSIONS

TSAO HSUEH CHIN & KAO NGO

(ပထမတွဲ)



PDF CREATOR - NYEYADHAMMA@GMAIL.COM